၂၁၄၈၆

ပခုက္ကူမြို့ရှိ ဘုရားသမိုင်း,ကျောင်းတိုက်ကြီးများသမိုင်း

ပခုက္ကူမှ သာသနာ့ဝန်ဆောင် ဆရာတော်ဘုရားကြီးတို့၏

အဖြစ်တော်စဉ် စသည်တို့ဖြင့်

တန်ဆာဆင်အပ်သော

# ပခုက္ကူသာသနာဝင်

ပခုက္ကူမြို့

သီဟိုဠ်ရှင်ဘုရားကြီးဂေါပကအဖွဲ့ကြီး၏ဥက္ကဋ္ဌ

ဆရာကလေး ဦးသိုက်ထွန်း ၏ လျှောက်ထားတောင်းပန်ချက်အရ

အရှင်ကေလာသ ဘီ·အေ ဂုဏ်ထူး (သီဟိုဠ်)

သာသနဓဇသိရီပဝရဓမ္မာစရိယ,ဂဏဝါစက,

ရေးသားစီရင်သည်။

သာသနာ ၂၅၁၁ ကောဇာ ၁၃၂၉ ဒီဇင်ဘာလ ၁၉၆၇



ပခုက္ကူသာသနာဝင်ကျမ်း ပြုစုသော

အရှင်ကေလာသ, ဓမ္မာစရိယ, ဂဏဝါစက, ဘီ၊ အေ။

# ဤစာအုပ်အမှာ

---

"ဘဝတု သဗ္ဗမင်္ဂလံ"

အရှင်ကေလာသ ရေးသော **ပခုက္ကူသာသနာဝင်ကျမ်းသည်** သာသနာရေးနှင့်စပ်၍ စိတ်ဝင်စားဘွယ်ရာ, ကြည်ညိုဘွယ်ရာကောင်းသော ကျမ်း ဖြစ်ပါသည်၊ ပခုက္ကူခရိုင်၏ ရှေးခေတ် သာသနာ့အခြေအနေနှင့် နှောင်းခေတ် သာသနာ့အခြေအနေတို့ကို ဤကျမ်း၌ ဖတ်ရှုနိုင်သည်ဖြစ်ရာ အဖိုးမဖြတ်နိုင်သော စာအုပ်ဖြစ်ကြောင်း ဖော်ပြလိုပါသည်၊ ဤစာအုပ်သာ မပေါ်ထွက်ခဲ့ပါလျှင် ပခုက္ကူနယ်မြေမှ မွေးဖွားကြီးပြင်းခဲ့သော သာသနာပိုင်ဆရာတော်များ, ဂိုဏ်းဦးစီးဆရာတော်များ, ရာဇဂုရုဘွဲ့ရဆရာတော်များနှင့် ပခုက္ကူခရိုင်ရှိ သာသနာ့အခြေအနေမှန်ကို သိရန် လွယ်ကူမည်မဟုတ်ပါ၊ ငယ်စဉ်က ပခုက္ကူ မဟာဝိသုတာရာမတိုက်၌ ၁၅-နှစ်ခန့် ပညာဆည်းပူးခွင့် ရရှိခဲ့သည့် ကျွန်ုပ်တို့သည် ဤ **ပခုက္ကူသာသနာဝင်** ကျမ်းကို ဖတ်ခွင့်ရသောအခါ ငယ်စဉ်က ပခုက္ကူ သာသနာရေးဆိုင်ရာ လုပ်ငန်းများမှာ အသစ် အသစ်ကဲ့သို့ ပြန်၍ ပေါ်ပေါက်လာသဖြင့် စိတ်ကြည်နူးမိလှပါသည်။

**ရေးသားပုံ အစီအစဉ်**

ကျမ်းရေးသားပုံအစီအစဉ်မှာလည်း အချိုးကျလှသည်၊ **ကျမ်းဦးမှတ်ဖွယ်**ဖြင့် ကမ္ဘာ့သာသနာဝင်, ကမ္ဘာ့သာသနဝံသဂန္ထဝင် ကိုလည်း အကျဉ်းချုပ်၍ ဖော်ပြထားပါသည်၊ ကျမ်းဦးမှတ်ဖွယ်ဖြင့် ကျမ်းပြုသူ အရှင်ကေလာသ၏ ကမ္ဘာ့သာသနဗဟုသုတနှင့် စာပေဗဟုသုတ အရည်အသွေးတို့ကိုလည်း မှန်းဆနိုင်ပါသည်၊ အရှင် ကေလာသသည် ဤပခုက္ကူသာသနာဝင်ကျမ်း၌ မဇ္ဈိမသာသနာဝင်ကို မဖော်ပြခဲ့၊ အခြားသော သာသနာဝင်ကျမ်းတိုင်း၌ ပါပြီးဖြစ်၍ ဤကျမ်း၌ မဖော်ပြတော့ကြောင်း အရှင်ကေလာသ-က အမိန့်ရှိပါသည်။

**အရှင်ကေလာသ ကြိုးပမ်းချက်**

ဤကျမ်း၌ လိုနေသေးသော အချက်တခုမှာ— ပခုက္ကူသား ဓမ္မာစရိယ, ဂဏဝါစက, ဆဋ္ဌသံဂါယနာ ဩဿာနသောဓက, ကျမ်းညွှန်း အရှင်ကေလာသ (**ဘီ-အေ-ဂုဏ်**)၏ အကြောင်းအတ္ထုပ္ပတ္တိ ဖြစ်ပါသည်၊ ၎င်းအရှင်လည်း ပခုက္ကူ **သား** ပခုက္ကူ၌ ပညာသင်၍ ပခုက္ကူ၌ပင် **သာသနာ**ပြုနေဆဲ ဖြစ်ပါ**သည်**၊ သို့သော်

အရှင့်အကြောင်းကို အရှင်ရေးသားရန် ခဲယဉ်းနေပုံရဟန် တူပါသည်၊ သို့ဖြစ်၍ ကျွန်ုပ်တို့ကပင် အရှင် ကေလာသ၏အကြောင်းကို **ဤစာအုပ်အမှာ၌** ရေးသား လိုပါသည်။

**အရှင်ကေလာသ**သည် ပခုက္ကူ ခရိုင် **ကန်ရပ်ရွာမှ အဘ ဦးဘရှန်** – အမိ-**ဒေါ်လှပို**တို့မှ မွေးဖွားခဲ့၍ ကန်တိမ်ရွာ **ဒေါ်စိန်ခ** သားသမီးတစုတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဖြစ်ခဲ့သည်၊ အသက် ၇-နှစ်သားအရွယ်က အစိုးရမူလတန်း ကျောင်း၌ ၄-တန်းအထိ ပညာသင်ကြားခဲ့သည်၊ ၁၃-နှစ်သားတွင် ရှင်သာမဏေဝတ်ခဲ့သည်၊ အသက် ၁၅-နှစ်မှာ ပခုက္ကူ မဟာဝိသုတာရာမတိုက်သို့ရောက်၍ အဘိဓဇမဟာရဋ္ဌဂုရု **အရှင်သုန္ဒရ ဆရာတော်ဘုရားကြီး**နှင့် တိုက်အုပ်ဆရာတော် **အရှင်နန္ဒိယ** တို့ထံ၌ ပညာသင်ကြားခဲ့ပါသည်၊ အရှင်နန္ဒိယထံ၌ အသက် ၁၇-မှစ၍ ရဟန်းဝါ ၃-ဝါအထိ ဝိနည်းပိဋကတ်နှင့် ဒီဃနိကာယ်ကို ဆိုဝါဖြင့် သင်ယူခဲ့ပါသည်၊ စာဆိုရင်း အချိန်ပိုကာလများမှာ စာမေးပွဲဖြေဆိုခဲ့ရသေးရာ ရဟန်းဝါ ၂-ဝါအရ ၁၃၁၅-ခုနှစ်က "သာသနဓဇသိရိပဝရဓမ္မာစရိယ" ဘွဲ့ကို ရရှိခဲ့ပါသည်၊ အရှင်ကေလာသသည် မန္တလေးမြို့ ဘုရားကြီးတိုက် ဒမရပူရကျောင်း ဆရာတော် အရှင် ဥက္ကံသာဘိဝံသ ထံ၌လည်း ၂-နှစ်ကြာမျှ ပညာဆည်းပူးခဲ့ပါ သေးသည်၊ ဆဋ္ဌသံဂါယနာ၌ ဆဋ္ဌသံဂီတိကာရက, ဆဋ္ဌသံဂီတိဘာဏက, ပဋိဝိသောဓက, ဩသာနသောဓက, ကျမ်းညွှန်း ဩသာနသောဓက တာဝန်တို့ကို လည်း ကမ္ဘာအေး ဇမ္ဗုဒီပကျောင်းဆောင်၌ ၅-နှစ်တိုင်တိုင် ဝါဆို၍ ဆောင်ရွက် ခဲ့ပါသည်၊ ဤဆဋ္ဌသံဂါယနာ၌ ကျမ်းညွှန်း ဩသာနသောဓက တာဝန်ကား ပိဋကတ်ကျမ်းစုံ ကုန်စင်အောင်နှံ့ပါမှသာ ဆောင်ရွက်နိုင်စွမ်း ရှိကြောင်းမှာ ကျွန်ုပ်တို့ ကိုယ်တွေ့မျက်မြင် ဖြစ်ပါသည်။

### ယိုးဒယားနိုင်ငံသို့

အရှင် ကေလာသသည် အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ ဆရာတော် ဘုရားကြီး, အဂ္ဂမဟာပဏ္ဍိတ ဟံသာဝတီဆရာတော်, အဂ္ဂမဟာပဏ္ဍိတ ဝိဇ္ဇာလင်္ကာရဆရာတော် ဦးဝိသုဒ္ဓတို့နှင့် အတူ ၁၃၁၉-ခုနှစ်က ယိုးဒယားနိုင်ငံသို့ လိုက်ပါ၍ သာသနာ့ကိစ္စများ လေ့လာခဲ့သည်ကို တွေ့ရပါသည်။

### ဣန္ဒိယနိုင်ငံ, နီပေါနိုင်ငံ-သို့

အရှင်ကေလာသသည် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဝိသုဒ္ဓနှင့်အတူ ဣန္ဒိယ နိုင်ငံ အနှံ့အပြား ဘုရားရှင်၏ သံဝေဇနီယဋ္ဌာနများသို့လည်း သွားရောက်ခဲ့၍ နီပေါနိုင်ငံတွင်းရှိ လုမ္ဗိနီဥယျာဉ်သို့လည်း ရောက်ရှိခဲ့ကြောင်း သိရပါသည်။

### သီဟိုဠ်နိုင်ငံသို့

အရှင် ကေလာသသည် သီဟိုဠ်နိုင်ငံသို့ ဆက်လက်ကြွရောက်ကာ သက္ကတ-ဘာသာ, ပြာကရိတ်ဘာသာ, သီဟိုဠ်ဘာသာ, အင်္ဂလိပ်ဘာသာ တို့ကိုလည်း လေ့လာသင်ယူနေစဉ် သီဟိုဠ်အစိုးရ၏ အထောက်အပံ့ဖြင့် ဝိဇ္ဇောဒယတက္ကသိုလ်၌ ပညာသင်ကြားခွင့် ရခဲ့သည်၊ ဘီ-အေဂုဏ်ထူးတန်းကို ဒုတိယအဆင့်ဖြင့် အောင်မြင်ခဲ့သည်၊ အရှင်ကေလာသ သီဟိုဠ်နိုင်ငံသို့ ကြွရောက်ပညာသင်ကြားရာ၌ မြန်မာနိုင်ငံမှ ထောက်ပံ့ကြသူများတွင် ကျွန်ုပ်တို့လည်း ပါဝင်လှူဒါန်းခွင့် ရခဲ့ပါသေးသည်။

### ကျမ်းပြုခြင်း

၁၃၂၈-ခုနှစ်က ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်သို့ ပြန်ရောက်၍ ဂဏဝါစကတာဝန်ကိုထမ်းဆောင်နေစဉ် ဤ ပခုက္ကူသာသနာဝင်ကျမ်းကို ရေးသားခဲ့သည်၊ အရှင်ကေလာသ ရဟန်း ၆-ဝါအရမှာ မွေးဖွားရာ ဇာတိဖြစ်သည့် ကန်ရပ်ရွာ၌ ရှိခဲ့ဘူးသော **သင်္ဂဟဘာဏကအသင်း** သားများနှင့် ရပ်ရွာလူကြီးတို့၏ တောင်းပန်မှုကြောင့် **အဘိဓမ္မာဂုဏ်ရည်ကျမ်း**ကို ရေးသားခဲ့ဘူးပါသေးသည်။

မမံ သင်္ဂမ္မ ယာစန္တိ၊ ပူဂိကာ ဂါမဇေဠကာ။
ဂဟေတွာ ယာစနံ သေံ၊ ကဿံ ဂုဏသာရံ အဟံ။

**(အဘိဓမ္မာဂုဏ်ရည် ကျမ်းဦး)**

အရှင် ကေလာသ သည် ရဟန်း ၁၁-ဝါအရမှာ အဋ္ဌကထာ, ဋီကာ-လာ **အတ္ထုဒ္ဓါရ**ပုဒ်ပေါင်း ၂၅၈-ပုဒ်ကို ကျမ်းညွှန်းဖော်ပြ၍ ကျမ်းပေါင်း ၇၀-ကျော်တို့မှ ထုတ်နုတ်ရေးသားခဲ့သည်ကို ကျွန်ုပ်တို့ပင် စာအုပ်အဖြစ်သို့ရောက်အောင် ဆောင်ရွက်ပေးခဲ့ရပါသည်၊ ၎င်းကျမ်း၏နိဂုံး၌ တွေ့ရသည်မှာ—

" သင်္ဂဟာ ဝဏ္ဏနာယော စ၊ အာလောဠေတွာ ဟိတာဝဟာ။
ဒီပိတာ ပဒသံဃာတာ၊ ဗဟွတ္ထာ သာရုပတ္ထိတာ"—

စသည် ဖြစ်ပါသည်။

### ရထား, သင်္ဘော အခမဲ့

အရှင်ကေလာသသည် ရဟန်းသိက္ခာ ၉-ဝါအရမှာ ဆဋ္ဌသံဂါယနာ၌ ထူးချွန်စွာ ဆောင်ရွက်သူတို့တွင် တပါးအပါအဝင် ဖြစ်သောကြောင့် နိုင်ငံတော်အစိုးရတို့ လှူဒါန်းသော တပည့်တဦးနှင့်အတူ မီးရထား မီးသင်္ဘော အထက်တန်း၌ စီးနင်းခွင့် လက်မှတ်ကိုလည်း အလှူခံရရှိခဲ့သည်။

## ဆန္ဒပြုချက်

ဤသို့ဖြင့် အရှင်ကေလာသ၏ ကြိုးပမ်းချက်များကို သိသမျှသာ ဖော်ပြရပေသည်၊ ကြည်ညိုစရာ, သံဝေဂဖြစ်စရာတို့ဖြင့် အပြည့်အဝ ရှိသော ဤ "ပခုက္ကူ သာသနာဝင်ကျမ်း"ကို ကြည့်ရှုလေ့လာ၍ ကုသိုလ်တရား ပွါးများနိုင်ကြပါစေ။

"မင်္ဂလာပါ ခင်ဗျား"

**မင်္ဂလာ အောင်မြင့်**
ဗုဒ္ဓဓမ္မလောကစာစောင် အယ်ဒီတာ
၁၃၂၉-ခု၊ တန်ဆောင်မုန်းလဆန်း ၂-ရက်နေ့။

ပခုက္ကူ သာသနာဝင်

# မာတိကာ

---

အကြောင်းအရာများ　　　　စာမျက်နှာနံပါတ်

မာတိကာ

ပဒုက္ကူ သာသနာဝင်

# ကျမ်းဦးမှတ်ဖွယ်

---

## မြားမြောက်စွာသော သာသနာဝင်ကျမ်း

သဗ္ဗညုမြတ်စွာဘုရား ပွင့်ထွန်းတော်မူသည်မှ စ၍ သာသနာသက္ကရာဇ် ၂၅၀၀-ကျော်အတွင်း ရာပေါင်းများစွာသော သာသနာဝင်ကျမ်းတို့ ပေါ်ထွက်ခဲ့သည်၊ ၎င်းတို့ကား ဇမ္ဗူဒိပ်နိုင်ငံ သာသနာထွန်းကားစဉ်က ပေါ်ပေါက်ခဲ့သော သာသနာဝင်ကျမ်းများနှင့် သီဟိုဠ်သာသနာဝင်ကျမ်း, မြန်မာသာသနာဝင်ကျမ်း, ယိုးဒယားသာသနာဝင်ကျမ်း, ကမ္ဘောဒီးယားသာသနာဝင်ကျမ်း, လာအိုစ်သာသနာဝင်ကျမ်း, တိဗက်သာသနာဝင်ကျမ်း, တရုပ်သာသနာဝင်ကျမ်း စသည်တို့ ဖြစ်ကြသည်။

## အစဆုံး သာသနာဝင်ကျမ်း

'သာသနာဝင်နှင့်စပ်၍ ဝိနယပိဋကမဟာဝဂ္ဂပါဠိ မဟာခန္ဓက စသည်တွင် အမြွက်မျှ တွေ့မြင်နိုင်သည်၊ ဖော်ပြပါ မဟာခန္ဓကဌ် ပဋိစ္စသမုပ္ပါဒ်ဒေသနာတော်ကို ဆင်ခြင်ပုံမှစ၍ ကိုယ်တော်မြတ်၏ သာသနာစတင်ပုံကို ဖော်ပြလျက်ရှိသဖြင့် သာသနာဝင်အကျဉ်းချုပ်ဟု' ခေါ်ထိုက်လေသည်၊ ၎င်းပြင် စူဠဝါ ပဥ္စသတိကက္ခန္ဓကဌ် ဘုရားရှင် ရွှေပြည်နိဗ္ဗာန် ဝင်စံတော်မူပြီးနောက် ရဟန္တာ ၅၀၀-တို့ ပေါင်းစုရွတ်ကာ သံဂါယနာတင်ပုံ စသည်ကို ဖော်ပြထား၍ သတ္တသတိကက္ခန္ဓကဌ် ဘုရားရှင် နိဗ္ဗာန်ဝင်စံ၍ အနှစ် ၁၀၀-ကျော်တွင် ရဟန္တာအရှင်မြတ် ၇၀၀-တို့ ဒုတိယသံဂါယနာတင်ပုံ စသည့် သာသနာဝင်ကို ဖော်ပြထားလေသည်၊ ထို့ကြောင့် ဝိနည်း မဟာဝါ မဟာခန္ဓကနှင့် စူဠဝါ ပဥ္စသတိကက္ခန္ဓက, သတ္တသတိကက္ခန္ဓကတို့သည် သာသနာဝင်ကဏ္ဍများဟု ဆိုသင့်လေသည်။

## ဒီပဝံသကျမ်း

ဒီပဝံသခေါ် သီဟိုဠ်သာသနာဝင်ကျမ်းသည်လည်း အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာကျမ်းသစ်များ မပေါ်မီ ရှေးက ပေါ်နှင့်သော သီဟိုဠ်သာသနာဝင်ကျမ်း ဖြစ်လေသည်၊ အပိုင်း ၂၂-ပိုင်းတို့ဖြင့် တန်ဆာဆင်လျက် ရေးသား၍ထားခဲ့ရာ မြတ်စွာဘုရား သီဟိုဠ်ကျွန်းသို့ ၃-ကြိမ် ကြွရောက်ပုံ, သာရီရိကဓာတ်တော်, မွေတော်, ဗောဓိပင်တို့ ကြွရောက်ပုံ, ထေရဝါဒသာသနာ သီဟိုဠ်သို့ရောက်ပုံ စသည်တို့ကို ဖော်ပြထားလေသည်။ အဋ္ဌကထာဆရာ၏ ဒီပဝံသ

ကျမ်းမှ သာဓကမှုချက်တို့ကို ပါရာဇိကဏ် အဋ္ဌကထာ ဗာဟိရနိဒါန်းနှင့် ကထာဝတ္ထု အဋ္ဌကထာနိဒါန်း စသည်တို့၌ တွေ့ရှိနိုင်လေသည်၊ ၎င်းဒီပဝံသကျမ်းကို အင်္ဂလိပ်ဘာသာ, သီဟိုဠ်ဘာသာ, မြန်မာဘာသာ စသည်တို့ဖြင့်လည်း ပြန်ဆိုထားလျက်ရှိသည်။

### ဒီပဝံသဋီကာ

သီဟိုဠ်သာသနာဝင် ဒီပဝံသကျမ်း၏ အဖွင့် သံဝဏ္ဏနာဖြစ်သည့် ဒီပဝံသဋီကာကျမ်းကို မန္တလေးမြို့ ဒက္ခိဏာရာမာဓိပတိ ပဌမသံဂါယနာ သံဃမဟာနာယက တိပိဋကဓရ ဇာဂရာဘိဝံသထေရ် ရေးသားစီရင်ခဲ့လေသည်။

### ဒီပဝံသဒုတိယပိုင်း

သီဟိုဠ်ကျွန်း မဟာသေနမင်းလက်ထက် သာသနာသက္ကရာဇ် ၈၁၉-မှစ၍ သာသနာသက္ကရာဇ် ၂၄၈၀-တိုင်အောင် သာသနာဝင်ကို ရာဇဝင်ရောနှော လျက် သီဟိုဠ်ကျွန်း ဝယ်လိတရရွာ အမ္ဗရုက္ခာရာမကျောင်းတိုက် အဓိပတိ ပဏ္ဍိတ် ဝိမလကိတ္တိထေရ် ရေးသားစီရင်ခဲ့ရာ အပိုင်း ၃၆-ပိုင်း ရှိလေသည်။

### ပါရာဇိကဏ်အဋ္ဌကထာ ဗာဟိရနိဒါနကထာ

ပါရာဇိကဏ်အဋ္ဌကထာ ဗာဟိရနိဒါနကထာ၌ ပဌမသံဂါယနာ, ဒုတိယသံဂါယနာ, တတိယသံဂါယနာတင်ပုံကို အကျယ်ပြဆိုရုံမျှမက ကိုးတိုင်း ကိုးဌာန သာသနာပြု စေလွှတ်ပုံကိုလည်း ဖော်ပြထားရာ အဖိုးတန် သာသနဝံသကထာပင် ဖြစ်လေသည်။

### မဟာဝံသကျမ်း

မဟာဝံသကျမ်းသည် ရာဇဝင်နှင့်တကွ သာသနာဝင်ကို ဖော်ပြထားသော အဖိုးတန် ရာဇဝင်ကျမ်း ဖြစ်လေသည်၊ သီဟိုဠ်ကျွန်း ရှေးရိုက် မဟာဝံသမူ၌ ၁၀၁-ပိုင်းရှိ၍ နောက်ရိုက် မဟာဝံသမူ၌ ၉၉-ပိုင်း ရှိလေသည်၊ မဟာထေရ်လေးပါးတို့ ဆက်ကာဆက်ကာ ရေးသားထားသည့် ရာဇဝင် သာသနာဝင်ကျမ်းဖြစ်ရာ ဂါထာပေါင်း ၉၂၅၀-ကျော် ပါဝင်လေသည်၊ သာသနာသက္ကရာဇ် ၁-မှစ၍ သာသနာသက္ကရာဇ် ၂၃၄၀-အထိ သီရိဝိက္ကမရာဇသိံဟမင်းလက်ထက်တိုင်အောင် သာသနာဝင် ရာဇဝင်တို့ ပါဝင်သည်၊ ၎င်းကျမ်းကို ပါမောက္ခဂိုက်ဂါးသည် အင်္ဂလိပ်ဘာသာ ပြန်ခဲ့သည်၊ မြန်မာဘာသာသို့လည်း ကျီးသဲလေးထပ်ဆရာတော် အပိုင်း ၃၇-ပိုင်းအထိ ပြန်ခဲ့သည်၊ ၎င်းကျမ်းကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ လျှောက်ထားချက်အရ သီဟိုဠ်ပါဠိမှ မြန်မာ

ပါဠိသို့ ရေးကူးကာ စာရေးသူပင်ဦးစီး၍ ပြင်ဆင်ခဲ့သည်။ (သိစရာအကျယ် . မဟာဝံသနိဒါန်း ရှု။)

## မဟာဝံသပစ္ဆိမပိုင်း

သာသနာသက္ကရာဇ် ၂၃၄၀-မှ သာသနာသက္ကရာဇ် ၂၄၇၉-အထိ ယဂိရလ-ပညာနန္ဒထေရ် ဆက်လက်ရေးသားခဲ့ရာ အပိုင်းပေါင်း ၂၁-ပိုင်းရှိ၍ ဂါထာပေါင်း ၉၇၁-ရှိလေသည်။

## မဟာဝံသဋီကာ

မဟာဝံသကျမ်း ရှေ့ပိုင်း ၃၇-ပိုင်းကို ဖွင့်ဆိုထားသည့် မဟာဝံသဋီကာကျမ်းလည်း ရှိခဲ့သည်၊ ဝံသဋ္ဌပကာသိနီ-ဟု အမည်မှည့်၍ သီဟိုဠ်ကျွန်း၌ရိုက်နှိပ်ခဲ့ရာ ရှုိင်ဆိုက် စာမျက်နှာ ၅၀၄-မျက်နှာရှိလေသည်၊ အင်္ဂလိပ်အက္ခရာဖြင့်လည်း လန်ဒန်ပါဠိအသင်းမှ ရိုက်နှိပ်ရာ ၂-တွဲရှိလေသည်။

## မဟာဝံသဂဏ္ဌိကျမ်း

မဟာဝံသ သာသနာဝင်ကျမ်းကြီး၏ ခက်ရာခက်ဆစ်တို့ကို ရှင်းလင်းကာ ပါဠိဘာသာဖြင့် ရေးသားထားသည့် မဟာဝံသဂဏ္ဌိကျမ်းကြီးရှိခဲ့ရာ သီဟိုဠ်ကျွန်း စာပေသမားတို့၏ အဖိုးတန် အမွေအနှစ်ဟု ဆိုထိုက်လေသည်။

## ကမ္ဘောဇမဟာဝံသကျမ်း

ကမ္ဘောဇနိုင်ငံမှ ရသဖြင့် ကမ္ဘောဇမဟာဝံသဟု အမည်တွင်သော မဟာ-ဝံသကျမ်းလည်း ရှိသေးသည်၊ ဂါထာပေါင်း ၅၇၇၂-ဂါထာရှိ၍ လန်ဒန်မှ အင်္ဂလိပ်အက္ခရာဖြင့် ရိုက်နှိပ်ထားရာ ( EXTENDED MAHĀVANSA ) ဟု နာမည်မှည့်ထားသည်။

## ဥတ္တရဝိဟာရဝံသအဋ္ဌကထာကျမ်း

မဟာဝံသကျမ်းကြီးသည် မဟာဝိဟာရဝါသီ ဂိုဏ်းဝင်ထေရ်တို့၏ ပဓာန လက်ကိုင် သမိုင်းကျမ်းဖြစ်သကဲ့သို့ အဘယဂိရိဝါသီဂိုဏ်းသား ရဟန်းတို့၏ သာသနာဝင် သမိုင်းကျမ်းသည် ဥတ္တရဝိဟာရဝံသအဋ္ဌကထာကျမ်း ဖြစ်လေသည်၊ ၎င်းဥတ္တရဝိဟာရဝံသအဋ္ဌကထာကျမ်း၌ မဟာဝံသကျမ်းလာ အချက်အလက်များနှင့် တူညီသော အချက်အလက်တို့ ရှိသော်လည်း တချို့ နေရာ၌ ကွဲလွဲချက်တို့ကို တွေ့ရှိနိုင်သည်။

**ဝံသကထာ ကျမ်းများစွာ**

ပါဠိစာပေသမိုင်းနှင့် သက္ကတစာပေသမိုင်း, သီဟိုဠ်စာပေသမိုင်း, ကမ္ဘာ့စာပေသမိုင်းကို ကြည့်ရှုလေ့လာလျှင် ဒီပဝင်, မဟာဝင်-စသည်တို့မှ တပါး ဝံသကထာကျမ်းများစွာကို တွေ့ရှိနိုင်သည်၊ ဗုဒ္ဓဝံသပါဠိ ဘုရားဟော, ဗုဒ္ဓဝံသ-အဋ္ဌကထာ အရှင်ဗုဒ္ဓဒတ္တထေရ်ရေး, မဟာဗောဓိဝံသပါဠိ (ဒါဌာနာဂထေရ် တောင်းပန်သဖြင့် ဥပတိဿထေရ် ရေးသည်ဟု ဆိုကြသည်၊), မဟာဗောဓိဝံသ ဋီကာ ပေါင်လောင်အရှင်ကဿပရေး, မဟာဗောဓိဝံသဂဏ္ဌိ သီဟိုဠ်ကျွန်း ဂုရုဠု-ဂေါမိန်ဆရာရေး, ထူပဝံသကျမ်း ဝါစိဿရထေရ်ရေး, ဒါဌာဝံသကျမ်း ဂါထာ ၄၁၅-ရှိ ဓမ္မကိတ္တိထေရ်ရေး, ဆကေသဓာတုဝင်ကျမ်း လန်ဒန်ပါဠိအသင်း ခရစ်သက္ကရာဇ် ၁၈၈၅-တွင် ရိုက်နှိပ်သည်။

**နလာဋဓာတုဝင်ကျမ်း**

နလာဋဓာတုဝင်ကျမ်းသည် ဘုရားရှင်၏ အသမ္ဘိန္နဓာတ် နဖူးသင်းကျစ်တော်သမိုင်းကျမ်း ဖြစ်သည်၊ ကျမ်းဦးအစ ဂန္ထာရမ္ဘ-၌—

သမ္ဗုဒ္ဓမတုလံ သုဒ္ဓံ၊ ဓမ္မံ သံဃံ အနုတ္တရံ။
နမဿိတွာ ပဝက္ခာမိ၊ ဓာတုဝံသပကာသနံ။

စသည် ပါရှိလေသည်။

**ဟတ္ထဝနဂလ္လဝိဟာရဝံသကျမ်း**

၎င်းကျမ်းသည် သီဟိုဠ်ကျွန်း အတ္တနဂလုကျောင်းတိုက်သမိုင်း ပါဠိကျမ်း ဖြစ်သည်၊ ဂါထာအရေးအသား လွန်စွာပြောင်မြောက်သဖြင့် သီဟိုဠ်ပါဠိစာပေသမားတို့ နှစ်သက်မြတ်နိုးကြသည်။

**သဒ္ဓမ္မသင်္ဂဟကျမ်း**

သဒ္ဓမ္မသင်္ဂဟကျမ်းသည်လည်း သာသနာဝင်ကျမ်း သာသနသမိုင်းကျမ်း ဖြစ်သည်၊ သံဂါယနာသုံးတန်နှင့် သီဟိုဠ်ကျွန်း မလယဇနပုဒ် (ယခုအခေါ် မာတလေ့) အာလောကလိုဏ် ပေါတ္ထကာရုဋ္ဌသံဂါယနာနှင့် အဋ္ဌကထာသမိုင်း, ဋီကာသမိုင်းတို့ကို အကျယ်ဖော်ပြထားသည်၊ ကျမ်းပြုပုဂ္ဂိုလ်မှာ သီဟိုဠ်ကျွန်း ဓမ္မကိတ္တိမဟာထေရ် ဖြစ်သည်။

**ဇိနကာလမာလီကျမ်း**

ဇိနကာလမာလီကျမ်းသည် ယိုးဒယားသာသနသမိုင်းပြ သာသနာဝင်ကျမ်း ဖြစ်သည်၊ သီဟိုဠ်ကျွန်း၌ ရိုက်နှိပ်ခဲ့ရာ ရှိုင်ဆိုက် စာမျက်နှာ ၁၀၆-ရှိလေသည်၊

ကျမ်းရေးသူမှာ သာသနာသက္ကရာဇ် ၂၀၆၀-လောက်တွင် ယိုးဒယားနိုင်ငံ၌ ထင်ရှားသော ရတနပညမဟာထေရ် ဖြစ်လေသည်။

**သာသနဝံသပဒီပိကာကျမ်း**

သာသနဝံသပဒီပိကာကျမ်းသည် အင်္ဂလိပ်အက္ခရာ, သီဟိုဠ်အက္ခရာတို့ဖြင့်လည်း ပါဠိကျမ်းစာအဖြစ် တည်ရှိနေသည်သာမက အင်္ဂလိပ်ဘာသာ, သီဟိုဠ်ဘာသာစသည်တို့ဖြင့်လည်း ထင်ရှားသဖြင့် ကမ္ဘာကသိသောကျမ်းစာဖြစ်သည်၊ သံဂါယနာအကြောင်းများနှင့် သီဟိုဠ်သာသနာဝင်, မြန်မာသာသနာဝင်တို့ကို ဖော်ပြထားသည်သာမက ဂန္ထဝင်များလည်း ပါရှိသည်၊ ၎င်းကျမ်းကို မောင်းထောင်ဆရာတော် အရှင်ပညာသာမိထေရ် ရေးသားစီရင်သည်။

**သာသနဝံသဒီပကျမ်း**

၎င်းကျမ်းသည် ဂါထာပေါင်း ၁၆၆၀-တို့ဖြင့် သီဟိုဠ်ကျွန်းရှိ အမရပူရဂိုဏ်း အမရပူရသာသနာဝင်ကို ဆန်းကြယ်စွာ ရေးသားထားသည်၊ ဂန္ထကာရက ပုဂ္ဂိုလ်မှာ သီဟိုဠ်ကျွန်း ဝယ်လိတရရွာ အမ္ဗရုက္ခာရာမကျောင်းတိုက် အဓိပတိ အရှင်အရိယဝံသာလင်္ကာရ ဝိမလတိဿထေရ် ဖြစ်သည်၊ ဂန္ထာရမ္ဘ-၌—

ဗုဒ္ဓံ ဝိသုဒ္ဓရဝိဝံသဇမဂ္ဂဓမ္မံ၊
နတွာန သံဃမပိ သာသနဝံသဒီပံ။
အာဒါယ သတ္ထုဝစနာဒီဟိ ကိဉ္စိ သာရံ၊
ဂါထာဟိ သင်္ဂဟနယေန ဝိဘာဝယိဿံ။

စသည်ဖြင့် ပြောင်မြောက်စွာ ရေးသားထားသည်။

**ဂန္ထဝံသကျမ်း**

ဤကျမ်းသည် စာမျက်နှာ ၂၆-မျှသာရှိသော ကျမ်းငယ်ကလေး ဖြစ်သည်၊ ပြုစုသူမှာ ဟံသာဝတီ အရှင်နန္ဒပညာထေရ် ဖြစ်သည်၊ တချို့နေရာ၌ ချွတ်ယွင်းချက်ကို တွေ့ရသည်၊ ပုံစံပြရလျှင် သမန္တကူဋဝဏ္ဏနာကျမ်းကို ဝါစိဿရထေရ် ရေးသည်ဟု ဖော်ပြထားသည်၊ အမှန်မှာ ဝေဒေဟထေရ် ရေးကြောင်း—

ယော’ကာ သီဟဠဘာသာယ၊ သီဟဠံ သဒ္ဒလက္ခဏံ။
တေန ဝေဒေဟထေရေန၊ ကတာယံ ပိယသီလိနာ။

ဟူသော နိဂုံးဖြင့် ပေါ်လွင်ပေသည်။

## ဓာတုဝံသကျမ်း

ဤကျမ်းသည် သီဟိုဠ်ကျွန်းကကုသန္ဓထေရ် ရေးသောကျမ်းဖြစ်သည်၊ ပါဠိ-ဘာသာ, သီဟိုဠ်ဘာသာ နှစ်မျိုးရောစပ်၍ မိဿကဘာသာဖြစ်သည်၊ ၎င်းကျမ်း၌ ဘုရားရှင် သီဟိုဠ်ကျွန်းသို့ သုံးကြိမ်ကြွရောက်ကြောင်း, ဘုရားပရိနိဗ္ဗာန်စံခဏ်း, ဘုရားရှင်၏ချပနပွဲတော်, မလ္လာမင်းတို့၏ ဓာတ်တော်ပူဇော်ပုံ, ဒေါဏပုဏ္ဏား ဓာတ်တော်ဝေပုံ, နဖူးသင်းကျစ်တော်သမိုင်း, ဆံတော်သမိုင်း, သောမာဝတီစေတီ သမိုင်း, နဂါးပြည်မှလက်ျာစွယ်တော်ကို သောမာဝတီစေတီ၌ ဌာပနာပုံစသည်တို့ ပါဝင်သည်၊ ၎င်းပြင် သီဟိုဠ်ဘာသာဖြင့် ရေးသားထားသော နိကာယသင်္ဂဟ ကျမ်း, ကလျာဏီဝံသကျမ်း, ရာမညဝံသကျမ်း, သျာမ်သာသနာဝင်ကျမ်းစသည် အားဖြင့် မြားမြောင်စွာ ရှိလေသည်။

## သက္ကတသာသနာဝင်ကျမ်းများ

၎င်းပြင် သက္ကတဘာသာဖြင့် ရေးသားထားသည့် သာသနာဝင်ကျမ်းတို့ လည်း များစွာ ရှိခဲ့ကြသည်၊ ထိုကျမ်းများအနက် ဝသုမိတ္တထေရ် ရေးသားသည့် အဋ္ဌာရသနိကာယသတ္တကျမ်းသည် မဟာယာနတို့ လက်ကိုင်ကျမ်းဖြစ်လေသည်၊ ထိုကျမ်း၌ ဂိုဏ်း ၁၈-ဂိုဏ်းကွဲပုံမှ စ၍ ဒီပဝံသစသည်နှင့် ကွဲလွဲချက်များကို တွေ့ရှိနိုင်လေသည်။

## ဝိသုဒ္ဓိမဂ္ဂနိဒါနကထာ

ဆဋ္ဌသံဂါယနာ ဝန်ဆောင်သံဃအဖွဲ့မှ ထုတ်ဝေသည့် ဝိသုဒ္ဓိမဂ္ဂနိဒါနကထာ မည်သော ကျမ်းငယ်သည်လည်း သာသနာဝင်ကျမ်း ဟု ထိုက်သော ကျမ်း တစောင် ဖြစ်သည်၊ ဖော်ပြပါကျမ်း၌ ဂိုဏ်းကြီး ၁၈-ဂိုဏ်း ကွဲပုံနှင့် သီဟိုဠ် သာသနာအကြောင်း စုံစုံလင်လင် ဖော်ပြထားသည့်ပြင် အရှင်မဟာဗုဒ္ဓဃောသ အဋ္ဌုပ္ပတ္တိနှင့် အရှင်မဟာဗုဒ္ဓဃောသ ရေး အဋ္ဌကထာများစသည်တို့ ပါရှိသည်။

## ယိုးဒယားသာသနာဝင်

ယိုဒယားနိုင်ငံသို့ သာသနာစတင်ရောက်ချိန်မှာ သာသနာသက္ကရာဇ် ၂၃၆-တွင် သုဝဏ္ဏဘူမိ သထုံပြည်သို့ကြွသော အရှင်သောဏ, အရှင်ဥတ္တရထေရ်တို့သည် ဆက်လက်၍ ယိုးဒယားသို့လည်း ကြွရောက်ကာ သာသနာတည်စေခဲ့ကြောင်း, နဂါရ်ပထုမ်မှ စေတီကြီး၌ သောဏ, ဥတ္တရထေရ်တို့၏ ဓာတ်တော်များ ဌာပနာ၍ တည်ထားကြောင်းစသည်ဖြင့် ယိုးဒယားသာသနာဝင်ကျမ်းတို့၌ ဖော်ပြထား လေသည်၊ သို့သော် ထိုစဉ်က ကြာမြင့်စွာ တည်တံ့ခြင်းမရှိဘဲ အေ-ဒီ ၇-ရာစု ကျမှ တိုးတက်ခဲ့သည်၊ အေ-ဒီ ၁၁-ရာစုတွင် မြန်မာပြည်မှ ဗုဒ္ဓသာသနာ

အင္ဂေအသက်သည် ယိုးဒယားသို့ ပို့နှံ့သွားရာမှ ပိုမို ထွန်းကားလာခဲ့သည်၊ အေ-ဒီ ၁၂၅၇-မှ စ၍ သီဟိုဠ်သာသနာပြု အဖွဲ့များကြောင့် ပို၍ ထေရဝါဒ သာသနာ စည်ကားလာရကြောင်း ယိုးဒယားသာသနာဝင်ကျမ်းတို့၌ ဖော်ပြ သည်၊ ယိုးဒယား၌ မဟာနိကာယ, ဓမ္မယုတ္တိနိကာယဟု ဂိုဏ်းကြီး ၂-ဂိုဏ်း ရှိ၍ သံဃလွှတ်တော်စနစ်ဖြင့် အုပ်ချုပ်လျက်ရှိသည်။

## ကမ္ဘောဒီးယားသာသနာဝင်

ကမ္ဘောဒီးယားသာသနာဝင်ကျမ်းများ၌ ကမ္ဘောဒီးယားတွင် ဘီ-စီ ၃-ရာစု ကပင် မြန်မာပြည်မှတဆင့် သာသနာရောက်လာကြောင်း လာရှိသည်၊ အေဒီ- ၆-ရာစုလောက်က သဗ္ဗတ္ထိဝါဒီဂိုဏ်းသားတို့ ရောက်ရှိလာကြောင်း တွေ့ရသည်။ ၁၃-ရာစုနှစ် ဇယဝမန်မင်းလက်ထက် မဟာယာနတို့ ကြီးစိုးခဲ့သည်၊ ကမ္ဘော- ဒီးယား၌ အကြီးကျယ်ဆုံး သာသနာ့ အဆောက်အဦမှာ အန်ကောဝပ် ဘုရား ကျောင်းကြီး ဖြစ်လေသည်၊ အေ-ဒီ ၁၁၁၀-တွင် စတင်တည်ဆောက်ကြောင်း ကမ္ဘောဇသာသနာဝင်၌ ဖော်ပြထားသည်၊ ကမ္ဘောဒီးယားနိုင်ငံ၌ မဟာ- နိကာယဂိုဏ်း, ဓမ္မယုတ္တိနိကာယဂိုဏ်းအားဖြင့် ဂိုဏ်း ၂-ဂိုဏ်း ရှိကြောင်း သိရ လေသည်။

## လောသာသနာဝင်

ကမ္ဘာတွင် ကျော်ကြားသော ထေရဝါဒ ၅-နိုင်ငံအနက် လောနိုင်ငံလည်း ပါဝင်ခဲ့သည်၊ လောနိုင်ငံ၌ ဗုဒ္ဓဘာသာရောက်ရှိခြင်းမှာ ကမ္ဘောဒီယနိုင်ငံ, သီဟိုဠ်နိုင်ငံ တို့မှ ရောက်ရှိသည့် သာသနာပြုအဖွဲ့များ၏ စွမ်းဆောင်မှုကြောင့် ဖြစ်သည်၊ လောနိုင်ငံ၌လည်း မဟာနိကာယဂိုဏ်း, ဓမ္မယုတ္တိနိကာယဂိုဏ်းအားဖြင့် ဂိုဏ်း ၂-ဂိုဏ်းရှိကြောင်း သာသနာဝင်ကျမ်းတို့၌ ဖော်ပြထားသည်။

## ဗီယက်နမ်သာသနာဝင်

ဗီယက်နမ်နိုင်ငံ၌ ဘုရားရှင် ပရိနိဗ္ဗာန်ဝင်စံပြီး အနှစ် ၄၀၀-လောက် အကြာတွင် သာသနာ ရောက်ရှိသည်ဟု ဆိုသော်လည်း အေ-ဒီ ၂-ရာစု လောက်ကျမှ အခိုင်အမြဲရောက်ရှိကြောင်း ရှေးဟောင်းဆင်းတု, ရှေးဟောင်း ကျောက်သေတ္တာ အစရှိသည့် ရှေးဟောင်းအရာဝတ္ထုတို့ဖြင့် မှန်းဆနိုင်သည်၊ ဆင်းတု, ကျောက်ပန်း, ကျောက်ခက်, ပန်းတမော့ အစရှိသော ရှေးဟောင်း အရာဝတ္ထုတို့သည် ၂-ရာစု နှစ်ပေါ် လက်ရာတို့ ဖြစ်သည် စသည်ဖြင့် ဗီယက် နမ် သာသနာဝင်ကျမ်း၌ ဖော်ပြထားသည်။

## မလေးရှားသာသနာဝင်

မလေးရှားတိုင်းပြည်သည် ရှေးက ဗုဒ္ဓဘာသာ ဖြစ်ခဲ့ဘူးသည်၊ အေ-ဒီ ၂-ရာစု, ၄-ရာစုအတွင်း ဗုဒ္ဓဘာသာရောက်ကြောင်း ကရ်နလ်ဂျေမသ်လောအမည်ရှိသော အင်္ဂလိပ်လူမျိုး ရှေးဟောင်းသုတေသနအရာရှိသည် မလေးရှားမြောက်ပိုင်း ကေဒါအရပ်နှင့် ဝေသ်လီအရပ်တို့မှ ကျောက်စာရှိ "ယေ ဓမ္မာ ဟေတုပ္ပဘဝါ" အစရှိသောဂါထာဖြင့် သိသာကြောင်း စသည်ဖြင့် မလေးရှားသာသနာဝင်၌ ကိုးကားဖော်ပြထားသည်၊ မလေးရှားအက္ခရာမှာ ၄-ရာစုနှစ်က အက္ခရာဖြစ်သဖြင့် ၄-ရာစုရှေးက ဗုဒ္ဓဘာသာရောက်သည်မှာ ခိုင်လုံကြောင်း စသည်ဖြင့် လာရှိသည်။

## အင်ဒိုနီးရှားသာသနာဝင်

အင်ဒိုနီးရှားနိုင်ငံသည်လည်း ဗုဒ္ဓဘာသာနိုင်ငံ ဖြစ်ခဲ့ဘူးသည်၊ဂျာဝါးကျွန်း, ဆူမတ္တရာကျွန်း,ဗာလီကျွန်း, ဗော်နီယိုကျွန်း စသည်တို့၌ တွေ့ရသော စေတီပျက်, ပုထိုးပျက်, ကျောင်းပျက်, ကန်ပျက်တို့ကို ထောက်ဆ၍ရင်း၊ ကန္ဒီမင်ဒွတ်ဘုရားကျောင်း, ဗောရောဗုဒုဘုရားကြီး, ပလင်တန်မြို့ရှိ ဆင်းတုတော်ကြီး စသည်တို့ကို ထောက်၍ရင်း အင်ဒိုနီးရှား၌ သာသနာ လွန်စွာ ထွန်းကားခဲ့ကြောင်း သိနိုင်သည်။ အင်ဒိုနီးရှား၌ သာသနာရောက်ချိန်မှာ အေ-ဒီ ၂-ရာစု, ၃-ရာစုလောက်က ဖြစ်ကြောင်း ဖော်ပြပါ ရှေးဟောင်း ပစ္စည်းတို့ဖြင့် မှန်းဆနိုင်ကြောင်း စသည်ဖြင့် အင်ဒိုနီးရှားသာသနာဝင်၌ ဖော်ပြထားသည်။

## တရုပ်သာသနာဝင်

တရုပ်ပြည်၌ မဟာယာနဗုဒ္ဓဘာသာ ရောက်ချိန်မှာ အေ-ဒီ ၆၄-ခုနှစ်တွင် မင်းပြုသော မိန်တိမင်းလက်ထက် ကိုးကွယ်ရာ အသစ်ရှာရန် စေလွှတ်သော ဓမ္မဒူတအဖွဲ့ဝင် ကဿပမာတင်္ဂ,ဓမ္မရက္ခတို့ အပြန် အေ-ဒီ ၆၇-တွင် ဗုဒ္ဓဘာသာကျမ်းစာများ, ဆင်းတုတော်များ ယူဆောင်လာခဲ့သည်၊ ထိုအချိန်မှ စ၍ တရုပ်ပြည်၌ မဟာယာနသာသနာ ရောက်ခဲ့သည်၊ ထိုကျမ်းစာများကို တရုပ်ဘာသာသို့ ပြန်ဆို၍ ဖြန့်ဝေခြင်း, ဟောပြောခြင်းဖြင့် တရုပ်ပြည်၌ ယခုတိုင် မဟာယာနသာသနာ ပြန့်နှံ့တည်ရှိလေသည်၊ တရုပ်ပြည်၌ အစဆုံးကျောင်းမှာ လိုရန်မြို့၌ရှိသော သုဘရာဿရမည်သော ကျောင်းတိုက်ဖြစ်ကြောင်း၊ တရုပ်ပြည်၌ ဝိနယဂိုဏ်း, မဇ္ဈိမိကဂိုဏ်း, ဝိညတ္တိမတြတာဂိုဏ်း, ပဒ္မဂိုဏ်း, ဟွဆင်ဂိုဏ်း, စျာန်ဂိုဏ်း, သုခဝတီဂိုဏ်း, တန္တြယာနဂိုဏ်းအားဖြင့် ဂိုဏ်း ၈-ဂိုဏ်းရှိကြောင်း စသည်ဖြင့် တရုပ်သာသနာဝင်ကျမ်းတို့၌ ဖော်ပြထားသည်။

## တိဗက်သာသနာဝင်

တိဗက်သို့ ဗုဒ္ဓဘာသာရောက်ရာကာလသည် အေ-ဒီ ၆၄၀ တရောန်သဆန် ဂန်ပေါမင်းလက်ထက်တွင် ဖြစ်သည်၊ မင်းမြတ်သည် ဘုန်းလက္ခဏာနှင့် ပြည့်စုံသဖြင့် တိဗက်တနိုင်ငံလုံး၏ ထီးဆောင်းဘုရင်လည်း ဖြစ်သည်၊ မင်းမြတ်သည် ရှေးက တိဗက်၌မရှိဘူးသော စာရေးစာဖတ်အတတ် တည်ထွင်ရန် ထောန်မိအမတ် အမှူးရှိသော အဖွဲ့တဖွဲ့ကို ဣန္ဒိယနိုင်ငံသို့ စေလွှတ်၍ သက္ကတအက္ခရာအတတ်ကို သင်ယူစေခဲ့သည်၊ ထောန်မိခေါင်းဆောင်သောအဖွဲ့ တိဗက်ပြန်ရောက်သောအခါ စာရေးစာဖတ်အတတ်ကို စတင်သည်၊ တိဗက်သဒ္ဒါကျမ်းကို ထောန်မိသည် စ၍ရေးကာ အမိတိဗက်တတိုင်းပြည်လုံး စာမတတ်သူ ပပျောက်ရေးကို ပြုလုပ်ခဲ့သည်။

မျှားမကြာမီ တိဗက်ဘုရင်အား တရုပ်ဘုရင်နှင့် နီပေါဘုရင်တို့က သမီးကညာဆက်သကြရသည်၊ ထိုမင်းသမီး ၂ ဦးအနက် တရုပ်မင်းသမီးကလေးက ကိုးကွယ်ရန် စန္ဒကူးဘုရားဆင်းတုတဆူ ပင့်ယူခဲ့၍ နီပေါမင်းသမီးကလေးက ကိုးကွယ်ရန် မေတ္တေယျဘုရားလောင်းဆင်းတုနှင့် အက္ခောဘဘုရားလောင်းရုပ်တုကို ယူခဲ့ကာ ဘုရားကျောင်းဆောက်လုပ် ကိုးကွယ်ကြသည်။

ဘုရင်မင်းမြတ်သည်လည်း ဗုဒ္ဓဘာသာဝင်ဖြစ်လာ၍ တိုင်းသူပြည်သားတို့အား ဗုဒ္ဓဘာသာယုံကြည်ရန် တိုက်တွန်းလှုံ့ဆော်လေသည်၊ မင်းမြတ်သည် တိုင်းပြည်အသီးသီးမှ ဗုဒ္ဓဘာသာပညာရှိများကို ပင့်ဘိတ်ခေါ်ယူကာ ဗုဒ္ဓဘာသာသာသနာ တိုးတက်ရာတိုးတက်ကြောင်း စီမံဆောင်ရွက်သည်၊ ခေါ်ယူသည့် ပညာရှိတို့အနက် မဟာယာန အဘိဓမ္မာပညာရှိများ, ဗျာကရုဏ်းကျမ်းတတ်ဆရာများ, ပန်းချီ ပန်းပုအတတ် တတ်ကျွမ်းသူများ, တူရိယာတတ်ကျွမ်းသူများ,သမိုင်းယဉ်ကျေးမှုတတ်ကျွမ်းသူတို့ပါဝင်ကြသည်၊ထိုပညာရှိတို့ကား ဣန္ဒိယနိုင်ငံမှ မဟာပဏ္ဍိတကုမာရ, နီပေါနိုင်ငံမှ သီလမဥ္ဇူ, ကသ္မီရမှ ကူန, တရုပ်ပြည်မှ မဟာဒေဝ စသည်တို့ ဖြစ်ကြသည်၊ ၎င်းတို့နှင့်အတူတကွ ဗုဒ္ဓဘာသာ ကျမ်းစာများကို တိဗက်ဘာသာသို့ ပြန်ဆိုစေသည် စသည်ဖြင့် တိဗက်သာသနာဝင်ကျမ်းတို့၌ ဖော်ပြထားလေသည်။

## မွန်ဂိုလီးယားသာသနာဝင်

မွန်ဂိုလီးယား နိုင်ငံသည် အိမ်နီးချင်း တရုပ်နိုင်ငံမှ သာသနာ ရောက်ရှိသော်လည်း ကြာမြင့်စွာတည်တံ့ခြင်းမရှိပဲ တိဗက်မှ သာသနာသည်သာလျှင် ကြာမြင့်စွာ တည်တံ့ လေသည်၊ မွန်ဂိုလီးယား၌ ဂျမ်ဂိဇ်ခမ် ဘုရင်လက်ထက် သာသနာသက္ကရာဇ် ၁၆၀၀-ကျော်လောက်မှာ တိဗက်နိုင်ငံကို တိုက်ခိုက်

အောင်မြင်သဖြင့် တိဗက်မှ တာရာနတ်သမီး, ဝဇီရပါဏိ စသော နတ်များကို ကိုးစားယုံကြည်သော ဗုဒ္ဓဘာသာယောဂါစာရဂိုဏ်းသာသနာ မွန်ဂိုလီးယား နိုင်ငံသို့ ရောက်ရှိ ပြန့်ပွါးလာကြောင်း မွန်ဂိုလီးယားသာသနာဝင်၌ ဖော်ပြ ထားသည်။

## နီပေါသာသနာဝင်

နီပေါနိုင်ငံ၌ ထွန်းထွန်း ပေါက်ပေါက် ဗုဒ္ဓဘာသာ စတင်သည်မှာ ဘီ-စီ ၂၇၇-၂၃၆-မှ စ၍ ဖြစ်သည်၊ သီရိဓမ္မာသောကမင်းသည် မိမိ၏ သမီး စာရုမတီကို နီပေါဘုရင် ဒေဝပါလနှင့် လက်ထပ်စေကာ နီပေါနှင့် မိတ်ဆွေ ရင်းချာ ပြုလုပ်လေသည်၊ ကျောင်းကန် ဘုရားများ တည်ဆောက်စေခြင်း, သာသနာပြုအဖွဲ့များ စေလွှတ်ခြင်း စသည်ဖြင့် နီပေါ၌ သာသနာပြန့်ပွါးအောင် ပြုလုပ်ခဲ့ကြောင်း, သီရိဓမ္မာသောကမင်း တည်ထားဆောက်လုပ်သော စေတီများ အနက် ယခုတိုင် တည်ရှိသော သယမ္ဘူစေတီသည် ထင်ရှားသော စေတီ ဖြစ်ကြောင်း စသည်ဖြင့် နီပေါသာသနသမိုင်း၌ တွေ့ရှိရသည်။

## ကိုရီးယားသာသနာဝင်

မဟာယာနသာသနာ တရုပ်နိုင်ငံသို့ ပြန့်ပွါးပြီးနောက် ကိုရီးယားနိုင်ငံ သို့လည်း ပြန့်ပွါးခဲ့သည်၊ အေ-ဒီ ၃၇၂-ခုနှစ်တွင် ကိုရီးယားနိုင်ငံသို့ သာသနာ ရောက်ခဲ့သည်၊ ယခုအခါ ကိုရီးယားနိုင်ငံ၌ တောင်ကိုရီးယား, မြောက်ကိုရီးယား ကွဲပြားသကဲ့သို့ ထိုစဉ်က သိံလော်အပိုင်း, ကော်အပိုင်း, ပီကီအပိုင်းဟူ၍ သုံးပိုင်းကွဲခဲ့၍ သိံလော်အပိုင်းတွင် သာသနာ စ၍ ရောက်သည်၊ သာသနာ စတင်ယူဆောင်လာသူမှာ တရုပ်ရဟန်းတော် စုန္ဒု အမည်ရှိသူ ဖြစ်လေသည်။ (ကိုရီးယားသာသနသမိုင်းကျမ်းများတွင် အကျယ် ရှု)။

## ဂျပန်သာသနာဝင်

ဂျပန်ပြည်၌ မဟာယာနသာသနာ ရောက်ချိန်မှာ အေ-ဒီ ၅၅၂-ခုနှစ်က ဖြစ်သည်၊ ကိုရီးယားဘုရင် ဟိုင်ကာစနီသည် ကြေးဆင်းတုများ, တရားကျမ်းစာ များကို ပေးအပ်ကာ ဓမ္မဒူတအဖွဲ့တဖွဲ့ကို ဂျပန်ရှင်ဘုရင်ထံ စေလွှတ်ခဲ့သည်၊ ဂျပန်ရှင်ဘုရင်သည် သောဂါနော ဣနာမေ မည်သော အမတ်ကို စုံစမ်းစေပြီးမှ ဗုဒ္ဓဘာသာကို လက်ခံလေသည်၊ ယခုအချိန် ဂျပန်ပြည်၌ ပဓာနအားဖြင့် ဇျောင်ဒိုန်ဂိုဏ်း, ဈာန်ဂိုဏ်း, ကျော်ဒေါ်ဂိုဏ်း, ရှိန်ဂိုဏ်း အားဖြင့် ဂိုဏ်းကြီး ၄ ဂိုဏ်းရှိကြောင်း ဂျပန်သာသနာဝင်ကျမ်းတို့၌ ဖော်ပြထားလေသည်၊ ဤသို့ စသည်ဖြင့် ဗုဒ္ဓဘာသာ သာသနာ ထွန်းကားရာနိုင်ငံတိုင်း၌ နိုင်ငံသာသနာဝင် ကျမ်း, ဂိုဏ်းသာသနာဝင်ကျမ်း, မြို့သာသနာဝင်ကျမ်း, ကျောင်းတိုက်သာသနာ

ဝင်ကျမ်း စသည်ဖြင့် လွန်စွာများပြားလှရကား ရေးသားဖော်ပြ၍ပင် မပြီးနိုင်အောင် ရှိလေသည်။

## မြန်မာသာသနာဝင်ကျမ်းများ

မြန်မာနိုင်ငံ၌ သာသနာသက္ကရာဇ် ၂၃၆ - ခုနှစ်မှ စ၍ ကြာမြင့်စွာကပင် သာသနာ ရောက်ရှိခဲ့သည်နှင့်အမျှ သာသနာဝင်ကျမ်း အမျိုးမျိုး ပေါ်ပေါက်လျက်ရှိသည်၊ တနိုင်ငံလုံးအတွက် ခြုံ၍ရေးသားသော သာသနာဝင်ကျမ်း, တဂိုဏ်းလုံးအတွက် ခြုံ၍ရေးသားသော သာသနာဝင်ကျမ်း, တကျောင်းတိုက်လုံး အတွက် ခြုံ၍ရေးသားသော သာသနာဝင်ကျမ်းစသည်ဖြင့် မြားမြောင်စွာ ပေါ်ထွန်းလျက်ရှိသည်။

ဖော်ပြပါ မြန်မာသာသနာဝင်ကျမ်းများအနက် မောင်းထောင်ဆရာတော် အရှင်ပညာသာမိ၏ သာသနဝံသပဒီပိကာကျမ်း, မဲထည်းဆရာတော်၏ ဝံသဒီပနီကျမ်း, မဟာဓမ္မသင်္ကြန်၏ သာသနာလင်္ကာရ စာတမ်းကျမ်း, ရွှေကျင်ဆရာတော်ဘုရားကြီး၏ လံကာသာသနဝိသုဒ္ဓိကထာကျမ်း, ဘုရားဖြူဆရာတော် အရှင်ရာဇိန္ဒ၏ သာသန ဗဟုဿုတ ပကာသနီကျမ်း, ဟသ်ာတ သပြေပင်ဆရာတော်ရေး ဒွါရနိကာယသာသနာဝင်ကျမ်း, ရွှေဟသ်ာ ဆရာတော်ရေး ရွှေကျင်နိကာယသာသနာဝင်ကျမ်း, ရွှေဟသ်ာတောရ သမိုင်းကျမ်း, ဟံသာဝတီ ဆရာတော်၏ ဒက္ခိဏာရာမသာသနာဝင်ကျမ်း, ဆရာတော် ဦးအာစိဏ္ဏရေး ဘုရားကြီးတိုက်သမိုင်း အကျဉ်းကျမ်း စသည်တို့သည်လည်း အဖိုးတန် သာသနာဝင်ကျမ်းများ ဖြစ်ကြသည်။

## ပခုက္ကူသာသနာဝင်ကျမ်း

စာရေးသူသည် ပခုက္ကူသာသနာဝင်ကျမ်း ရေးရန် ငယ်စဉ်ကပင် စိတ်ဝင်စားခဲ့သည်၊ သို့သော် ဆင္ဂသံဂါယနာတွင် ဆင္ဂသံဂီတိဘာဏက, ဆင္ဂသံဂီတိကာရက, ပဋိဝိသောဓက, ဩသာနသောဓက, ကျမ်းညွှန်း ဩသာနသောဓက အလုပ်တို့ဖြင့် ၈-နှစ်ကျော် အလုပ်များခဲ့သည်သာမက ယိုးဒယားနိုင်ငံ, ဣန္ဒိယနိုင်ငံ, သီဟိုဠ်နိုင်ငံတို့သို့လည်း သွားရောက်၍လိုအပ်သည့်ဗဟုဿုတနှင့် ဘာသန္တရပညာရပ်များ ဆည်းပူးရင်း ၅-နှစ်ကြာမျှ အချိန်လွန်ခဲ့ရပြန်သည်၊ ဤသို့ဖြင့် ၁၃-နှစ်ကျော်လောက် အချိန်ကုန်လွန်ပြီးနောက်မှ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် အရှင် ဂန္ဓသာရမဟာထေရ်, အရှင် ပညာမဟာထေရ်, အရှင် နန္ဒဝံသမဟာထေရ်တို့ သီတင်းသုံးခဲ့ရာ သာသနဇောတိပါလ ကျောင်းကြီး၌ နေထိုင်၍ဂဏဝါစကတာဝန်ကိုထမ်းဆောင်နေစဉ် ပခုက္ကူမြို့ သီဟိုဠ်ရှင်ဘုရားကြီး ဂေါပကအဖွဲ့၏ဥက္ကဋ္ဌ ကျောင်းဒါယကာ ဆရာကလေးဦးသိုက်ထွန်း၏ တိုက်တွန်းချက်ကို

နှစ်သက်ကြည်ဖြူ လက်ခံယူကာ မဟာဝိသုတာရာမဂဏဝါစက အဘိဓာန်အဖွဲ့တွင် ပါဝင် ရေးသားခြင်းကိစ္စ, မဟာဝံသ ပါဠိမှ ပြင်ဆင်ခြင်း ကိစ္စနှင့် သက္ကတ စာဝါများ ပို့ချရင်း အကြားအကြား၌ သမိုင်းအဋ္ဌုပ္ပတ္တိစသော အမျိုးမျိုး အဖုံဖုံသောကျမ်းတို့ကို စုံလင်စွာကြည့်ရှုပြီး သက်တော်ကြီး, ဝါတော်ကြီး, ရတ္တညူမဟတ္တ ဆရာတော်တို့ကိုလည်း ကိုယ်တိုင်မေးလျှောက်၍ ရေးသားရသော ဤပခုက္ကူသာသနာဝင်ကျမ်းဖြင့် စာရှုသူတို့အား နှစ်သိမ့်အားရ ကျေနပ်စေရ ပါတော့သည်၊ ဤပခုက္ကူသာသနာဝင်ကျမ်းစာမူကို စာရေးသူအား ဓမ္မာနုဂ္ဂဟ, အာမိသာနုဂ္ဂဟတို့ဖြင့် ချီးမြှောက်တော်မူကြသည့် ကျေးဇူးတော်ရှင် အဘိဓဇ-မဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီး အရှင်သုန္ဒရ မဟာထေရ်နှင့် ကျေးဇူးရှင် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယမဟာထေရ်တို့ထံ ဖတ်လျှောက်ပြီး လက်နှိပ်စက် စာမူ ၄-မူ ကူးစေရပါသည်၊ ဤသို့ လက်နှိပ်စက်ဖြင့်ရိုက်ကူးရာ၌ အားသွန်ခွန်စိုက် ရိုက်ကူးပေးသည့် ဗုဒ္ဓသာသန ဝိသိဋ္ဌ ဒီဃဘာဏကနှင့် သာသနဓဇ သိရီပဝရ ဓမ္မာစရိယ ဘွဲ့တံဆိပ်ရ မဟာဝိသုတာရာမ ဂဏဝါစက အဘိဓာန်ပြု အဖွဲ့ဝင်, မဟာဝံသ ပဋိဝိသောဓကအဖွဲ့ဝင်, ဘာသန္တရကောဝိဒ အရှင်ဝိသုဒ္ဓအား ကျေးဇူးဥပကာရ တင်ရှိကြောင်း မှတ်တမ်းတင်အပ်ပါသည်။

ဤကျမ်းပါ ကမ္ဘာ့သာသနာဝင် အကျဉ်းချုပ် ကျမ်းဦးမှတ်ဖွယ်နှင့် ပခုက္ကူ သာသနာဝင်ကို ကျနစွာကြည့်ရှုပြီး ဘုရားရှင် လေးသချေင်္နှင့် ကမ္ဘာတသိန်း ကာလပတ်လုံး တည်ထောင် ဖန်တီးထားတော်မူခဲ့သော သာသနာတော်မြတ် ကြီးကို လေးလေးနက်နက် ကြည်ညိုကိုးစား သဒ္ဓါတရား အထပ်ထပ် ပွါးပြီးလျှင် ဗုဒ္ဓဘာသာ သာသနာဝင်၏အစ အာဒိကမ္မိကသခင် ဘုရားရှင်ဝင်စံရာ နိဗ္ဗာန် နန်းသို့ စံမြန်းနိုင်ကြပါစေသတည်း။

**အရှင်ကေလာသ**

မဟာဝိသုတာရာမတိုက်

ပခုက္ကူမြို့

၁၃၂၉-ခု၊ ဝါဆိုလဆန်း ၅-ရက်။

# ပစ္စက္ကူသာသနာဝင်

---

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ရတနတ္တယ ပဏာမ

နတွာ သာသနဝံသဿ၊ ဒေသကံ အဂ္ဂပုဂ္ဂလံ။
သေဝိတံ တေန ဓမ္မဉ္စ၊ သံဃဉ္စာပိ နိရင်္ဂဏံ။

အဟံ၊ ပစ္စက္ကူ သာသနာဝင် မည်တွင်တောက်လျှမ်း ကျမ်းဂန်ရေးရန် အားအန်ကြိုးကုတ် အကျွန်ုပ်သည်။ သာသနဝံသဿ၊ ကိုယ်တော်မြတ်စွာ ဦးစွာ တည်ထွင် ကိုယ်တော့်သာသနာဝင်ကို။ ဒေသကံ၊ အသာခာရဏ မဟာကရုဏာ တော်ဖြင့် ဟောဖော်ညွှန်ပြတော်မူတတ်သော။ အဂ္ဂပုဂ္ဂလံ၊ သုံးလောကခေတ် အမြတ်ခေါင်းဖျား သဗ္ဗညုမြတ်စွာဘုရားကိုင်း။ တေန၊ ထို သုံးလောကခေတ် အမြတ်ခေါင်ဖျား သဗ္ဗညုမြတ်စွာဘုရားသည်။ သေဝိတံ၊ အမြဲမပြတ် ပူဇော် မှီဝဲအပ်သော။ ဓမ္မဉ္စ၊ မဂ်ဖိုလ်နိဗ္ဗာန် ဓမ္မက္ခန်ဟု ဆယ်တန်ထင်ပေါ် တရားတော် မြတ်ကိုင်း။ နိရင်္ဂဏံ၊ ရာဂ,ဒေါသ, မောဟ-အင်္ဂဏ ကင်းစင်ပတော်မူသော။ သံဃဉ္စာပိ၊ ရှစ်ပါးသံဃာ အရိယာကိုင်း။ နတွာ၊ ကာယတလီ ဝစီမန သုံးဒွါရဖြင့် ဦးချရှိခိုးပြီး၍။

အာစရိယပဏာမ

ဇိနသာသနဝံသမှိ၊ ဂုရဝေါ အဂ္ဂသညိတာ။
တေသမ္ပိ စရဏမ္ဘောဇေ၊ သုနိဝါတေန စေတသာ။

ဇိနသာသနဝံသမှိ၊ ဘုရားဇိနော် သာသနာ့အနွယ်တော်၌။ အဂ္ဂသညိတာ၊ အမြတ်ခေါင်ချုပ် သမုတ်အပ်ကုန်ပြီးသော။ ယေ ဂုရဝေါ၊ ကျေးဇူးပင်လယ် ဆယ်ဆကြွယ်သည့် အဘိဓဇမဟာရဋ္ဌဂုရု သွန်းထုခတ်နှိပ် တံဆိပ်တော်ရှင် အကြင် **အရှင်သုန္ဒရဆရာတော်ဘုရား**, တိုက်အုပ်ဆရာတော် **အရှင်နန္ဒိယ-မဟာထေရ်** အစရှိကုန်သော ဆရာတော်ဘုရားတို့သည်။ သန္တိ၊ သာသနာ့ဝန် အားသွန်ကြိုးပမ်း ထမ်းရွက်ကာပင် ထင်ရှားရှိတော်မူကြကုန်၏။ တေသမ္ပိ၊ ကျေးဇူးမြင်းမိုရ် ဆယ်ဆင့်ပိုသား ထိုဆရာတော်ဘုရားတို့၏လည်း။ စရဏ-မ္ဘောဇေ၊ ခြေတော်အစုံ ကြာပဒုံတော်တို့ကို။ သုနိဝါတေန၊ လွန်စွာနှိမ်ချ

ရိုတုပ်ကွသော။ စေတသာ၊ သဒ္ဓါယုံဖိတ် ကုသိုလ်စိတ်ဖြင့်။ နတွာ၊ ကာယတလီ ဝစီမန သုံးဒွါရဖြင့် ဦးချရှိခိုးပြီး၍။

**အဘိယာစကနှင့် ပဋိညာဉ်**

ကရိဿာမိ သမာသေန၊ **ပခုက္ကူဝံသ**နာမကံ။
ဝံသတ္ထိကာန’မတ္ထာယ၊ သာဓူနံ သာဓုယာစနာ။

ဝံသတ္ထိကာနံ၊ **“ပခုက္ကူသာသနာဝင်”**ဖတ်ချင်ကြည့်ချင် သာသနာဝင် သမိုင်း ဝါသနာရှင်တို့၏။ အတ္ထာယ၊ အကျိုးစီးပွါး များစိမ့်သောငှါ။ သာဓူနံ၊ သူ့ကျိုး ကိုယ်ကျိုး သည်ပိုးမပြတ် ပြီးစေတတ်သော (သီဟိုဠ်ရှင် ဂေါပကအဖွဲ့ ဥက္ကဋ္ဌ ကျောင်းဒါယကာကြီး **ဦးသိုက်ထွန်း** အစရှိသော) သူတော်ကောင်းတို့၏။ သာဓုယာစနာ၊ ဓမ္မဒါန ပြုပါရအောင် ခယညွှတ်ပျောင်း တောင်းပန်ခြင်း ကြောင့်။ သမာသေန၊ အကျယ်မသွင်း အကျဉ်းအားဖြင့်။ ပခုက္ကူဝံသနာမကံ= **ပခုက္ကူသာသနဝံသ**နာမကံ၊ **“ ပခုက္ကူသာသနာဝင် ”** မည်တွင် တောက်လျှမ်း ပခုက္ကူ သာသနာ့သမိုင်းကျမ်းကို။ ကရိဿာမိ၊ ဂန္ထဓုရ ကိစ္စလပ်လျား ချိန် အကြား၌ ရေးသားပြုပြင် စီရင်ပါအံ့သတည်း။

# ပခုက္ကူမြို့

ပခုက္ကူမြို့သည် စိတ်ဝင်စားစရာကောင်းသော မြို့တမြို့ ဖြစ်သည်၊ ပိဋကတ်ကမ်းကူး လင်းယဉ်မှူးကြီးများ ဖြစ်ကြသည့် ဆရာတော်၊ သံဃာတော်တို့နှင့် ဗုဒ္ဓဘာသာဝင် သူတော်စင်တို့ အစဉ်ထာဝရ နေထိုင်ရာဌာနမွန် ဖြစ်သဖြင့် ပခုက္ကူမြေ နင်းမိလျှင် ပခုက္ကူနှင့် မခွဲနိုင် မခွါရက် ဖြစ်ကြရသည်၊ ပိဋကတ်သုံးသွယ်၊ နိကာယ်ငါးရပ်ကို အဋ္ဌကထာ၊ ဋီကာ တွဲဖက်ကာ ချပို့ရာ သင်ကြားရာ ဗုဒ္ဓဘာသာ စာသင်တိုက် တက္ကသိုလ်တို့နှင့် ပြည့်နှက်နေသည့်အတွက် ပိဋကတ်အတတ်မြို့တော် ဟု နိုင်ငံအတွင်း သတင်းကျော်ခဲ့သည်၊ ဗုဒ္ဓဘာသာဝင် သူတော်စင်တို့ ကြည်ဖြူ ဦးခိုက်ရာ၊ ဝတ်ပြုရာ၊ ကုသိုလ်ပုညမျိုးစေ့ စိုက်ပျိုးရာ ပုညက္ခေတ္တ၊ ပုညဘူမိ၊ ပုညတိတ္ထ ဖြစ်သည့် ဘုရားကျောင်းအမျိုးမျိုး၊ စေတီပုထိုးအမျိုးမျိုးတို့ ပေါများသဖြင့်လည်း ကောသလတိုင်း သာဝတ္ထိမြို့တော်အတူ မကွေးတိုင်း၏ မြို့တော် ပခုက္ကူသည်လည်း ကမ္ဘာ့အလယ် သတင်းကြွယ်ခဲ့သည်။

ပခုက္ကူမြို့ တည်ပုံတည်ဟန်မှာလည်း အလွန် အချိုးကျ အဆင်ပြေလှပါသည်၊ မြို့၏တောင်ဖက်တွင် ဧရာဝတီ မြစ်နဒီဖြင့်လည်း ရှေးက ဂန္ဓာရတိုင်း ဇလန္ဓမြစ်ကမ်း၌ တည်သော တက္ကသိုလ်မြို့တော်ပမာ လွန်စွာ ကျက်သရေရှိလှပါသည်၊ မြို့၏မြောက်ဖက်ရှိ တောင်တန်းတောင်စွယ်တို့ဖြင့် အမျိုးမျိုးတင့်တယ်လှပ၍ နေပုံမှာ မဂဓတိုင်း ရာဇဂြိုဟ်မြို့က အရှုံးပေးရလောက်၏၊ အိမ်ခြေ ၁၀၀၀၀-ကျော်၊ လူဦးရေ ၅၀၀၀၀-ကျော်လောက် ရှိသဖြင့်လည်း အမိမြန်မာနိုင်ငံ၏ မြို့ကြီးတို့တွင် ပါဝင်ထင်ရှားခဲ့သည်။

ပခုက္ကူမြို့သည် ပခုက္ကူခရိုင်၏ ထွက်ပေါက်၊ ဝင်ပေါက် တံခါးမကြီး ဖြစ်သည်၊ ယောချောင်းနှင့် ချင်းတွင်းမြစ်တို့မှ လာသော ကုန်စည်များနှင့် ဧရာဝတီမြစ်နဒီမှလာသော ကုန်စည်များကို ဖောက်ကား ရောင်းဝယ် ဖလှယ်ရာ အချက်အချာမြို့လည်း ဖြစ်သည်။

ပခုက္ကူမြို့သည် သင်္ဘောဆိပ်မြို့တော် ဖြစ်ရကား မြင်းလမ်းအတိုင်း တိုင်းတာလျှင် ရန်ကုန်မှ ၄၉၄-မိုင်၊ မန္တလေးမှ ၁၀၃-မိုင် ကွာလှမ်းလေသည်၊ ပခုက္ကူမှ အထက်ချင်းတွင်း မော်လိုက်၊ ဟုမ္မလင်းမြို့ စသည်တို့သို့လည်း သင်္ဘောလမ်း ရှိသည်၊ ပခုက္ကူမြို့ပေါ်၌ အလယ်တန်း ကျောင်းပေါင်း ၃-ကျောင်းနှင့် အထက်တန်းကျောင်း ၂-ကျောင်းရှိ၍ တခရိုင်လုံးတွင် အလယ်တန်းကျောင်း ၁၇-ကျောင်းနှင့် အထက်တန်းကျောင်း ၁၀-ကျောင်း ရှိလေသည်၊ တကျောင်း

လျှင် ကျောင်းသား ကျောင်းသူ ဦးရေ ၁၅၀၀-မှ ၃၀၀၀-အထိ ရှိလေသည်၊ ပြည်သူ့ဆေးရုံကြီး၊ လွှတ်လပ်ရေးကျောက်တိုင်၊ အာဇာနည် ကျောက်တိုင်၊ သံဃဆေးရုံ၊ ဈေးကြီး၊ ဈေးငယ် အသွယ်သွယ်နှင့် ရုံးအဆောက်အဦ အမျိုးမျိုး၊ ဆီစက်ကြီးများ၊ သစ်စက်ကြီးများ၊ စီးကရက်ရုံကြီးများ၊ အထည်စက်ရုံကြီးများ၊ လေယာဉ်ပျံကွင်းကြီး စသည့် မြို့၏ စည်ကားကြောင်း အဆောက်အဦ အမျိုးမျိုးတို့ဖြင့် တင့်တယ်လှပ ကျက်သရေရှိလှပါသည်။

## နံနက်ခင်း ပခုက္ကူမြို့ မြင်ကွင်း

ပခုက္ကူမြို့၌ အခါအားလျော်စွာ ရဟန်းသံဃာတို့ ထောင်ပေါင်းများစွာ သီတင်းသုံးလျက်ရှိရာ နံနက်ခင်း ဆွမ်းခံလှည့်လည်ကြသော ရဟန်းတော်တို့ကို ဖူးမြင်ရခြင်းသည် ဗုဒ္ဓဘာသာဝင်တို့အဖို့ 'သမဏာနဉ္စ ဒဿန'မင်္ဂလာတပါး အလိုလို ပြည့်စုံနေတော့သည်၊ ရွှေအဆင်းဖြင့် ဝါဝင်းထိန်ပြေ ကျက်သရေ ရှိသည့် ဟင်္သာမင်းအပေါင်းတို့ စံပျော်ရာ စိတ္တကူဋရွှေတောင်ခြေရှိ ရွှေဟင်္သာ ရေကန်ကြီးကဲ့သို့ ပခုက္ကူမြို့သည်လည်း ဘုရားသားကျော် သံဃာတော်တို့၏ သင်္ကန်းရောင် တပြောင်ပြောင် တဝင်းဝင်းဖြင့် တင့်တယ်ခြင်း ရှိလှပါပေသည်၊ ပခုက္ကူတခရိုင်လုံးတွင် သံဃာဦးရေ ၆၈၁၇-ပါးရှိကြောင်း နောက်ဆုံးစာရင်း အရ သိရသည်။

## ပခုက္ကူခရိုင်

ခရိုင်နယ်ပယ်လည်း ကျယ်ဝန်းသည်၊ စတုရန်းမိုင် ၅၃၅၆-မိုင် ကျယ်ဝန်း၍ နောက်ဆုံး ခန့်မှန်းခြေ သန်းခေါင်စာရင်းအရ လူဦးရေ ၆၇၆၈၄၉-ယောက် ရှိလေသည်။

## မြို့နယ် လူနေအိမ်ခြေ၊ ကျောင်းကန်နှင့် ရဟန်းသာမဏေ

ခရိုင်အတွင်း၌ ပခုက္ကူမြို့နယ်၊ ရေစကြိုမြို့နယ်၊ မြိုင်မြို့နယ်၊ ပေါက်မြို့နယ်၊ ဆိပ်ဖြူမြို့နယ်၊ ဆောမြို့နယ်၊ ဂန့်ဂေါမြို့နယ်၊ ထီးလင်းမြို့နယ်အားဖြင့် မြို့နယ် ပေါင်း ၈-ခုရှိရာ—

ပခုက္ကူမြို့နယ်၌ ရွာပေါင်း ၂၅၄-ရွာ၊ အိမ်ခြေပေါင်း ၃၇၃၉၆-အိမ်၊ လူဦးရေ ပေါင်း ၁၅၃၀၇၂-ယောက်၊ ကျောင်းတိုက်ပေါင်း ၃၀၂-တိုက်၊ ကျောင်းပေါင်း ၅၄၈-ကျောင်း၊ ရဟန်း သာမဏေပေါင်း ၂၆၃၀-ပါးရှိလေသည်။

ရေစကြိုမြို့နယ်၌ ရွာပေါင်း ၂၄၆-ရွာ၊ အိမ်ခြေ ပေါင်း ၃၈၁၂၉-အိမ်၊ လူ ဦးရေပေါင်း ၁၃၁၂၁၄-ယောက်၊ ကျောင်းတိုက်ပေါင်း ၃၅၀-တိုက်၊ ကျောင်း ပေါင်း ၆၆၈-ကျောင်း၊ ရဟန်း သာမဏေပေါင်း ၁၇၂၂-ပါး ရှိလေသည်။

**မြိုင်မြို့နယ်၌** ကျေးရွာပေါင်း ၃၄၀-ရွာ, အိမ်ခြေပေါင်း ၃၀၉၄၈-အိမ်, လူဦးရေ ပေါင်း ၁၄၄၈၇၇-ယောက်, ကျောင်းတိုက်ပေါင်း ၃၉၃-တိုက်, ကျောင်းပေါင်း ၄၉၆-ကျောင်း ရှိ၍ ရဟန်း သာမဏေပေါင်း ၁၀၆၇-ပါး ရှိလေသည်။

**ပေါက်မြို့နယ်၌** ကျေးရွာပေါင်း ၂၂၉-ရွာ, အိမ်ခြေပေါင်း ၁၆၉၃၂-အိမ်, လူဦးရေပေါင်း ၇၈၀၁၁-ယောက်, ကျောင်းတိုက်ပေါင်း ၁၈၈-တိုက်, ကျောင်းပေါင်း ၂၆၅-ကျောင်း ရှိ၍ ရဟန်း သာမဏေပေါင်း ၇၈၃-ပါး ရှိလေသည်။

**ဆိပ်ဖြူမြို့နယ်၌** ကျေးရွာပေါင်း ၁၃၅-ရွာ, အိမ်ခြေပေါင်း ၁၀၄၁၈-အိမ်, လူဦးရေပေါင်း ၄၉၅၂၈-ယောက်, ကျောင်းတိုက်ပေါင်း ၁၃၂-တိုက်, ကျောင်းပေါင်း ၁၃၆-ကျောင်း, ရဟန်း သာမဏေပေါင်း ၂၈၇-ပါး ရှိလေသည်။

**ဆောမြို့နယ်၌** ကျေးရွာပေါင်း ၁၂၂-ရွာ, အိမ်ခြေပေါင်း ၇၁၉၂-အိမ်, လူဦးရေပေါင်း ၃၅၉၉၉-ယောက်, ကျောင်းတိုက်ပေါင်း ၁၀၇-တိုက်, ကျောင်းပေါင်း ၁၃၇-ကျောင်း, ရဟန်း သာမဏေပေါင်း ၁၉၈-ပါး ရှိလေသည်။

**ဂန့်ဂေါမြို့နယ်၌** ကျေးရွာပေါင်း ၁၀၆-ရွာ, အိမ်ခြေ ပေါင်း ၁၀၂၀၄-အိမ်, လူဦးရေပေါင်း ၅၂၅၂၂-ယောက်, ကျောင်းတိုက်ပေါင်း ၈၁-တိုက်, ရဟန်း သာမဏေပေါင်း ၂၄၇-ပါး ရှိလေသည်။

**ထီးလင်းမြို့နယ်၌** ကျေးရွာပေါင်း ၉၄-ရွာ, အိမ်ခြေပေါင်း ၅၈၇၂-အိမ်, လူဦးရေပေါင်း ၃၁၆၂၆-ယောက်, ကျောင်းတိုက်ပေါင်း ၇၃-တိုက်, ကျောင်းပေါင်း ၉၈-ကျောင်း, ရဟန်း သာမဏေပေါင်း ၁၈၃-ပါး ရှိလေသည်။

ခရိုင်မြေ မျက်နှာပြင်သည် တောင်ရိုး တောင်တန်းများ ပေါများသဖြင့် ညီညာပြံ့ပြူးခြင်း မရှိလှပေ။ ပုံတောင်နှင့် တန့်ကြည့်တောင်တို့၏ တောင်ရိုး တောင်စွယ်တို့သည် ပခုက္ကူခရိုင်ကို အကြမ်းအားဖြင့် အရှေ့အနောက် ပိုင်းခြားသကဲ့သို့ရှိသည့်ပြင် ပခုက္ကူခရိုင်၏ ရှုဘွယ်မငြီး သွီးပျိုတို့လည်း ဖြစ်ကြပေသည်။

## ကျေးဇူးရှင်မျာ း

ပခုက္ကူခရိုင်အတွင်း ဖြတ်၍စီးဆင်းသည့် ဧရာဝတီရေကြည်မြစ်နှင့် မြစ်သားချောင်း, ယောချောင်း, မောချောင်း, ခြည်ချောင်းတို့မှာ ပခုက္ကူခရိုင်လူထု၏ ကျေးဇူးရှင် မြစ်များ ဖြစ်ကြသည်။

ပခုက္ကူခရိုင်မှ လူး, ဆပ်, နှမ်း, ပြောင်း, ပဲမျိုးစုံတို့ဖြင့် မြန်မာပြည်သူ ပြည်သားတို့အား ကျွေးမွေး ယုယ အားအင် ဖြည့်တင်းပေးလျက်ရှိသည်သာ မက ခရိုင်ထွက် ကျွန်း, ပိတောက်, ပျဉ်းကတိုးစသော အဖိုးတန် သစ်သားတို့

ဖြင့်လည်း မြန်မာပြည်သားတို့အား ဘုံနန်းဗိမာန် အမျိုးမျိုး ဖန်တီးနိုင်ခွင့်ကို ပေးလျက်ရှိသည်၊ ပခုက္ကူခရိုင်အတွင်းရှိ ရေနံကျပ်မှ ရေနံ အတော်အသင့်ထွက်သဖြင့် တိုင်းပြည်အတွင်းရှိ စက်ယန္တရားအချို့တို့ အလုပ်လုပ်ဖို့ ပခုက္ကူခရိုင်က စီမံသည်ဟုဆိုလျှင် စောဒကတက်ရန် လိုအံ့ မထင်ပေ၊ ပခုက္ကူခရိုင်၌ ပိုးထည်နှင့် အခြား အဝတ်အထည်အမျိုးမျိုး, ယောလုံချည်အမျိုးမျိုး ထွက်သဖြင့် လှချင် ပချင် အလှဝါသနာရှင်တို့ ပခုက္ကူမြို့ထွက် အဝတ်အထည်တို့ကို ခုံမင်နှစ်သက်ကြသည်၊ ပခုက္ကူခရိုင်တွင် နှမ်းဆီစက်, မြေပဲဆီစက်, သစ်စက်စသည်တို့ ပေါမျာ်းသဖြင့် ၎င်းစက်တို့၏ ခေါင်းတိုင်မီးခိုးတို့ကား တိမ်ခိုး, တိမ်တိုက်, တိမ်ခဲ, တိမ်လိပ်တို့နှင့် နှီးနှောယှက်တင်လျက် ရှိနေကြပေသည်။

## အဓိကထွက်ကုန်

သစ်, သားရေ, ရေနံ, ရှားစေး, ဝါဂွမ်း, ယောဖက်, မန်ကျည်း, ထန်းလျက်, ငရုတ်, ကြက်သွန်, နှမ်းဆီ, ပဲဆီ, ဆေးရွက်, သနပ်ခါး, ပဲမျိုးစုံ စသည်တို့ကား ပခုက္ကူခရိုင်၏ အဓိကထွက်ကုန်များ ဖြစ်ကြသည်၊ ထို့ကြောင့် ပခုက္ကူခရိုင်သည် ကုန်မျိုးစုံထွက်သော ခရိုင်မြို့ အဖြစ်ဖြင့်လည်း ထင်ရှားလေသည်၊ အောက်ပါ ပခုက္ကူမြို့ကြီး ဘွဲ့ တေးထပ်နှင့် ဘုရားဘွဲ့ လေးဆစ်ချိုးတို့ကိုလည်း ကျနစွာ ဖတ်ရှုရာသည်။

### ပခုက္ကူမြို့ကြီးဘွဲ့ တေးထပ်

မြစ်ရော လကျ်ာကမ်းမှာလ၊
ယှက်ဖြာသန်း ကုန်သည်၊
ချက်ချာလမ်း စုံညီ၊
ဂုဏ်အဆီ ဝေပျို။
ကုန်ပစ္စည်း အလုပ်တူလျှင်၊
ပခုက္ကူ ကဲတက်သည့်မြို့။
ဘာသာမှု ကျောင်း, စေတီယ်၊
ပေါင်းဝေစည် ကြည်ညို့၊
သောင်းမြေဒီ ပြည်အစို့တွင်ဖြင့်၊
သည်တမြို့ ထူးသည်။
သာသနာ ပညာရေးမှာလ၊
ယှဉ်လာဝေး ကျမ်းတတ်စုံညီ၊

ပိဋကတ် စံနေပြည်မှာ၊
ဉာဏ်ဘောဂီ ရိုက်ဆော်တီးလေသည့်၊
တိုက်တော်ကြီး သုံးတိုက်တည်ကာ၊
ချုန်းရိုက်မြည်သာ။
ပြည်ပခုတ် ကူနဂရာငယ်၊
ဘူပထဗျာ ခေါင်ဆုံးထင့်လေး။

### ဘုရားဘွဲ့ လေးဆစ်ချိုး

သီဟိုဠ်ရှင် မြတ်ဘုရားရယ်နှင့်၊ မှတ်သားဘွယ့် မြတ်ရွှေဂူ။
ဖောင်တော်ဦး၊ အထူး စိန္တေယျာတို့၊ ဤဒေသာ တေဇာဖြန့်၊ ဘုန်းနှံ့ ကြူကြူ။
တန်ခိုးဓာတ်ကယ်ကြောင့်၊ ဆိုးမကပ် အေးလူလူ၊ ရွှေကူမြို့ ဖြစ်ခင်း။
နိစ္စ ကြည်ဖြူ၊ စိတ်က ရည်တူပ၊ ဤသုံးဆူ စိန္တေယျတို့ကို၊ နိဗ္ဗာန်ကို စိတ် ကြံဆလို့ရယ်၊ ဦးချ ဝပ်စင်း။

### ပခုက္ကူမှ စာစောင်နှင့်သတင်းစာ

#### ရှစ်ပါးမဂ္ဂင် အမြင်မှန်စာစောင်

ပခုက္ကူမြို့သည် ဗုဒ္ဓဘာသာဝင်တို့ ပျော်ရွှင်စံနေရာဌာနမွန် ဖြစ်သဖြင့် ဗုဒ္ဓဘာသာဝင်တို့အား သင့်တင့် လျောက်ပတ်သော စာစောင်များလည်း ပေါ်ထွက်ခဲ့ဘူးသည်၊ စာစောင်များမှာ ရှေးဦးစွာ ရှစ်ပါးမဂ္ဂင် အမြင်မှန် စာစောင် ဖြစ်လေသည်၊ စာစောင်မှာ လွန်စွာကျေးဇူးများလေသည်၊ ဗိမ္ဗိသာရ မင်းက တက္ကသိုလ်ပြည်ကြီးရှင် ပုက္ကုသာတိဘုရင်အား ပေးဆက်သည့် ရတနာ ပြားစာစောင်ပမာ သဒ္ဓါတရားဖြစ်သစ်စ ပုဂ္ဂိုလ်တို့အား ကြီးထွား ခိုင်မြဲပြီး ပို၍ အမြင်မှန်ရစေလေသည်၊ စာစောင်ပေါ်ထွန်းချိန်မှာ ၁၃၁၆-ခုလောက်ကဖြစ် သည်၊ တရားစာစောင်ကို တာဝန်ခံ၍ စီစဉ်ထုတ်ဝေခဲ့သူမှာ ပါဠိမြန်မာပညာရှိ ဆရာကြီးဦးအောင်တင် ဖြစ်လေသည်၊ ဆရာကြီးသည် ဆေးပညာ,ဗေဒင်ပညာ တို့၌လည်း ထူးချွန်စွာ ကျွမ်းကျင်တတ်မြောက်သည်၊ ဘုရားအမှူးရှိသော သံဃာတော်၏ အလုပ်အကျွေး ဆရာဇီဝကပမာ မဟာဝိသုတာရာမတိုက် အဘိ-ဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီး အရှင်သုန္ဒရထေရ် အမှူးရှိသော သံဃာ တော်အား ဆေးပစ္စည်းဖြင့် လှူဒါန်း ပြုစု လုပ်ကျွေးနေသည့် သံဃုပဋ္ဌာက အဂ္ဂမဟာဘိသက္က-လည်း ဖြစ်လေသည်၊ ယခုအခါ ၎င်းစာစောင်မှာ မထုတ်နိုင် တော့ပဲ ရပ်ထားရခြင်းအတွက် ဝမ်းနည်းဘွယ်ရာ ဖြစ်ပေတော့သည်။

**ပခုက္ကူနေ့စဉ်သတင်းစာ**

၎င်းပြင် ပခုက္ကူနေ့စဉ်ခေါ် သတင်းစာလည်း ပခုက္ကူမှ ပေါ်ထွက်ဘူးသည်၊ ၁၃၁၇-ခုနှစ်က စတင်ပေါ်ထွက်ခဲ့ရာ ထုတ်ဝေသူမှာ ဖော်ပြပါ ဆရာကြီး ဦးအောင်တင်ပင်ဖြစ်၍ ၎င်းသတင်းစာ ခေါင်းကြီးပိုင်းကို ဆရာဦးအောင်တင်နှင့် ပါဠိမြန်မာပညာရှိ ဦးလှသောင်(ယခု ခရိုင်သာသနာရေးအရာရှိ)တို့ တာဝန်ယူ၍ ရေးသားကြသည်၊ ဆရာကြီးသည် ပခုက္ကူနေ လူထု၏ မျက်လုံးပမာ လွန်စွာကျေးဇူးများလှပေသည်၊ ပခုက္ကူနေ့စဉ်သတင်းစာကြီး ပေါ်ထွန်းစဉ်က ၁၃၁၇-ခုနှစ် နယုန်လဆုတ် ၁၁-ရက်နေ့ထုတ် ပခုက္ကူသတင်းစာတွင် စာရေးဆရာ ဒဂုန်-ဦးထွန်းမြင့်၏ **"စာချရှင်များ ယာပထရှင်ရာ ပခုက္ကူရွှေမြို့ ဘဲ့"** ဟူသော ခေါင်းစဉ်ဖြင့် ဖော်ပြသည့် တေးထပ်တပုဒ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

သာသနာ ဝန်းနေရှိန့်၊
ထွန်းပေလိမ့် ဗုဒ္ဓူ၊
ခွန်းချေမိန့် နှုတ်ကြူသည်၊
ပခုက္ကူ ရွှေမြို့။
သာသနာ့ ခန်းဝါ ရဂုံမှာ၊
ဂန္ဓာရုံ ကြီးဟု ဆိုစို့။
ပိဋကပေါင်း ရစ်သီတယ်၊
နစ္စဂီ ညံလို့။
နှစ်အဆီ ကြံစိုလို့၊
အံ့ပျို့လု သဖွယ်။
ပါဝစနံ စာပေရှိမှာတော့၊
မဟာဝိ သုတာရာမ် ကွယ်။
နှုတ်ခပတ် ငါးနိကာယ်ကို၊
များသိဘွယ် အနက်မျိုးတွေနှင့်၊
စက်ဒိုးတော့ လှည့်သလ ထင်၊
ပိဋက ဂျင်။
အာဇာနည့် စာချရှင်တွေ၊
ယာပထရှင် ပျော်ကိန်းရာပလေး။

## ရွှေကူမြတ်စွာဘုရား

ရွှေကူဘုရားကျောင်းတော်သည် လူစည်ကားသည့်မြို့လယ်ရပ်ကွက်တွင် တည်ရှိနေသဖြင့် ကြည်ညို ဦးခိုက် ဖူးမြော်သူတို့ စည်ကားပေါ်များလှသည်၊ ရွှေကူဘုရားဝင်း တခုလုံး၌လည်း စေတီပုထိုးများ မြောက်မြားစွာဖြင့် ပြည့်နှက်နေသည်၊ ရွှေကူဘုရားဟု သမုတ်သည့် အတွင်းလိုဏ်ရှိ ဂန္ဓကုဋိစေတီတော်မှာ ရွှေသက်န်းတော်ဖြင့် ဝါဝင်းထိန်ပြေ ကျက်သရေရှိလှသည်၊ ဘုရားရှင်၏ သုဝဏ္ဏဝဏ္ဏလက္ခဏာ ရွှေအဆင်းအသွေးအရောင်နှင့်တူသော အဆင်းရှိသည်၏ အဖြစ်တည်းဟူသော လက္ခဏာကို ပေါ်လွင်စေပါသည်၊ ပတ်ဝန်းကျင်မှ ဝန်းရံလျက်ရှိသော စေတီပုထိုး ၄၂-ဆူတို့မှာမူ ထုံးသက်န်းဖြူဖြူဖွေးဖွေးဖြင့် သြဒါတရောင်ခြည်တော်ကို သတိရစရာဖြစ်လေသည်၊ ဘုရားကျောင်းတော်အတွင်း၌ သီဟိုဠ် ထူပဝင်,ရာဇဝင် ပန်းချီကားများနှင့် အခြား ကြည့်ရှုစရာ, သံဝေဂယူစရာ အများအပြားကို တွေ့မြင်နိုင်သည်၊ ဘုမိဖဿမုဒြာဘုရားဆင်းတုတော်နှင့် မတ်ရပ်တော်ဘုရားဆင်းတုတော်များကို ကြည်ညိုစရာ ဖူးမြင်ရသည်၊ အလွန်အံ့သြစရာကောင်းသော အရာဝတ္ထုမှာ တံကဲတော်ပင်ဖြစ်သည်၊ တံကဲတော်မှာ သစ်သားတံကဲရှစ်ထပ်ဖြစ်၍ အလွန်တရာအနုပညာလက်ရာပြောင်မြောက်သည်။

## သမိုင်းအကျဉ်း

**အလောင်းစည်သူ** ဘုရင်မင်းမြတ်(သက္ကရာဇ်-၄၅၄)သည် ဖောင်စကြာဖြင့် ဧရာဝတီ မြစ်နဒီတွင် ခရီးလှည့်ခဲ့ဘူးသည်၊ မင်းမြတ်နှင့်တကွ မောင်းမမိဿံ အခြွေအရံ များစွာပါဝင်သည်၊ ထိုအခြွေအရံများအနက် ကိုယ်ဝန်ရှိနေသော မောင်းမ တဦးသည်(သို့မဟုတ် မယ်စိမ့်ညိုအမည်ရှိသော မောင်းမတဦးသည်) ပေါက်အင်းအနီး ဆိုက်ရောက်သည်တွင် တံငါသည်လုလင်တို့ကို မြင်၍ မိန်းမကောင်းတို့၏ ဣန္ဒြေကို ဖောက်ဖျက်လျက် တပ်နှစ်သက်သည့်အသွင်ဖြင့် ရယ်သွမ်းသွေး၏၊ ထိုအခြင်းအရာကိုမြင်သော အလောင်းစည်သူမင်းသည် ဒေါသအမျက် ဆူပွက်၍ ကြိမ်စကြာဖြင့်ရိုက်နှက်ရာ လက်လွန်သဖြင့် အသက်ဆုံးရှုံးကံကုန်ရှာလေသည်။

## ဂူတည်ပြီ

အလောင်းကို ဖောင်စကြာပေါ်တွင် ခဲ့စေရာ သားသူငယ်အလောင်းကို တွေ့ရ၍ ဘုရင်တို့ထုံးစံအတိုင်း ဖောင်တော်ဆိုက်ကပ်ပြီး ရွှေဂူဘုရားတည်မည့် နေရာတွင် အခမ်းအနားဖြင့် ဈာပနပွဲကျင်းပလျက် သားငယ်အလောင်းကို အင်္ဂုဂူပြုလုပ်၍ ထားခဲ့သည်၊ သားကိုထုတ်၍ ဂူလုပ်ခဲ့ရာမှ **သားထုတ်ဂူ**, ကာလမြင့်သဖြင့် သားထုတ်ဂူမှ ရွေ့လျောကာ **ပခုက္ကူ** ဖြစ်လာကြောင်း အစဉ်အဆက် ဥဒါန်းတွင်ခဲ့သည်။

**"သားထုတ်ဂူ"** က္လတိ ပုဗ္ဗေဟိ၊ ပေါရာဏေဟိ ဘိသမ္မတံ။
သမ္မတိ ဟိ **"ပခုက္ကူ"** တိ၊ သမ္ဗေဟိ **အဘိလက္ခိတံ။**

အချို့ ရာဇဝင်ဆရာတို့က အလောင်းကို ဖက်နှင့်ထုပ်၍ ဂူ(ကူ)လုပ်သည် ဖြစ်ရကား သားထုပ်ဂူ=ပခုက္ကူ ဖြစ်လာကြောင်း ဆိုကြသည်၊ ထို့ကြောင့် သဲပုံစေတီ ထေရုပ္ပတ္တိကျမ်း ပဋ္ဌမကြငှန်းထီးဖွင့်ရန်အဆို၌ "သမတ အတုစနစ်၊ သမယ ယခုခေတ်တွင်၊ နရ လူ့ဓမ္မရာဇ် တနာမည်ပြောင်တဲ့၊ ပုဂံပြည်ပေါင် စည်သူမင်းသည်၊ ဇမ္ဗူအတွင်း တောင်လကျ်ာမှာ၊ ညီမူတသင်း ပြောင်လက်စွာ နှင့်၊ ဖောင်စကြာ ဖြန့်တုံအခါက၊ မြန့်ဘုံရာဇ မိဖုရားတပါး သားနရိန်ကို၊ ပတ္တမြားစိန် ဖက်နှင့်ထုပ်ပြီး၊ ခပ်သုတ်သုတ် ကူသို့ သွင်းတာကြောင့်၊ လူတို့ခပင်း သားထုပ်ဂူဟု၊ အများနှုတ်မှု ဝစီမင်္လာဖြင့်၊ အမည်တွင်ကာ အသရေမှု မချိုပေသော၊ ရွှေကူမြို့ မြင်သာဆုံကုန်းရပ်၌" စသည်ဖြင့် လာရှိသည်။

**တနည်း ပခန်းအုတ်ဂူမှ ပခုက္ကူ**

ရှေးက တပ်ကြားရပ်၏ အရှေ့ဖက်သည် ပခန်းနယ် ဖြစ်၍ တပ်ကြား၏ အနောက်ဖက်သည် မြင်သာရွာကြီး ဖြစ်လေသည်၊ တပ်ကြားရပ်သည် မြင်သာ နှင့်ပခန်းနယ်စပ် ဖြစ်ခဲ့သည်၊ အလောင်းစည်သူမင်း သားကို ဂူတည်လုပ်ခဲ့ရာ သည် ပခန်းနယ်ဖက်၌ ဖြစ်၍ ၎င်းဂူကို **ပခန်းအုတ်ဂူ**ဟု ခေါ်ကြသည်၊ ပခန်း အုတ်ဂူ အနီးအစပ်၌တည်သော ရွာကိုလည်း **ပခန်းအုတ်ဂူရွာ**ဟု ခေါ်ခဲ့ကြရာ (ပခန်း+အုတ်ဂူရွာ)မှ **ပခုက္ကူရွာ** ဖြစ်လာသည်၊တဖြည်းဖြည်း စည်ကားလာ၍ ပခုက္ကူမြို့ ဖြစ်လာခဲ့ရာ အင်္ဂလိပ်အစိုးရလက်ထက်တွင် ခရိုင်မြို့ကြီး ဖြစ်လာလေ တော့သည်။

**"ပခန်းအုတ်ဂူ"** တိ ပုဗ္ဗေဟိ၊ ပေါရာဏေဟိ ဘိသမ္မတံ။
သမ္မတိ ဟိ **"ပခုက္ကူ"** တိ၊ အပိ စ အဘိလက္ခိတံ။

# ရွှေကူဘုရား

ဖော်ပြပါအုတ်ဂူအနီး၌ အလောင်းစည်သူမင်း တည်ခဲ့သည်ဟု ယူဆရသော စေတီဟောင်းငယ်လေး တဆူ ရှိပါသည်၊ ၎င်းစေတီကို မူမပျက်ရအောင် ပုံတူ ယူပြီး လေ့သူကြီးတဦး မှ တည်၍ ယခု ဘူမိဖဿမုဒြာဆင်းတုတော်ကြီး စမွယ် တော်မူလျက်ရှိသော လိုဏ်နှင့်တကွ စုပေါင်းကာ ဘုရားတည်ခဲ့၍ စေတီတခုလုံး ရွှေသင်္ကန်းဖြင့် လွှမ်းချ ကိုးကွယ်ခဲ့ကြသည်၊ ၎င်းကို ရွှေရှိသောကူဘုရား ဖြစ် သည့်အတွက် ရွှေကူဘုရားဟု ယခုထက်တိုင် သမုတ်ခေါ် ဝေါ်လျက် ရှိကြသည်၊ ဂန္ဓကုဋိ ဂူစေတီ၏ရှေ့မှ သစ်သားတန်ဆောင်းကြီးကိုလည်း ဆောက်လုပ်ခဲ့ကြရာ မီးဘေးသင့်သဖြင့် ၁၂၇၉-ခုနှစ်တွင် ကမ်းနားနေ ဦးကြင်ဘော်-ဒေါ်မယ်ဦး တို့က ဘုရားစေတီ ဂန္ဓကုဋိရှေ့မှ တောင်မြောက် အခန်းကျယ် ၅-ခန်း, အရှေ့ အနောက် အခန်းကျယ် ၃-ခန်းရှိသည့် အာရုံခံ အုဋ်တန်ဆောင်းပြာသာဒ်ကို အနာထပိဏ်,ဝိသာခါတို့ပမာ ထက်သန်လှစွာသော သဒ္ဓါတရားဖြင့် သာသနာ တော်အား ရေစက်သွန်းချ လှူဒါန်းခဲ့ကြသည်။

## အပူဇော်ခံ မတ်ရပ်ဆင်းတုတော်

ရွှေကူဘုရားအနီး၌ ရွှေကူကျောင်းတိုက်သည် ပခုက္ကူ၌ လက်ဦးကျောင်း တိုက် ဖြစ်သည်၊ ယခုဆရာတော်များအထက်က ဆရာတော် ဦးပဒုမ, ဆရာတော် ဦးပဒုမအထက် ဘုန်းကြီးဦးသံတိုင်, ဘုန်းကြီးဦးသံတိုင်အထက် ဘုန်းကြီး ဦးသန့်,ဦးသန့်အထက် ဘုန်းကြီးဦးဗျား စသူတို့ ဖြစ်ကြသည်၊၎င်းကျောင်းတိုက် မှ ရဟန်းတော်များသည် ရှမ်းပြည်ကြွစဉ်က ဆင်းတုတော် ၃-ဆူ ပင့်ခဲ့ကြသည်၊ သုံးဆူအနက် တဆူမှာ ဘေးမဲ့ကျောင်း, တဆူမှာ ပျောက်သွားခဲ့, တဆူမှာ ယခုခေတ် ဘုရားပွဲကျင်းပစဉ် မြို့လှည့်သော ဉာဏ်တော် ၄-တောင်လောက်ရှိ မတ်ရပ်ဆင်းတုတော် ဖြစ်လေသည်၊ ၎င်းဆင်းတုတော်နှင့် ပုံတူ နောက်ထပ် ဆင်းတုတော်ကို ထုလုပ်ခဲ့ကြသေးသည်၊ ၎င်းဆင်းတုတော်ကို ရွှေကူညီတော် ဘုရားဟု သမုတ်ခဲ့ကြသည်၊ ဗုဒ္ဓဘာသာဝင် ဒကာ, ဒကာမအပေါင်းတို့သည် ပခုက္ကူမြို့၏ သမိုင်းဝင်ဘုရားတဆူ ဖြစ်တော်မူသည့် ရွှေကူမြတ်စွာဘုရားကို အောက်ပါ ဝန္ဒနာဂါထာဖြင့် ဖူးမြော်ကန်တော့ ဦးတိုက်ကြရာသည်။

သုပါကဋ မစိန္တေယျံ၊ သဓာတုကံ အတိတ္တိကံ။
ရွှေကူဝှ ဗုဒ္ဓရူပကံ၊ ဝန္ဒာမိ သိရသာဒရံ။

သုပါကဋံ၊ သုံးလောကဓာတ် နှံ့စပ်ထင်ရှား လွန်ကျော်ကြားတော် မူထ သော။ အစိန္တေယျံ၊ ကြံစည်မရ ဂုဏ်တော်အနန္တနှင့် ပြည့်စုံတော်မူထသော။

သဓာတုကံ၊ ဓာတ်တော်, မွေတော်အပေါင်းတို့၏ ကိန်းအောင်းစံပျော် တည်နေတော်မူရာလည်း ဖြစ်ထသော။ အတိတ္တိကံ၊ ဗြဟ္မာနတ်လူ ကြည်ဖြူညွတ်ခ ရှိခိုးဦးချ၍ အားရတင်းတိမ်ခြင်းကို မဖြစ်စေနိုင်ထသော။ ရွှေကူဝှ ဗုဒ္ဓရူပကံ၊ "ဘုရားရွှေကူ ဘုရားရွှေကူ"ဟု သုတိထင်ရှား ရွှေကူဆင်းတုတော် မြတ်စွာဘုရားကို။ သိရသာ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါဖြင့်။ အာဒရံ၊ နှစ်သက်ကြည်ညိုရိုသေလှစွာ။ အဟံ၊ အကျွန်ုပ်သည်။ ဝန္ဒာမိ၊ စက္ကဝတ်မင်းတရား ပတ္တမြားပမာ မြတ်သဒ္ဓါဖြင့် ခါခါဝပ်တွား ဦးချရှိခိုး ကန်တော့ပါ၏ဘုရား။

## ရွှေကူဘုရား တံကဲတော်

ညာဏ်တော်လေးတောင်လောက်ရှိ ရွှေကူမြတ်စွာဘုရား ဆင်းတုတော်မြတ်၏ တင့်တယ်စမွယ်တော်မူရာ တံကဲတော်မှာ လွန်စွာ အနုပညာ လက်ရာပြောင်မြောက်သော တံကဲတော်ဟု လူပြော ရှင်ပြော များခဲ့သည်၊ ပခုက္ကူ၌ရှိသော တံကဲတော်ကို ပခုက္ကူသားတို့ ထုလုပ်နိုင်ခြင်းအတွက်လည်း ပခုက္ကူ၏ ပန်းပုအတတ် တဖက်ကမ်းခတ်မှုကို ဂုဏ်ယူစရာဖြစ်လေသည်၊ ဣန္ဒိယတောင်ပိုင်းသားတို့သည် အမရဝတီ ပန်းတမော့အတတ်ဖြင့် ဂုဏ်ယူကြသကဲ့သို့ ပခုက္ကူသားတို့သည် ပခုက္ကူဖြစ် ပန်းတော့အတတ်, ပန်းတမော့အတတ်, ပန်းရန်အတတ်, ပန်းပုအတတ်, ပန်းပွတ်အတတ် စသည်တို့ဖြင့်လည်း ဂုဏ်ယူနိုင်ကြရာ ရွှေကူတံကဲတော်သည် ပန်းပုအတတ်အတွက် ဂုဏ်ယူစရာ တခန်းတကွက်ဖြစ်ကြောင်း သက်သေ သာဓက ပါပေတည်း။

တံကဲတော်မှာ အမြင့် ၁၂-ပေ ၁၀-လက်မရှိ၍ အလျား ၅-ပေ ၁၀-လက်မ ရှိလေသည်၊ တံကဲတော်၏ထုမှာ ၈-လက်မ ပန်း ၈-ထပ်နှင့် သစ်တုံး ၅-တုံးပေါ်တွင် ရုပ်လုံးဖော်ထားခြင်းဖြစ်သည်၊ ဤတံကဲတော်၌ အခန်းပေါင်း ၉-ခန်း ပါဝင်ရာ အစဉ်အတိုင်း မှတ်သားသင့်ပေသည်။

(၁) မြတ်စွာဘုရားသခင် ၇-ဝါမြောက်တွင် တာဝတိံသာနတ်ပြည်၌ ဝါကပ်တော်မူလျက် မယ်တော်နတ်သားအမှူးရှိသော တသောင်းသော စကြဝဠာတိုက်မှ လာရောက်ကြသော နတ်ဗြဟ္မာတို့အား အဘိဓမ္မာ ၇-ကျမ်းကို ဟောတော်မူပြီး သီတင်းကျွတ်လပြည့်နေ့၌ မြ, ရွှေ, ငွေ, လျှမ်းသည့် စောင်းတန်းသုံးသွယ်ဖြင့် လူ့ပြည် သင်္ကဿနဂိုရ်မြို့သို့ ဆင်းကြွပုံ (ဓမ္မပဒအဋ္ဌကထာ ဒုတိယအုပ် ၁၃၀-လာ ဒေဝေါရောဟဏဝတ္ထု)ကို သရုပ်ဖော်ထားသည်၊ ဘုရားရှင်မှာ တံကဲ၏ထိပ်ဆုံး အလယ်မှ မြစောင်းတန်းဖြင့် ကြွတော်မူဟန်, လက်ျာဖက်မှ ရွှေစောင်းတန်းဖြင့် နတ်တို့ လိုက်ပါပို့ဆောင်ဟန်, လက်ဝဲဖက်မှ ငွေစောင်းတန်းဖြင့် ဗြဟ္မာတို့ လိုက်ပါပို့ဆောင်ကြဟန်, လက်ျာဖက်မှ ပဉ္စသီခနတ်သားက

စောင်းတော်ကို ပိုက်၍ လိုက်ပွဲပုံ၊ လက်ဝဲဖက်မှ မာတလိသင်္ဂဟ နတ်သားက ပန်းပူဇော်ကာ လက်အုပ်ချီ၍ လိုက်ပွဲပုံ၊ မဟာဗြဟ္မာကြီးက ထီးတော်ဆောင်း မိုးပုံ၊ သုယာမနတ်သားက သားမြီးယပ်ဖြင့် ယပ်လေခတ်ပုံ-စသည့် ရုပ်တုတို့မှာ လွန်စွာမှ အသက်ဝင် လှုပ်ရှားလှလေသည်။

(၂) စောင်းတန်းအဆုံး၌ အရှင်မောဂ္ဂလ္လာန်ထံ မျှားစွာသောပရိသတ် ကြီးက နတ်ပြည်မှ လူ့ပြည်သို့ ဘုရားဆင်းကြွမည့် နေ့ရက်အချိန်ကို မေးပုံတို့ ဖြစ်လေသည်။

(၃) လက်ျာဖက် တံကဲနားရှက်၌ မာတလိနတ်သားက မြင်းလေးကောင် ကသော ရထားဖြင့် နေမိမင်းကြီးအား တရားဟောတော်မူရန် နတ်ပြည်သို့ ပင့်ဆောင်သွားပုံ ဖြစ်သည်။

(၄) လက်ဝဲဖက် နားရှက်၌ သာဓိန ဘုရင်မင်းမြတ်အား မြင်း ၃-ကောင် ကသော ရထားဖြင့် တရားဟောတော်မူရန် နတ်ပြည်သို့ ပင့်ဆောင်သွားပုံ ဖြစ် လေသည်။

(၅) လက်ျာဖက်အောက်ဆုံး၌ ဒေဝဒတ်က အဇာတသတ် မလိမ်တမာမင်း သားကလေးအား ဘခင်ဘုရင် ဗိမ္ဗိသာရကို လုပ်ကြံသတ်ဖြတ်ပြီး ဘုရင်လုပ်ရန် အကြံပေးနေပုံ ဖြစ်သည်။

(၆) လက်ျာဖက် ၅-နံပါတ်ပုံ၏ အထက်၌ ဘခင်ဗိမ္ဗိသာရမင်းကို နန်းမှ ချနေပုံ ဖြစ်သည်။

(၇) လက်ဝဲဖက် တံကဲအလယ်၌ ဗိမ္ဗိသာရမင်း ထောင်တွင်း၌ အစာဆာ လောင်လှသဖြင့် ဝေဒေဟီမိဖုရားကြီးက မြတဘက်ဖြင့် စတုမဓုသုတ်၍ ဆက်ရာ မင်းမြတ်ကြီး မြတဘက်ကို စုတ်နေပုံ ဖြစ်သည်။

(၈) အဇာတသတ်မင်း၏ အာဏာသားများက ဗိမ္ဗိသာရမင်းကြီး၏ခြေမကို ဓားဖြင့်ခွဲပုံတို့ကို ပညာသားပါလှစွာ ထုလုပ်ထားသည်မှာ တံကဲတော် ကြည့်ရင်း ရင်တမမ ဖြစ်စေလေသည်။

(၉) အဇာတသတ်မင်း သားကလေးမွေးဖွားကြောင်း သဝဏ်လွှာနှင့် ဘခင်နတ်ရွာစံကြောင်း သဝဏ်လွှာတို့ကို ရရှိပုံ စသည်တို့ ဖြစ်လေသည်။

ပခုက္ကူရောက်လာသော ဧည့်သည်တော် အာဂန္တုများသည် ရွှေကူဘုရားသို့ အရောက်သွား၍ တံကဲတော်လက်ရာ၏ ပြောင်မြောက်ပုံကို ကြည့်ရှုလေ့လာ သင့်ပေသည်။

## သမိုင်းအကျဉ်း

သက္ကရာဇ် ၁၂၆၉-ခုနှစ် တပေါင်းလဆုတ် ၃-ရက်နေ့မှစ၍ မဟာဝိသုတာရာမ တိုက် တိုက်အုပ်ဆရာတော် ဦးနန္ဒိယ၏ ရဟန်းအမကြီးနှင့် ဆရာတော်၏သီတင်းသုံးရာ ရတနသိဒ္ဓိ ကျောင်းအမကြီး ဒေါ်ဇီးဆံသည် ဖော်ပြပါ တံကဲပလ္လင်တော်ကို ရွှေကူရပ်မှ ပန်းပုဆရာ ဦးကံကြီးနှင့် သား ကိုတေတို့အား လက်ခငွေ ၄၀၀၀-ကျပ်ဖြင့် ထုလုပ်စေကာ ရွှေကူဆင်းတုတော် မြတ်စွာဘုရား သီတင်းသုံးရန် လှူဒါန်းခဲ့ရာ များစွာပင် သာဓုအနုမောဒနာ ပြုသင့်ပါသည်၊ ၁၃၀၇-ခုနှစ် ဝါခေါင်လဆန်း ၁၃-ရက်နေ့တွင် ကျောင်းအမကြီး ဒေါ်မြစ်က ထပ်မံပြင်ဆင်မွမ်းမံထားရာ များစွာ တင့်တယ်လှပါပေသည်။



သီဟိုဠ်ရှင်မြတ်စွာဘုရား ဆင်းတုတော်များပုံတော်

# သီဟိုဠ်ရှင်မြတ်စွာဘုရား

လောကသားတို့၏သခင် ဘုရားရှင်သည် အမတ်ပေါင်းတထောင် အခြံအရံရှိသော မဟာကပ္ပိနမင်းအား အရဟတ္တဖိုလ်တည်းဟူသော အမြိုက်ခတ်ကို အပ်နှင်းတော်မူလို၍ စန္ဒဘာဂါမြစ် ပညောင်ပင်ဆိပ်ကမ်းသာမှ ကြိုဆိုစောင့်မျှော်သည့်ပမာ သီဟိုဠ်ရှင်မြတ်စွာဘုရားသည်လည်း ချဉ်းကပ်ဖူးမြော်သူ နတ်၊ လူ့ပြဟ္မာတို့အား သုံးပါးသောချမ်းသာတရားကို ပေးအံ့သောငှါ မြစ်ကိုင်းရပ်မှ ကြိုဆိုစောင့်မျှော်လျက် ရှိလေသည်၊ ဘုရားကျောင်း တည်ရှိရာဌာနသည် အလွန် သန့်ရှင်းကျယ်ဝန်းလှသည့် မြေ ၅-ကေလောက်ရှိသော ကွက်လပ်ကြီးအတွင်း၌ ဝါဝင်းထိန်ပြေ ကျက်သရေရှိနေပြီး ရွှေရောင်တလျှပ်လျှပ်လင်းနေသော ဘုရားကျောင်းတော်ကြီးကို တွေ့နိုင်ပါသည်၊ ဘုရားဝင်းအတွင်း၌ သီဟိုဠ်ရှင်မြတ်စွာဘုရား ကိန်းဝပ်ရာဘုရားကျောင်းဂန္ဓကုဋီမှတပါး အခြားသော တန်ဆောင်းများ ဇရပ်များ အုဌ်တိုင်များ ဂူများနှင့် စေတီပုထိုးပေါင်း ၂၉-ဆူတို့ ဝန်းရံလျက် တည်ရှိနေသည်ကို ဖူးတွေ့ရသည်မှာ အားရ ကြည်နူးစရာ ကောင်းလှပါသည်။

ဋင်းပြင် သီဟိုဠ်ရှင်ဘုရားဂန္ဓကုဋီတိုက်မှ တောင်ဖက်၌ ပြတိုက်ကြီးကို တွေ့မြင်နိုင်သည်၊ ပြတိုက်အတွင်း၌ ရှေးဟောင်းပစ္စည်း အမျိုးမျိုး, ကြေးဆင်းတု ကျောက်ဆင်းတု သစ်သားဆင်းတုအမျိုးမျိုး,အသုံးအဆောင်ပစ္စည်းအမျိုးမျိုးတို့ကို ဖူးမြင်တွေ့ရှိနိုင်သည့်ပြင် သီဟိုဠ်ကျွန်း သံဃမိတ္တာဗောဓိပင်၏ သားတော် ဗောဓိပင်ပျိုး ၂-ပင်ကိုလည်း စိမ်းလန်းစိုပြေ ကျက်သရေရှိလှစွာ ဖူးတွေ့ရသည်၊ သီဟိုဠ်ရှင်ဘုရား အာရုံခံတန်ဆောင်း၏ တောင်ဖက်၌ မြင်သာရပ် ဦးလှမောင်-ဒေါ်ရွှေယုတို့ ကောင်းမှုဖြစ်သော သီဟိုဠ်ရှင်ဘုရားဆင်းတုတော် ရေသပ္ပါယ်ရာ, ရေသုံးသပ်ရာ, အုဌ်တန်ဆောင်းကြီးကိုလည်း သားနား လှပစွာ တွေ့မြင်ရပါသည်၊ ဂန္ဓကုဋီတိုက်ဆီသို့လာရန် အရှေ့ဖက်မှ စောင်းတန်းတသွယ်, တောင်ဖက်မှ စောင်းတန်းတသွယ် အားဖြင့် စောင်းတန်းနှစ်သွယ်ဖြင့် နေမပူ မိုးမစိုရပဲ ဘုရားဖူးနိုင်အောင် စီမံ ဖန်တီးထားပါသည်၊ ဂန္ဓကုဋီတိုက်တော်မှာလည်း မြန်မာ့အနုပညာပီသလေသည်၊ အတွင်း၌ ဘုရားဆင်းတုတော်များ ကိန်းဝပ်ရာခန်းမကို ဘေးရပ်မှ ပတ်ပတ်လည်၍ ဖူးမြင် ကြည်ညိုနိုင်သည်၊ အရှေ့ဖက်, တောင်ဖက်, မြောက်ဖက်တို့မှ ရွှေရောင် တဝင်းဝင်းနှင့် တလျှပ်လျှပ် လင်းနေသော ဘုရားဆင်းတုတော် ၃-ဆူကို ကျနစွာ ဖူးတွေ့နိုင်သည်၊ ဆင်းတုတော်များမှာလည်း ကြည်ညိုစရာ ကောင်းလှပါသည်၊ အနုပါဒိသေသ ဓာတ်ဖြင့် မငြိမ်းသေးသော သက်တော်ထင်ရှားရှိသည့် သဇီဝဘုရားအသွင် ထင်မြင်ဖူးတွေ့ရပါသည်၊ "ဟေ

ကုလပုတ္တာ ဓမ္မံ တေ ဒေသေဿာမိ = အမျိုးကောင်းသား ငါဘုရားထံမှောက် အရောက်လာခဲ့၊ သင့်ကို တရား ရေအေး တိုက်ကျွေးလိုက်ပါ့မယ်" စသည့် မိန့်တော်သံစကား မြွက်ကြားမည့် အလားကဲ့သို့ ထင်မှတ်ရလောက်အောင် ကြည်ညိုစရာ ဆောင်လျက်ရှိပါသည်။

ဂန္ဓကုဋီကြီး၏အထက်သို့ မော်ကြည့်လိုက်လျှင် အရပ်လေးဖက်မှ ရာပေါင်းများစွာသော ရွှေရောင်အဆင်း ၀ါ၀င်း ထိန်ပြေ ကျက်သရေရှိနေသည့် ဆင်းတုတော်အရှင်မြတ်တို့ကို ဖူးမြင်ရင်း ပခုက္ကူ ဒကာ-ဒကာမ, ဘုရားဒကာ-ဘုရားအမတို့၏ သဒ္ဓါသမုဒ္ဒရာကို အဘယ်သူသည် မချီးကျူး, မအံ့သြပဲ ရှိနိုင်ပါမည်နည်း၊ အထက်တည့်တည့်၌ မိုးကောင်းကင်ပုံ ဖန်တီး၍ထားကာ နက္ခတ်, တာရာ အသီးသီးတို့ကို စာဖြင့်ရေး၍ ဖော်ပြထားလေသည်၊ အဿ၀ဏီ နက္ခတ်, ကြတ္တိကာနက္ခတ်, ဘရဏီနက္ခတ်, ရောဟိဏီနက္ခတ်, မိဂသီနက္ခတ်, အဒြနက္ခတ်, ပုနဗ္ဗသုနက္ခတ်, ဖုသျှနက္ခတ်, အဿလိသနက္ခတ်, မာဃနက္ခတ်, (ဖဂ္ဂုဏီနက္ခတ်) ပုဗ္ဗဖလဂုဏီနက္ခတ်, ဥတ္တရဖလဂုဏီနက္ခတ်, ဟဿတနက္ခတ်, စိတြနက္ခတ်, သွာတိနက္ခတ်, ၀ိသာခါနက္ခတ်, အနုရာဓနက္ခတ်, ဇေဋ္ဌနက္ခတ်, မူလနက္ခတ်, ပုဗ္ဗာသာဠ်နက္ခတ်, ဥတ္တရာသာဠ်နက္ခတ်, သရ၀ဏ်နက္ခတ်, ဓနိဋ္ဌာနက္ခတ်, သတ္တဘိသျှနက္ခတ်, ပုဗ္ဗဘဒြပိုဒ်နက္ခတ်, ဥတ္တရာဘဒြပိုဒ်နက္ခတ်, ရေ၀တီနက္ခတ် ဟူသော နက္ခတ် ၂၇-လုံးတို့ကို ပုံစံများနှင့်တကွ စာရေး၍ ဖော်ပြထားသည်၊ သတိထားရှုစားလျှင် ပညာသားပါလှပါသည်၊ သီဟိုဠ်ရှင် ဘုရားဝင်းကြီး၏ ပတ်လည်၌ ဣန္ဒြိယာရာမတိုက်, သီဟိုဠ်ရှင်ဘုရားကြီးတိုက်, သုံးထပ်တိုက်, ပုထိုးတိုက်စသည့် ကျောင်းတိုက်ပေါင်း များစွာတို့ဖြင့် ၀န်းရံလျက် ရှိသည်မှာ သီဟိုဠ်ကျွန်း မဟာစေတီဘုရားဝင်းကို ပတ်၍ တည်ရှိနေသည့် မဟာ၀ိဟာရ ကျောင်းတိုက်ကြီး အတွင်းမှ ကျောင်းများနှင့် ပုံခိုင်းစရာ ဖြစ်ပေတော့သည်။

### အတိုင်းအတာ ပမာဏ

ဂန္ဓကုဋီတိုက်တော်မှာ အမြင့်ပေ ၁၁၀-ရှိ၍ ဂန္ဓကုဋီအတွင်း လိုဏ်ဂူတော်ကား အလျား အနံ သံတောင် ၂၁-တောင်, အမြင့် ၃၆-တောင်မျှ ရှိလေသည်၊ ဆင်းတုတော်မှာ သံတောင် ၃-တောင် ၂-မိုက်, လက်ဝဲ လက်တော်မှာ ပက်လက်လှန် ဖြစ်၍ လကျ်ာလက်တော်မှာ ထောင်၍ ကာပုံတော် ဖြစ်သည်၊ ဆံတော်ပုံမှာ သီဟိုဠ်ဆံတော်ပုံ တင်လျက် သက်နိုးတော် အစွန်း အမြိတ်တို့မှာ အချိတ်အကွေ့ ထင်ကုန်၏။

### ဘွဲ့တော်အမျိုးမျိုး

ဘုရားဆင်းတုတော်မြတ်၏ ဘွဲ့တော်မှာ သိဿိုဠ်ရ ဘုရား ဟူ၍ရင်း, သိဿိုဠ်ရှင်ဘုရား ဟူ၍ရင်း, သီဟိုဠ်ရှင်ဘုရား ဟူ၍ရင်း နာမည်တော် ဘွဲ့တော်

အမျိုးမျိုးဖြင့် သုံးလောကအတွင်း သတင်းကြူလျက်ရှိရာ သီဟိုဠ်ကျွန်းမှ ရသောကြောင့် သီဟိုဠ်ရဘုရား သို့မဟုတ် သီဆိုဠ်ရဘုရားဟု ဆိုနိုင်သည်၊ သီဟိုဠ်=သီဆိုဠ်မှာ အတူတူပင် ဖြစ်လေသည်၊ သီဟဠဟူသော ပါဠိဘာသာ စကားကို မြန်မာဘာသာစကားသို့ ပြန်လျှင် သီဟိုဠ်ဟု ပြန်ရမည် ဖြစ်သည်၊ ယင်း သီဟိုဠ်ဟူသောပုဒ်၌ ပါသော ဟ-ကို ဆ-အက္ခရာသို့ ပြောင်း၍ "လဆု" ဟူသော ပုဒ်ကဲ့သို့ သီဆိုဠ်ဟု ခေါ်ဝေါ်ကြသည်၊ သီဟိုဠ်ဘုရင် ဆက်သသော ဆင်းတုတော်အရှင်မြတ် ဖြစ်ရကား သီဟိုဠ်ရှင်=သီဆိုဠ်ရှင်ဟူသော အတ္ထာနုဂတ ရွှေဘွဲ့တော်ကား သဘာဝကျလှပါပေသည်။

## သမိုင်းအကျဉ်း

ထီးလှိုင်ရှင် ကျန်စစ်သား မင်းသည် မြေးတော် အလောင်းစည်သူကို သီရိ-ဇေယျာသူရဘွဲ့ ပေးလျက် ရာဇာဘိသိက်ပွဲသဘင် စီရင်တော်မူသည်၊ ကျန်စစ်သား လက်ထက်တွင် လက်ထောက်ဘုရင်, ဘုရင်ကလေး, အိမ်ရှေ့မင်းသား,အိမ်နိမ့်စံ မင်းသား ဖြစ်ခဲ့သည်၊ ဘိုးတော်ကျန်စစ်သားမင်းကြီး နတ်ရွာစံသော် သက္ကရာဇ် ၄၅၄-ခုနှစ်တွင် သီရိဇေယျာသူရသည် ပုဂံပြည်ကြီး၏ ထီးဆောင်းဘုရင် ဖြစ်လာသည်၊ မင်းမြတ်သည် ရတနာသုံးပါး၌ အလွန် ကြည်ညိုတော်မူသည်၊ အရှင် အရဟံအစရှိသော ရဟန္တာသခင် အရှင်မြတ်တို့ ထံမှောက်သို့လည်း အရောက် ချဉ်းကပ်ကာ တရားတော်ကိုနာယူသည်၊ အလောင်းစည်သူမင်းကြီး နန်းတက်၍ တနှစ်ကြာလေသော် အရှင်အရဟံ ပရိနိဗ္ဗာန်ဝင်စံတော်မူသည်၊ အရှင်အရဟံ ပရိနိဗ္ဗာန်ဝင်စံပြီးနောက် မင်းကြီးသည် ပင်လယ်ခရီး ကြွတော်မူ၍ လံကာဒီပ အမည်ရသော သီဟိုဠ်ကျွန်းသို့ ဆိုက်ရောက်တော်မူလေသော် သီဟိုဠ်မင်းသည် အလောင်းစည်သူမင်းကြီးအား လူ ဗိုလ်ခြေ ရှစ်သိန်း စီးနင်း လိုက်ပါနိုင်သော သက်နက်လှေတော်ကြီးနှင့် သမီးတော် စောဦးထွေးကို ဆက်သတော်မူသည်၊ အရှင်မဟာကဿပထေရ် မူတင်ကျင့်ဟန် ရုပ်တုတော်ကိုလည်း ဆက်သပြန်သည်၊ မင်းမြတ်သည် အရှင်မဟာကဿပရုပ်တုတော်ကို သက်နက် လှေထက်တွင် ဦးထိပ်၌ ပင့်တင်၍ ကိုးကွယ် ပူဇော်တော်မူလေသည်၊ မင်းကြီးသည် ပင်လယ် ခရီးထွက်စဉ် သိကြားမင်းဆက်သသော ရှင်ဖြူ,ရှင်လှ ၂-ဆူ, သိကြားမင်းနှင့် ဝိသကြုံ နတ်သားတို့ ဆက်သသော သာရက္ခန်ရုပ်တုတော် ၅-ဆူ, သပြေသား, သာရက္ခန်သားတို့ကို ထုလုပ်ရာတွင် ဆောက်စာ အစအနတို့ကို စုပေါင်း၍ ထုလုပ် ထားသော မြတ်ပေါင်းမဇ္ဈူ ၁-ဆူနှင့် မူလက သီဟိုဠ်မင်း ဆက်သသော အရှင် မဟာကဿပရဟန္တာရုပ်တုတော်ကိုပေါင်းလျှင် ရုပ်တုတော် ၉-ဆူ လောကုတ္တရာ လက်ဆောင်ပဏ္ဏာတော်ကို ရရှိခဲ့သည်၊ မင်းမြတ်သည် သိကြားမင်း၏ပရိယာယ် ကြောင့် မြင်းမိုရ်တောင် သွားရန်အကြံကို လက်လျှော့၍ ကိုယ့်တိုင်း ကိုယ့်ပြည် ကိုယ့်ဌာနီသို့အပြန် မာလာယုကျွန်းအနီး သမုဒ္ဒရာအတွင်း၌ သိကြားမင်း အပ်နှံ

လာသော သံဃမိတ္တာဗောဓိပင်၏ ဒက္ခိဏသာခါ မဟာဗောဓိသစ်တော်နှင့်တကွ စန္ဒကူးနှစ် သစ်တော်၊ သာရကန္ဒန်နှစ် သစ်တော်၊ သပြေနှစ် သစ်တော်၊ ထင်းရှူးနှစ် သစ်တော်၊ ပင်လယ်ကသစ်နှစ် သစ်တော်၊ ကုက္ကိုနှစ် သစ်တော်၊ သခွပ်နှစ် သစ်တော်၊ ထိမ်နှစ် သစ်တော်၊ နံ့သာမျိုးနှစ် သစ်တော်အားဖြင့် သစ်သားနှစ် ဆယ်မျိုးကို ရောစပ်၍ သံတောင် ၃-တောင် ၂-မိုက်ရှိသော မတ်ရပ်တော် ဆင်းတုတော်ကို ထုလုပ်ကာ သီဟိုဠ်ဘုရင်သည် အလောင်းစည်သူမင်းအား ဆက်သလာလေသည်၊ (မင်းမြတ်၏တန်ခိုးကြောင့် နတ်ပြည်မှရရှိသော ပင်လယ်ကသစ်ဖြစ်တန်ရာသည်)။

## သီဟိုဠ်ရှင်ဘုရားတည်ခြင်း

အလောင်းစည်သူမင်းကြီးသည် မိမိ၏စံရာဌာနီ ပုဂံပြည်သို့ရောက်သောအခါ ပူဇော်ဖွယ်အမျိုးမျိုးဖြင့် သီဟိုဠ်မင်းဆက်သသောဆင်းတုတော်ကို ပူဇော်လေသည်၊ သာသနာသက္ကရာဇ် ၁၆၆၁-ခု၊ ကောဇာသက္ကရာဇ် ၄၇၉-ခုနှစ်တွင် အရှင်အရဟံ၏တပည့်စဉ်ဆက် ရဟန္တာသခင်အရှင်မြတ်တို့ ညွှန်ပြအပ်သော ပခုက္ကူမြို့ အနောက်ပိုင်း ယခု မြစ်ကိုင်းခေါ်သောအရပ်၌ ဂန္ဓကုဋီ ကျောင်းတော်ကို အုတ်မြစ်ချ တည်ဆောက်ပြီး သီဟိုဠ်မင်းဆက်သသည့် ဆင်းတုတော်မြတ်ကို ကိန်းဝပ်စေကာ နိဗ္ဗာန်အောင်မြို့သို့ ဆောင်ပို့မည့် မဂ္ဂင်ရွှေဖောင်ကြီးပမာ တည်ထား ကိုးကွယ်ခဲ့လေသည်၊ အလောင်းစည်သူမင်းမြတ်၏ ကောင်းမှုတော် ဆင်းတုတော်ကြီးမှာ ဘုရားဖူးလူထု၏စေတနာကြောင့် ရွှေများ လွန်စွာထူထပ်များပြားလေသည်၊ ၁၉၆၆-ခုနှစ် ဧပြီလ ၁၃ ရက်နေ့တွင် ချိန်ကြည့်ရာ ရွှေသား ချိန် ၁၀၀-ပိဿာ ၂၅-ကျပ်သား ရှိကြောင်း ဘုရားလူကြီးများထံမှ သိရသည်၊ ဖော်ပြပါ အလောင်းစည်သူမင်း တည်ထားကိုးကွယ်ခဲ့သည့် သီဟိုဠ်ရှင် အမည်တော်တွင်သည့် ဘုန်းတော်၊တန်ခိုးတော် အနန္တနှင့် ပြည့်စုံသော ဘုရားဆင်းတုတော်မြတ်ကို အောက်ပါ ရှေးဟောင်းလင်္ကာဖြင့် ဦးတိုက်ပူဇော်ရာသတည်း။

## သီဟိုဠ်ရှင် ဘုရားရှိခိုးလင်္ကာ

နရပတိစည်သူ၊ လူတို့ထွတ်ချာ၊ ကေရာလျှင်၊ စကြာသနင်း၊ ထန်ပြင်းတေဇာ၊ အာဏာလျှံသ၊ သီဟဠရာဇာ၊ ထိုမင်းမှာမူ၊ သင့်ရာလက်ဆောင်၊ ပါအောင်နှစ်ခိုက်၊ ထိုသူနှိုက်တွင်၊ သင့်စီရင်၍၊ ချစ်ရှင်ကော်ရော်၊ အကြည်တော်ဟု၊ ပူဇော်ပန်ချေ၊ ကျွတ်ဆုဖွေသည်၊ သပြေသာရကန္ဒန်၊ မြတ်မွန်ဗောဓိ၊ မွှေးဘိနံ့သာ၊ ကြိုင်စွာစန္ဒကူး၊ ထင်းရှူးအနှစ်၊ မြကသစ်နှင့်၊ စင်စစ်မချွတ်၊ သခွပ်ကုက္ကို၊ ထိမ်ဟုဆိုသား၊ သစ်ဆယ်ပါးကို၊ ပေါင်းငြားအစု၊ ရုပ်တုပြု၍၊ ကျွတ်ဆုပန်ယူ၊ ကြည်ဖြူညွတ်နူး၊ နန်းဦးတင်ထား၊ မြတ်ဘုရားကို၊ ဆင့်ပွါးသဒ္ဒါ၊ ကိုးကွယ်ပါသည်၊ စကြာညွှန့်ဖူး၊ ဖောင်တော်ဦးတွင်၊ ရှင်မြူးအသရေ၊



စေတီရံအချို့နှင့် သီဟိုဠ်ရှင်မြတ်စွာဘုရားကျောင်းတော်ကို ဖူးမြင်ရပုံ

ဆက်လိုက်ပေ၍၊ သပြေသောင်းလုံး၊ တေဇောချွန်းသား၊ ကျွန်းဆုံးကျေညာ၊ မြတ်စကြာရှင်၊ ဤရုပ်တွင်၌၊ ဖောင်တော် ရပ်ဆိုင်း၊ ဖောင်တော်ကိုင်း၍၊ သမိုင်းစဉ်လာ၊ ယခုသာရှင့်၊ ဝေါဟာမြစ်ကိုင်း၊ ရှေးသမိုင်း၌၊ ဖောင်ကိုင်းဇာတိ၊ တွင်ရင်းရှိသား၊ မုန်ိထွင့်တင်၊ သီဟိုဠ်ရှင်ကို၊ ကြည်လင်မြတ်နိုး၊ ရှိပန့်ခိုးသည်၊ ကောင်းကျိုးလျှင်ဆော ရောက်စေသောဝ်။

## သီဟိုဠ်ရှင် ဘုရားရှိခိုးပါဌ်အနက်

သုပါကဋ္ဌ မစိန္တေယျံ၊ လက်ာရာဇ သုဒတ္တိယံ။
ဒသဒါရုဟိ နိမ္မိတံ၊ နမာမိ ပဋိမံ ဝရံ။

သုပါကဋ္ဌံ၊ သုံးဘုံအဝင် ပျံ့တက်ကျော်ကြား လွန်ထင်ရှားတော်မူထသော။ အစိန္တေယျံ၊ ကြံစည်မရ တန်ခိုးတော်အနန္တလည်း ရှိတော်မူထသော။ လက်ာ-ရာဇသုဒတ္တိယံ၊ အလောင်းစည်သူ သတင်းကြူသား မင်းတရားအား လေးစား ပျပ်ဝပ် သီဟိုဠ်ဘုရင် ကောင်းစွာ ဆက်သအပ်သော။ ဒသဒါရုဟိ၊ သစ်မင်း ဗောဓိ တုမရှိမှန် သာရက္ခန်စန္ဒကူး ထင်းရှူးကသစ် သပြေနှစ်နှင့် သခွပ်ကုက္ကို ထိမ်နှစ်ဆိုလစ် နံ့သာနှစ်ဟု ဆယ်ခုဆယ်ပါး ပိုင်းခြားတွက်စစ် သစ်သားနှစ်တော် တို့ဖြင့်။ နိမ္မိတံ၊ မတ်ရပ်တော်ဟန် စီမံဖန်တီး အပြီးထုလုပ်အပ်ထသော။ ပဋိမံ ဝရံ၊ ကမ္ဘာလောကဓာတ် မြတ်ထက်မြတ်ဟု သုတိထင်ရှား သီဟိုဠ်ရှင် ဆင်းတုတော် မြတ်စွာဘုရားကို၊ အဟံ၊ သံသရာဝဋ် တဏှာညွတ်မှ လွတ်ရန် ရည်ရော် တပည့်တော်သည်။ နမာမိ၊ သုံးတန်စေတနာ သုံးဖြာဒွါရ ပဏာမဖြင့် ကြည်စွသဒ္ဓါ ရှိခိုးဦးညွှတ်ပါ၏ ဘုရား။

## ဆင်းတုနှစ်ဆူနှင့် ဂန္ဓကုဋီ ပြင်ဆင်ခြင်း

သက္ကရာဇ် ၁၁၇၈-ခုနှစ် ဝါဆိုလတွင် မြင်သာရွှာအုပ်ကြီးသည် သီဟိုဠ်ရှင် ဆင်းတုတော်မြတ်စွာဘုရားကိန်းဝပ်ရာ ဂန္ဓကုဋီတိုက်စေတီတော်ကြီးကို အင်္ဂတေ သင်္ကန်း မွမ်းမံလွမ်းတင်သုတ်လိမ်း၍ ထီးတော်သစ်ကိုလည်း တင်လှူခဲ့သည်၊ သက္ကရာဇ် ၁၁၈၅-ခုနှစ်တွင် ဂန္ဓကုဋီ စေတီမြတ်ကြီးကို လုံးပတ်ပြည့် ရွှေသင်္ကန်း လှူဒါန်းလေသည်၊ ရွှေဆိုင်းရေ ၁၁၇၇-ဆိုင်း ကုန်လေသည်၊ သီဟိုဠ်မင်း ဆက်သသော ဆင်းတုတော်ကြီးတူစွာ လက်ဝဲ လက်ျာ ဆင်းတုတော် နှစ်ဆူကို လည်း သီဟိုဠ်ကျွန်း ဓာတုသေနမင်းအလား ကြီးမားသော သဒ္ဓါတရားဖြင့် ထု လုပ်ကိုးကွယ်ခဲ့သည်၊ မြင်သာရွှာအုပ်ကြီး၏ကောင်းမှုတော်ဆင်းတုများ၏ ရွှေ သားချိန်ကို သိလို၍ ၁၉၆၆-ခုနှစ် ဧပြီလ ၁၃-ရက်နေ့က ချိန်ကြည့်ရာ လက်ျာ ဆင်းတုတော်မှာ ရွှေသားချိန် ၄၃-ပိဿာ ၂၅-ကျပ်သားရှိ၍ လက်ဝဲဆင်းတု တော်မြတ်၏ ရွှေသားချိန်မှာ ၃၅-ပိဿာ ရှိကြောင်း ဂေါပကအဖွဲ့၏ လျှောက် ထားချက်အရ သိရသည်။

## ဒုတိယအကြိမ် ပြင်ဆင်ခြင်း

သက္ကရာဇ် ၁၂၈၄-ခုနှစ်တွင် ပခုက္ကူ မြင်သာရပ်၌ မွေးဖွားခဲ့၍ ပုသိမ်ခရိုင် ကျောင်းကုန်းမြို့ မိုးပြာရွာ၌ ကြီးပွါးခဲ့သော **ဒေါ်လေးကြီးနှင့်** သား **ဦးမောင်ဆင့်** သမီး **မထား**တို့က ငွေအသပြာ တသိန်းကျော်ကို စွန့်လှူကာ အသစ် ပြင်ဆင် တည်ဆောက်ခဲ့သည်။

## တတိယအကြိမ် ပြင်ဆင်ခြင်း

သီဟိုဠ်ရှင် မြတ်စွာဘုရား သီတင်းသုံးရာ ဂန္ဓကုဋီစေတီနှင့် **တန်ဆောင်းတော်** ကြီးမှာ ၁၃၂၆-ခုနှစ် နှောင်းတန်ခူးလဆန်း ၂-ရက်နေ့တွင် မီးခသဖြင့် အများ ပြည်သူတို့၏ အကူအညီဖြင့် ၁၃၂၈-ခုနှစ် သီတင်းကျွတ်လဆန်း ၁၁-ရက်နေ့မှစ၍ အုဋ်, ကျောက်, သံ, အင်္ဂတေတို့ဖြင့်ပြီးသော တန်ဆောင်းတော်သစ်ကြီးကို **ဘုရား** ကြီးဂေါပက အဖွဲ့မှ ဦးစီးရွေဆောင်၍ တည်ဆောက်လျက်ရှိရာ အားလုံး ပြီးစီးလျှင် ကျပ်ငွေ ၅-သိန်းလောက် ကုန်ကျမည် ဖြစ်လေသည်။

ပဥ္စမကျော် **လယ်တီ အရှင်ကောဝိဒ**သည် ထိုအချိန်က သီဟိုဠ်ရှင်ဘုရား မြင်ကွင်းကို အောက်ပါဂါထာဖြင့် မိမိသမိုင်းတွင် ဖွဲ့ဆိုခဲ့သည်။

ပခုက္ကူနဂရေ ရမ္မေ၊ ဂုဟာလေဏာဒိမဏ္ဍနော။
မဟာ သီဟဠသာမိ’သိ၊ ထူပေါ နရာဒိပူဇိတော။

ရမ္မေ၊ စီးတသွင်သွင် မြစ်ရေပြင်နှင့် ကုန်းခင်ဝိုက်ကာ ပျော်မွေ့ဘွယ်ရာ ကောင်းသော။ ပခုက္ကူနဂရေ၊ ပခုက္ကူ အမည်ရှိသော မြို့ကြီး၌။ ဂုဟာလေဏာဒိ-မဏ္ဍနော၊ ဂူလိုဏ်တန်ဆောင်း ပြာသာဒ်ပေါင်းနှင့် အုဋ်ကျောင်း စရပ် အစရှိသော အဆင်တန်ဆာရှိပေသော။ နရာဒိပူဇိတော၊ လူနတ် စသည် သဒ္ဓါစည် လျက် ရှင်ကြည်ကော်ရော် ပူဇော်လေးနာအပ်သော။ သီဟဠသာမိ၊ သီဟိုဠ် ကျွန်းတွင် ပြည့်သခင်ဟု ခေါ်တွင်ဖွဲ့ဆို သီဟိုဠ်ရှင် အမည်ရှိတော်မူသော။ မဟာ၊ ကြီးလည်းကြီးမား ဆန်းဆန်းပြားနှင့် ခမ်းနားသပ္ပါယ်တော်မူသော။ ယော ထူပေါ၊ ဓာတ်မွေသရီ မြတ်စေတီဟု မဟီညွှတ်ကျိုး အကြင်ပုထိုး မြတ်စွာဘုရားသည်။ အာသိ၊ ယခုထက်တိုင် မပျက်နိုင်ဘဲ ခိုင်ခိုင်ခံ့ခံ့ ကျွန်းလုံး လန့်မျှ တည်တံ့၍နေ ထင်ရှားရှိခဲ့ပေသတည်း။

## သီဟိုဠ်ရှင်ဘုရားကျောင်း ပြတိုက်

သီဟိုဠ်ရှင်မြတ်စွာဘုရား ကိန်းဝပ်စမွယ် သီတင်းသုံးတော်မူရာ ဂန္ဓကုဋီတိုက် တော်ကြီး၏ တောင်ဖက်တွင် အလျား ၄၈-တောင်, အနံ ၃၆-တောင်ရှိ ပြတိုက်ကြီး ရှိလေသည်၊ သီဟိုဠ်ကျွန်း ကန္ဒီမြို့ စွယ်တော်အနီးရှိ ပြတိုက်ကဲ့သို့



ရေသွန်းခံ တန်ဆောင်းတော်နှင့် သီဟိုဠ်ရှင်မြတ်စွာဘုရားကျောင်းတော်

ဘုရားအနီး ပြတိုက်ရှိခြင်းသည် လွန်စွာ လျော်ကန် သင့်မြတ်သည်၊ ဘုရားနှင့် စပ်ဆိုင်သည့်ပစ္စည်းများ, ဘုရားဆင်းတုတော်အမျိုးမျိုး, သိကြားရုပ်, ဗြဟ္မာရုပ် စသည့် ရှေးဟောင်း ဝတ္ထုများကို သိမ်းမှီးရန်အတွက် အလွန်လျောက်ပတ်သည်၊ ပြတိုက်ဟု ဆိုသော်လည်း အမှန်မှာ ဆင်းတုတော်များ ကိန်းဝပ်ရာ "ပဋိမာဃရ=ဘုရားဆင်းတုများ သီတင်းသုံးရာ ဘုရားကျောင်းတော်"ပင် ဖြစ်သည်။

### သာသနာတွင် အစဆုံး ဘုရားကျောင်း

ဆင်းတုတော်များ သီတင်းသုံးရန် ကျောင်းဆောင်များ ဆောက်လေ့ဆောက်ထကို သာသနာသက္ကရာဇ် ၆၀၀ ခုနှစ်တွင် သီဟိုဠ်ကျွန်း၌ နန်းတက်သည့် ဝသဘ မင်းကြီးလက်ထက်တွင် စတင်ပေါ်ပေါက်ကြောင်း ယုံကြည်ကြသည်၊ ဝသဘ မင်းကြီးသည် ၁၂-နှစ်သာ မင်းပြုရမည်ဟု ဗေဒင်ဆရာတို့က ဟောကြသည်၊ မင်းမြတ်သည် အသက်ရှည်ရန် နည်းဥပါယ်ကို သံဃာတော်ထံမှ သိရ၍ ရေစစ် လှူဒါန်းခြင်း, ကျောင်းကန် လှူဒါန်းခြင်း, ဂိလာန ရဟန်းတို့အား ဆေးပစ္စည်းစသည် လှူဒါန်းခြင်း, ကျောင်းအိုများ ပြုပြင်ခြင်း စသည်တို့ကို ပြုလုပ်သည်၊ သံဃမိတ္တာဗောဓိပင် ယင်ပြင်၌ ဆင်းတုတော် ၄-ဆူနှင့်တကွ ဆင်းတုတော်များ သီတင်းသုံးရန် ဘုရားကျောင်း တည်ဆောက်ခဲ့ကြောင်း—

"စတုဗုဒ္ဓ ပဋိမာရမ္မံ၊ ပဋိမာနံ ဃရံ တထာ။
မဟာဗောဓင်္ဂဏေ ရမ္မေ၊ ရာဇာ သောယေဝ ကာရယိ"—

ဟု မဟာဝံသ ၃၅-ခုမြောက်အပိုင်း၌ တွေ့ရပေသည်၊ ဝသဘ မင်းမြတ်သည် ဖော်ပြပါ ကောင်းမှုများကြောင့် နန်းသက် ၄၄-နှစ် ရှည်၍ နတ်ပြည်တွင် ပြောင်းရွှေ့ ပျော်မွေ့ရလေသည်။

### ပြတိုက်သမိုင်း

ပခုက္ကူမြို့ ဈေးအနီး ရွှေညောင်ပင်တိုက်မှ ဒေါ်ဟိတ်အမည်ရှိသော ဒါယိကာမကြီးသည် တင်းနီးပါးသော အသပြာငွေကို စွန့်လွှတ်၍ အထက်ပါ ဝသဘ မင်းကြီး၏ ထုံးကို နှလုံးမူလျက် ၁၃၁၂-ခုနှစ်တွင် နိဗ္ဗာန်တည်းဟူသော တဖက်ကမ်းသို့ ဆောင်ပို့မည့် မဂ္ဂင်ရွှေဖောင်ကြီးပမာ စိတ်နှလုံး ရွှင်ပြုံးမွေ့လျော်ဖွယ် ကောင်းသည့် ကျယ်ဝန်းလှသော ဘုရားကျောင်းပြတိုက်တော်ကြီးကို အပြီးသတ် တည်ဆောက်ခဲ့ကြောင်း ကောင်းချီးပေးကာ အောက်ပါ ဂါထာဖြင့် မှတ်တမ်းတင်အပ်ပါသည်။

နိဗ္ဗာနတီရံ ပါပေတုံ၊ နာဝံ သောဝဏ္ဏယံ ဝိယ။
ကာရေသိ ပဋိမာဂါရံ၊ သုဝိသာလံ မနောရမံ။

## ရေသွန်းခံတန်ဆောင်းတော်

ရေသွန်းခံ တန်ဆောင်းတော်ကြီးမှာလည်း မှတ်တမ်းတင်ထိုက်သော သာသနာ့ အဆောက်အဦတခု ဖြစ်ပါသည်၊ ရေသွန်းခံ တန်ဆောင်းတော်ကြီးမှာ အလျား ၅၄-တောင်, အနံ ၂၆-တောင် ရှိ၍ လွန်စွာ လှပ ကျက်သရေ ရှိလှသည်၊ သီဟိုဠ်ရှင် မြတ်စွာဘုရားကြီး တနှစ် ၃-ကြိမ် သီတင်းသုံးရာ ဖြစ်သဖြင့် ပူဇော်ထိုက်, မြတ်နိုးဦးချထိုက်သည့် အဆောက်အဦကြီး ဖြစ်လေသည်၊ အတွင်း၌ ကြွေပြားခင်းထားသည့်ပြင် အတွင်းဖက်လေးမျက်နှာ ပန်းချီကားချပ်တို့မှာလည်း ကြည်ညိုခြင်း,သံဝေဂရခြင်းစသည် ဖြစ်စေဘို့,စိတ်အစဉ်တမျိုးတဖုံပြောင်းစေဘို့ ဖြစ်ကြပေတော့သည်။

## သမိုင်းအကျဉ်း

"**ဦးလှမောင်** ဂဟပတိ စ၊ **ဒေါ်ရွှေယု** ဃရသာမိနီ။
မဟာဒ္ဓနာ မုတ္တစာဂါ၊ သဒ္ဓါပယတပါဏိနော"—

ဟူသည်နှင့် အညီ ပခုက္ကူမြို့ မြင်သာ ဆန်တန်းရပ်၌ ဥစ္စာဓန ကြွယ်ဝကြ, ရဲရဲဝံ့ဝံ့ စွန့်ကြဲလေ့ရှိကြ, သဒ္ဓါတရားနှင့် ပြည့်ဝကြ, ရတနာ ၃-ပါးကို အသက်အပ်၍ ဆည်းကပ်ကိုးကွယ်ကြသည့် **ဦးလှမောင်-ဒေါ်ရွှေယု** အမည်ရှိသော သူတော်စင် သူတော်ကောင်း ဥပါသကာ-ဥပါသိကာ ၂-ဦးတို့ ရှိကြလေသည်၊ ၎င်းသူတော်စင် ဇနီးမောင်နှံ၂-ဦးတို့သည် သီဟိုဠ်ကျွန်း သောမာဝတီကျောင်းတိုက်ကြီးနှင့် စေတီကြီးတို့၏ ဒါယကာ, ဒါယိကာမ သေလာဘယမင်းနှင့် သောမာဝတီ မိဖုရားတို့ ပမာ ကုသိုလ်ကောင်းမှုပြုရာ၌ စိတ်တူကိုယ်မျှ ရှိကြပေသည်၊ ဥပါသကာ သီဟိုဠ်ရှင် ဂေါပကအဖွဲ့ဝင် ဦးလှမောင်သည် ရန်ကုန်မြို့ တက္ကသိုလ်ဝင်းအတွင်းရှိ ဓမ္မာရုံပုံတူ ရေသွန်းခံတန်ဆောင်းကြီး တည်ဆောက်လိုကြောင်း တိုင်ပင်သည်တွင် ဇနီးသည် ဒေါ်ရွှေယုက လွန်စွာပင် ကြည်ရွှင်ဝမ်းမြောက်ကာ—

"ပပဥ္စ မကရိတွာန၊ ကရိဿာမ မယံ ခုဝံ။
မာဋ္ဌကံ ပဋိမာဂါရံ၊ သမ္ဗာသမ္ဗုဒ္ဓ ထောမိတံ။

မေတ္တာရေစက် တူစုံဖက်၍ နှစ်သက်ခုံမင် အိုအရှင်သခင် အကျယ်ဝိတ္ထာ ဋီကာချဲ့ပြီး မဆွေးနွေးပဲ မြတ်စွာဘုရားရှင်တို့ ချီးကျူးသြဘာ ထောမနာပြုတော်မူအပ်သည့် ဆင်းတုတော်တို့ ကိန်းဝပ် သီတင်းသုံးရာ တန်ဆောင်းတော်ကို ကျမတို့ မချတ်ကေန် အမှန်မုချ တည်ဆောက်လှူဒါန်းကြပါစို့"ဟု ပြန်လည်ပြောဆိုလျှင် သီဟိုဠ်ရှင်ဘုရားကြီး ဂေါပကအဖွဲ့ဝင် ဦးလှမောင်သည် ဖရဏာပီတိ ဂွမ်းဆီထည့်အလား စေတနာတဖွားဖွားဖြစ်၍ တသိန်းကျော် အသပြာကို



သီဟိုဠ်ရှင်မြတ်စွာဘုရား ရေသွန်းခံ တန်ဆောင်းတော်

စွန့်လွှတ်ကာ ၁၃၁၃-ခုနှစ် ပြာသိုလဆုတ် ၆-ရက် နေ့တွင် ပန္နက်ချပြီး စတင်တည်ဆောက်ရာ ၁၃၁၆-ခုနှစ်တွင် အပြီးသတ် ရေစက်သွန်းချလျက် သာသနာတော်မြတ်ကြီးအား အပ်နှင်းလှူဒါန်းခဲ့လေသည်။

## သီဟိုဠ်ရှင်ဘုရားပွဲများ

သီဟိုဠ်ရှင်ဘုရားပွဲတော်ကို တနှစ် ၃-ကြိမ် ကျင်းပလေသည်။

နယုန်လဆန်း ၇-ရက်နေ့မှစ၍ နယုန်လဆုတ် ၃-ရက်နေ့အထိ ကျင်းပသည့်ပွဲတော်တပွဲ, ထိုပွဲတော်မှာ ကြီးကျယ်သည့် တိုင်းသိပြည်သိ ဘုရားပွဲကြီးဖြစ်သည်၊ မြန်မာတို့ ထုံးစံအတိုင်း ပျော်ပွဲ, ရှင်ပွဲ အမျိုးမျိုးတို့ဖြင့် ကျင်းပရိုးရှိသည်၊ မြန်မာပြည် အောက်ပိုင်း အထက်ပိုင်းမှ ကုန်သည်များ လာရောက်ကြ၍ ရောင်းချကြသည်၊ ထိုဘုရားပွဲတော်တွင်း၌ မြန်မာပြည် အရပ်ရပ် အနယ်နယ် အစို့စို့ အမြို့မြို့ အရွာရွာမှ ဗုဒ္ဓဘာသာဝင် သူတော်စင် မြောက်မြားစွာတို့ လာရောက်ပေါင်းဆုံ စုဝေးမိကြသည်။

## ပူဇော်ပွယ်တို့ဖြင့် ပူဇော်ကြခြင်း

ဘုရားပွဲတော်ရက်အတွင်း သီဟိုဠ်ရှင် ဆင်းတုတော် မြတ်စွာဘုရားကြီးကို ဦးလှမောင်-ဒေါ်ရွှေယုတို့၏ ရေသွန်းခံ တန်ဆောင်းတော်အတွင်း ကိန်းဝပ်သီတင်းသုံးစေကြကာ ပူဇော်ဖွယ်အမျိုးမျိုးတို့ဖြင့် ပူဇော်ကြ၍၊ ရွှေသကၤန်းချလှမ်း လှူဒါန်းသူတို့မှာလည်း တိုးမပေါက်အောင် များပြားလှသည်၊ ဘုရားဆင်းတုတော်မြတ်၏ မျက်မှောက်၌ ဆွမ်းကပ်ပူဇော်ကြသူတို့၏ ဆွမ်းတော်ပွဲတို့မှာလည်း တန်ဆောင်းတော်တခုလုံး ပြည့်လုမတတ် တွေ့မြင်နိုင်သည်၊ ပဒုမုတ္တရဘုရားရှင်၏ ရုပ်ကလာပ်ကို အခိုးနံ့သာတို့ဖြင့် ပူဇော်ခဲ့သည့်အတွက် အပါယ်လေးပါး တခါမျှ မလားမရောက်ရပဲ ဂေါတမဘုရားလက်ထက်တော်တွင် နိဗ္ဗာန်ဝင်ရသူ အရှင်ဟာရိတထေရ်နှင့် ကဿပဘုရားရှင်၏ ဓာတ်တော် ကိန်းဝပ်ရာ စေတီတော်အား အခိုးနံ့သာ ပူဇော်ခဲ့သဖြင့် လူ့ပြည် နတ်ပြည် ကြိမ်ဖန်များစွာ ‌လှည့်လည်ခဲ့ရပြီး နောက်ဆုံးဘဝ၌ သာဂလပြည်တွင် အလှဘုရင်ဧကရီဖြစ်ရ၍ နိဗ္ဗာန်ဝင်စံခဲ့သူ ဘဒ္ဒါကာပိလာနီထေရီတို့ထုံး နှလုံးသွင်းကြကာ လှူဒါန်း ပူဇော်ထားကြသည့် နံ့သာ ရနံ့တို့မှာ ဘုရားဝင်းတခုလုံး သင်းပျံ့မွှေးကြိုင် လှိုင်နေပေတော့သည်။

## သိနာနပူဇာ

သိနာနပူဇာခေါ် ရေသပ္ပါယ်ချိန်၌လည်း နတ်ကညာနှင့် ပုံနိုင်းရလောက်အောင် ဖီးလိမ်းပြုပြင် တန်ဆာဆင်ယင်ကြပြီး ရေလှူလာကြသည့် အမျိုးသမီးတို့မှာ မြို့တွင်း၌မကျန်တော့ဟု ထင်ရလောက်အောင် များပြားလှပေသည်။

**ပဒီပ ဒါန**

ဘုရားပွဲရက်အတွင်း ဆီမီး, ဖယောင်းတိုင်မီး, အင်ဂျင်မီး စသည်တို့ဖြင့် မီးပူဇော်ထားသည်မှာလည်း များလွန်းလှပြီး ဘုရား, ဘုရားဝင်းတခုလုံး တထိန်ထိန် တလင်းလင်းနှင့် နက္ခတ်တာရာ ကြယ်များစွာတို့ စုံလင်သည့် မိုးကောင်းကင်အပြင် ပမာပြုလောက်အောင် လှပ၍ ကျက်သရေရှိလှသည်၊ ဤသို့လျှင် သဗ္ဗညုဘုရားရှင်သည် ပစ္စည်းပူဇော်ဖွယ်အမျိုးမျိုးဖြင့် ပူဇော်ခြင်းကို ထိုက်ပါပေ၏၊ လောကသုံးပါး၌ အဓိပ္ပါယ်ပါလှသော အရဟံဟူသော နာမည်တော်သည် ဘုရားရှင်အား ထိုက်တန်လှပါပေတော့သည်။

ပူဇာဝိသေသံ သဟ ပစ္စယေဟိ၊
ယသ္မာ အယံ အရဟတိ လောကနာထော။
အတ္ထာနုရူပံ အရဟံ တိလောကေ၊
တသ္မာ ဇိနော အရဟတိ နာမမေယျံ။

(ဝိသုဒ္ဓိမဂ်၊ ပူဇာဝလိကျမ်း)

ဘုရားပွဲတော်ရက် ၁၁-ရက်အတွင်း ဘုရားဝင်းပတ်ဝန်းကျင် အရပ်အသီးသီးတို့၌ ကခုန် တီးမှုတ် သီဆိုနေကြသော တူရိယာသံ အဖုံဖုံတို့နှင့် မင်းသား, မင်းသမီး, အဆိုကျော်တို့ သီချင်းသံအမျိုးမျိုးအစားစားတို့မှာ မြေကြီးကွဲလုမတတ် များလွန်းလှတော့သည်။

နာနာတူရိယဃောသေဟိ၊ အနေကေဟိ တဟိံ တဟိံ။
နာဋကီဂီတသဒ္ဒေဟိ၊ ဘိဇ္ဇန္တေ ဝိယ ဘူတလေ။

ဘုရားပွဲတော်အတွင်း လပြည့်နေ့ နံနက်တွင် ပခုက္ကူမြို့ပေါ်ရှိ သံဃာတော်ထောင်ပေါင်းများစွာတို့အား ဆွမ်းလှူသောပွဲတော်မှာလည်း သီဟိုဠ်ကျွန်း မဟာစေတီဒါယကာ ဒုဋ္ဌဂါမဏိမင်းကြီး၏ ဆွမ်းလှူပွဲကြီးနှင့် နှိုင်းခိုင်းထိုက်တော့သည်၊ ဆွမ်းအကျိုးဆယ်ပါးကို သူ့ထက်ငါ ဦးအောင် ရယူကြမည်ဟု သဘောပိုက်လျက် ဆွမ်းသပိတ်တို့ လှူကြသည်မှာ မြို့ပေါ်ရှိသံဃာဦးရေထက် ပို၍နေသည်သာ များလေသည်၊ နယုန်လပြည့်နေ့ နံနက် ၅-နာရီကျော်မှစ၍ မင်္ဂလာဗျောစည် ယွမ်း၍ ဆွမ်းသပိတ်လှူပွဲကို စတင်ကျင်းပသည်၊ မြို့ပေါ်မှ ဂဏဝါစက စာချဆရာတော်များမှစ၍ သာမဏေငယ်အထိ အလှူခံတို့အား ဆွမ်းလှူကြသဖြင့် သံဃိကဒါန ပီသလှပေသည်၊ ထိုသံဃဒါနဆွမ်းလောင်းပွဲ၌

သံဃာဦးရေမှာ အခါအားလျော်စွာ ထောင်ပေါင်းများစွာ ကြွရောက် အလှူခံကြလေသည်။

သမာဂတာနံ သဗ္ဗေသံ၊ ဘိက္ခူနံ တံသမာဂမေ။
အနေကသဟဿံယေဝ၊ နဝကာ ထေရမဇ္ဈိမာ။

## ဒုတိယအကြိမ် ဘုရားပွဲ

နှစ်စဉ် ၂-ကြိမ်မြောက် ကျင်းပသည့် ဘုရားပွဲမှာ သီတင်းကျွတ်လပြည့်နေ့ ဘုရားပွဲ ဖြစ်သည်၊ သီတင်းကျွတ်လပြည့်နေ့ နံနက် ဆွမ်းတော်ကပ်ပြီး ညနေ နေဝင်ရီတရောမှစ၍ နံနက်မိုးလင်းအထိ မီးရောင်စုံပူဇော်ကြပြီး ဘုရားပွဲတော် ကျင်းပကြသည်၊ ထိုပွဲတွင်လည်း ပျော်ပွဲရှင်ပွဲတို့ဖြင့်ပင် ရက်တို ကျင်းပသည်၊ သီတင်းကျွတ်လပြည့်နေ့ နံနက်တွင် ဘုရားဆွမ်းတော်ကပ်ပြီး သံဃာတော်တို့အား ဆွမ်းလုံးကြီး ကပ်လှူသည်၊ လပြည့်နေ့နှင့် လပြည့်ကျော် ၁-ရက်နေ့၌ မီးရောင်စုံ ဆန်းကြယ်စွာပူဇော်ခြင်းမှာ မြတ်စွာဘုရား တာဝတိံသာမှ မယ်တော်နတ်သား အမှူးရှိသော တသောင်းသော စကြဝဠာမှ စည်းဝေး ရောက်လာကြသော နတ်ဗြဟ္မာတို့အား အဘိဓမ္မာတရားဟောပြီး လူ့ပြည်သို့ ပြန်ကြွတော်မူသည်ကို အထိမ်းအမှတ်ပြုကာ ဘုရားရှင် နတ်ပြည်မှ မြ,ရွှေ,ငွေ,စောင်းတန်းတို့ဖြင့် ဆင်းကြွပုံကို သရုပ်ဖော်၍လည်း ပြုလုပ်ကျင်းပတတ်ကြသည်။

ဒေဝေါရောဟဏမုဒ္ဒိဿ၊ ပသန္နာ ရတနတ္တယေ။
အနေကေ သဒ္ဓါသမ္ပန္နာ၊ ပဒီပေနာဘိပူဇယုံ။

## တတိယအကြိမ် ဘုရားပွဲ

နှစ်စဉ်နှစ်တိုင်း ၃-ကြိမ်မြောက် ကျင်းပသည့် ဘုရားပွဲတော်မှာ တန်ခူးလ သင်္ကြန်တွင်း၌ဖြစ်၍ သင်္ကြန် တရက်ကြပ်လျှင် ၃-ရက်, ၂-ရက်ကြပ်လျှင် ၄-ရက်, ဖြစ်သည့်၊ အကျနေ့ နံနက် ၇ နာရီတွင် သီဟိုဠ်ရှင် ဆင်းတုတော်မြတ်စွာဘုရားကို စံတော်မူရာ ဂန္ဓကုဋီတိုက်တော်မှ ပင့်ဆောင်ကြ၍ ဘုရားလှည့်ပွဲကျင်းပကြသည်၊ မြို့သူမြို့သားတို့သည် ကြိုတင်၍ ကိုယ်လက် သုတ်သင် ဝတ်စား ဆင်ယင်ကြပြီး ပန်း နံ့သာ အခိုးအထုံစသည် လက်စွဲ ပူဇော်ကြကာ ဘုရားလှည့်ပွဲတွင် ပါဝင် ဆင်နွှဲကြသည်၊ ထောင်ပေါင်းများစွာသော လူထုကြီး လိုက်ပို့ကြသည်၊ တူရိယာ သံအမျိုးမျိုး, အက, အခုန်-တို့ဖြင့် ပူဇော်ကြ၍ ဘုရားလှည့်ပွဲ ပြီးသောအခါ ဦးလှမောင် - ဒေါ်ရွှေယု တို့၏ ကောင်းမှုဖြစ်သော တသိန်းကျော်တန် အုဌ် တန်ဆောင်းတော်ကြီး၌ ကိန်းဝပ်သီတင်းသုံးစေကြကာ ရေသပ္ပါယ်ပြီး ဆွမ်း, ဆီမီး, နံ့သာ-တို့ဖြင့် လှူဒါန်းပူဇော်ကြသည်၊ နှစ်ဆန်း ၁-ရက်နေ့တွင် မြို့လုံး

ကျွတ် သံဃာတော်များအား သံဃိက ဆွမ်း သပိတ်လှူဒါန်းကြပြီး သီဟိုဠ်ရှင် မြတ်စွာဘုရား ဆင်းတုတော်ကိုလည်း ကိန်းဝပ်တော်မူမြဲ ဖြစ်သည့် ဂန္ဓကုဋီ အတွင်းသို့ ပြန်လည်ပင့်ဆောင်ကြကာ ဘုရားပွဲကို လက်စသတ်ကြတော့သည်။

ဤသို့ဖြင့် မကြံစည်အပ်သော ဂုဏ်အပေါင်းနှင့် ပြည့်စုံတော်မူသော ဘုရား ရတနာ, တရားရတနာတို့၌ ကြည်ညိုကြသူတို့အား မကြံစည်အပ်သော အကျိုး ရကြရမည်မှာ မြေကြီးလက်ခတ်မလွဲတည်း။

ဧဝံ အစိန္တိယာ ဗုဒ္ဓါ၊ ဗုဒ္ဓဓမ္မာ အစိန္တိယာ။
အစိန္တိယေ ပသန္နာနံ၊ ဝိပါကော ဟောတိ အစိန္တိယော။

(ဗုဒ္ဓအပဒါန်၊ အပဒါန်ပါဠိတော်၊ ပဌမ၊ ၇)

## သီဟိုဠ်ရှင်ဘုရားကြီး ဂေါပကအဖွဲ့

သီဟိုဠ်ရှင်မြတ်စွာဘုရားကြီးကို အစစအရာရာ တိုးတက်ကြီးပွါးအောင် ဆောင်ရွက်ကြသောအဖွဲ့ဝင် ဒကာကြီး, ဒကာကလေးများ၏ စေတနာသဒ္ဓါ တရားကို ဤသာသနာဝင်တွင် မှတ်တမ်းတင်ထိုက်ပါသည်၊ ဤဂေါပကအဖွဲ့၏ လျှောက်ထားချက်အရ ဤပခုက္ကူသာသနာဝင်ကျမ်းကိုလည်း စာရေးသူပင် ရေးသားစီရင်ရသည်၊ ဂေါပကဒကာကြီးများသည် သီဟိုဠ်ကျွန်း မဟာစေတီ ကိုတိုးတက်အောင်, စေတီကြီး အဓွန့်ရှည်ကြာ တည်ပါစေရန် စောင့်ရှောက်ကြ သည့် မဟာစေတီယဝဍ္ဍနသမိတိပမာ သီဟိုဠ်ရှင်မြတ်စွာဘုရားကြီး ငါးထောင် သော သာသနာ မြင့်ရှည်ကြာအောင် တည်အံ့သောငှါ ပြုပြင်စောင့်ရှောက် ကြသော စေတနာသဒ္ဓါတရား ကြီးမားသူများ ဖြစ်ကြ၏၊ ၁၃၂၉-ခုနှစ်တွင် အသစ်ပြန်လည်ဖွဲ့စည်းထားသောအဖွဲ့မှာ အဖွဲ့ဝင် ၄၄-ဦးရှိ၍ အောက်ပါတာဝန် များကို စေတနာသဒ္ဓါတရားသက်သက်ဖြင့် အသီးအသီး ထမ်းရွက်ကြသည်။

## နာယကလူကြီးများနှင့် ဥက္ကဋ္ဌများ

ဆရာကလေး ဦးသိုက်ထွန်း, ဦးဘကြား, ဦးပု-တို့သည် သီဟိုဠ်ရှင် မြတ်စွာ ဘုရားဂေါပကအဖွဲ့၏ နာယကလူကြီးများ ဖြစ်ကြသည်၊ ကျောင်းအုပ်ကြီး ဦးဘညွန့်သည် ဂေါပကအဖွဲ့၏ ဥက္ကဋ္ဌဖြစ်သည်၊ ဦးဘညွန့်သည် သာသနာ့နုဂ္ဂဟ ဆွမ်းလောင်းအသင်းကြီး၏ ဥက္ကဋ္ဌလည်း ဖြစ်သည်၊ ရေသွန်းခံတန်ဆောင်း ကြီး၏ ဒါယကာ ဦးလှမောင်သည် ဂေါပကအဖွဲ့၏ ဒုတိယဥက္ကဋ္ဌ ဖြစ်သည်၊ ဦးလှမောင်သည် ရဟန်းဒါယကာ, ကျောင်းဒါယကာကြီးလည်း ဖြစ်သည်။



သီဟိုဠ်ရှင်ဘုရားကြီး ဂေါပကအဖွဲ့ဝင် လူကြီးများ

## အတွင်းရေးမှူးနှင့်ငွေထိန်း

ကျောင်းဆရာ ဦးပွသည် အတွင်းရေးမှူးဖြစ်၍ ဦးကံညွန့်,ဦးအုန်းမောင်တို့သည် ဂေါပကအဖွဲ့၏ တွဲဖက်အတွင်းရေးမှူးများ ဖြစ်ကြသည်၊ ဦးတင်မြိုင်မှာ ငွေထိန်းလူကြီး ဖြစ်သည်။

## စာရင်းစစ်နှင့် ဆောက်လုပ်ရေး ကော်မီတီ

ဦးဗိုလ်, ဦးကျော်တင့်, ဦးထွန်းလှိုင် တို့သည် စာရင်းစစ်လူကြီးများ ဖြစ်ကြသည်၊ ဦးလှမောင်, ဦးအောင်လှိုင်, ဦးဘကြွယ်, ဦးကြာ, ဦးအောင်သူတို့မှာ အဆောက်အဦဆောက်လုပ်ရေး ဆပ်ကော်မီတီလူကြီးများ ဖြစ်ကြသည်။

## ဓာတ်မီးဖက်ကော်မီတီလူကြီးများ

သီဟိုဠ်ရှင်မြတ်စွာဘုရားကြီးနှင့် ပတ်ဝန်းကျင် စေတီ ပုထိုး ဆင်းတုတော်များအား ညစဉ် မီးပူဇော်လျက်ရှိရာ မီးဖက်ဆိုင်ရာ ကော်မီတီလူကြီးများမှာ ဦးခင်မြ, ဦးတင်ဝင်း, ဦးဘတင့်နှင့် ဦးညီရင်တို့ ဖြစ်ကြသည်။

## ပစ္စည်းထိန်းလူကြီးများ

မြတ်စွာဘုရားကြီးနှင့်စပ်သည့် ပရိဘောဂပစ္စည်းများ အများအပြားရှိရာ ပစ္စည်းများထိန်းသိမ်းရန် လူကြီးများသည် စံနစ်တကျ တာဝန်ခွဲ၍ ယူကြရလေသည်၊ ဦးတင်, ဦးထွန်းရင်, ဦးဘိုးလူ, ဦးစိန်, ဦးချစ်တီးတို့မှာ ပစ္စည်းထိန်းလူကြီးများ ဖြစ်ကြသည်။

## ဂန္ဓကုဋိသော့ထိန်းလူကြီးများ

ဂန္ဓကုဋီတော်အတွင်း ရတနာတံကဲပလ္လင်တော်၌ ရွှေသားဆင်းတုတော်တို့ ကိန်းဝပ်လျက်ရှိရာ လုံခြုံအောင် သော့အထပ်ထပ်ခတ်၍ ရွှေမျက်နှာသာ ၂-ဖက်ဘေးမှ ဖူးမြင်နိုင်ရန် ဂန္ဓကုဋီတိုက်ကို သံတံခါးဖြင့်ပိတ်ပြီး သော့ခတ်ထားရသည်၊ သော့ထိန်းလူကြီးများမှာ အတွင်းသော့ထိန်း ဦးမောင်လှိုင်, အပြင်သော့ထိန်း ဦးကြာ, ဦးစိန်, ဦးဘကြွယ်တို့ ဖြစ်ကြသည်။

## အထွေထွေ ဘုရားကိစ္စ ပြုကြသည့် လူကြီးများ

သီဟိုဠ်ရှင်မြတ်စွာဘုရားကြီးသည် ခရိုင်အတွင်း အစည်ကားဆုံးနှင့် အကြီးကျယ်ဆုံး ဘုရားဖြစ်သည့်အလျောက် ပြုဖွယ်ကိစ္စများပြားရာ အထွေထွေကိစ္စကို

ဦးငြိမ်း, ဦးမြတ်စံ, ဦးဘိုးငွေ, ဦးတင့်, ဦးဘိုးသွယ်, ဦးဘထယ်, ဦးအောင်ချင်း, ဦးညွန့်, ဦးပွ, ဦးပဒုမ္မာ, ဦးရွှေ, ဦးအေးချမ်း, ဦးကြားဘ, ဦးလုံး, ဦးဘသန်း, ဦးကြည်မောင်, ဦးညွန့်ဖေ, ဦးချင်း, ဦးကြင်စိန်တို့ ဖြစ်ကြသည်၊ ဖော်ပြပါ သီဟိုဠ်ရှင်မြတ်စွာဘုရားကြီး၏ ဝေါပကလူကြီးမင်းများသည် ကိုယ်ကျိုးမဖက် သဒ္ဓါတရား သက်သက်ဖြင့် ဗုဒ္ဓဝေယျာဝစ္စ စေတိယပူဇာကို ပြုလျက်ရှိကြရာ များစွာ သာဓုအနုမောဒနာ ပြုသင့်ပါသတည်း။



ဖောင်တော်ဦး မြတ်စွာဘုရား

# ဖောင်တော်ဦး မြတ်စွာဘုရား

ဖောင်တော်ဦး မြတ်စွာဘုရားသည် လွန်စွာတန်ခိုးဣဒ္ဓိပါဒ်နှင့် ပြည့်စုံသည်၊ မင်းအဆက်ဆက် ကိုးကွယ်ခဲ့သော ဆင်းတုတော်ဖြစ်၍ ဘုရားဆင်းတုတော် အကြောင်း သိရလျှင် အားလုံး ဦးတိုက် ဖူးမြော်ချင်ကြသည်။

## မြင်ကွင်းအမျိုးမျိုး

ဖောင်တော်ဦး မြတ်စွာဘုရား ကိန်းဝပ်သီတင်းသုံးတော်မူရန် စီမံဆောက် လုပ်အပ်သော တန်ဆောင်းတော်ကြီးမှာလည်း ကျယ်ဝန်း မြင့်မားသည်၊ အနောက်ထိပ်တွင် ခေါင်းလောင်းပုံ ( ဃဏ္ဍာကာရ ) စေတီတော် တည်ရှိသည်၊ စေတီတော်၏ အရှေ့ဖက်မှ ကုန်းပေါက် ၉-ကုန်း,၉-ပေါက်ရှိ ဘုရားကျောင်းတော် ကြီး ရှိသည့်ပြင် ဘုရားကျောင်းတော်အဝင်ဝမှ ကေသရာဇာခြသေ့ရုပ်နှစ်စီးမှာ လည်း အသက်ဝင်လှုပ်ရှားလှသဖြင့် ပခုက္ကူအနုပညာရှင်တို့၏ ပြောင်မြောက် ပုံကိုလည်း မှန်းဆနိုင်ပေသည်။

## ဘုရားကျောင်းတည်ရာ

ဖောင်တော်ဦးစေတီနှင့် ဘုရားကျောင်းကြီးတည်ရာမှာ ပခုက္ကူမြို့ အရှေ့ ပိုင်း မဟာဝိဇယာရာမ စာသင်တိုက်ကြီး၏ အရှေ့တောင်ဖက်တွင် ဘစပ် ထည်းကပ်လျက် တည်ရှိပါသည်၊ ဖောင်တော်ဦးဘုရားကို ဦးတိုက်ပြီး မဟာ- ဝိဇယာရာမ စာသင်တိုက်ကြီးသို့ ဝင်ရောက် ကြည့်ရှုကြည်ညိုရန် အဆင်ပြေလှ ပါသည်၊ ဖောင်တော်ဦးဘုရားအစစ်မှာလည်း မဟာဝိဇယာရာမ အသောကာရုံ ကျောင်းတော်ကြီးပေါ်တွင် သီတင်းသုံးလျက်ရှိရာ သက်ဆိုင်ရာ ဆရာတော် များကို လျှောက်ထား၍ ဖူးမြော်သင့်ပေသည်။

## သမိုင်းအကျဉ်း

သက္ကရာဇ် ၄၅၄-ခုနှစ်တွင် ပုဂံပြည်ကြီး၏ ကေရာဇ်ဘုရင် အလောင်း စည်သူမင်း သီဟိုဠ်ကျွန်းရောက်သောအခါ သီဟိုဠ်မင်းက သက်နက်သား လှူ တော် ဆက်သလေသည်၊ ၎င်းနောက် မြေးတော် နရပတိစည်သူမင်းသည် သက်နက်သား ဖောင်တော်ဦး စကားတိုင်ကို ဘုရားဆူရေ ကိုးဆူ ထုလုပ် ကိုး ကွယ်ရာတွင် ယခု ဖောင်တော်ဦး ဆင်းတုတော်သည် တဆူအပါအဝင် ဖြစ်လေ သည်၊ ဘုရားဆင်းတုတော်၏ စမ္ဗဏ်တော်နောက်အဖုံးကို ဖွင့်ကြည့်လျှင် "ပုဂံ ပြည် နရပတိစည်သူမင်းကောင်းမှုတော် သက်နက်သား ဖောင်တော်ဦးဘုရား

ခာတ်တော်အစစ် ဌာပနာလျက်ရှိသည်”ဟု ရေးသားထားသည့် ရွှေပြားကို တွေ့ရှိရသည်၊ သို့သော် ယခုအခါ ရွှေများ များပြားထူထပ်လွန်းသဖြင့် အဖုံးကို ဖွင့်၍မရပေ။

## ဖောင်တော်ဦးဘုရား ပခုက္ကူကြွ

ဖော်ပြပါ ဖောင်တော်ဦးဘုရားကို ပုဂံ, မြင်စိုင်း, စစ်ကိုင်း, ပင်းယ, အင်းဝ, ရွှေဘို-စသော မြို့တို့၌ စိုးစံကြသော မင်း, မိဖုရား အဆက်ဆက်တို့ ကိုးကွယ် ပူဇော်ခဲ့ကြ၍ လောကီချမ်းသာ, လောကုတ္တရာချမ်းသာကို ခံစားခဲ့ကြရသည်၊ နန်းတော်ဦးက မိဖုရားတဦး၏ အဆောင်၌ သီးခြားကိုးကွယ်ခွင့်ရသည်၊ ၎င်းနောက် ပုပ္ပါးမြို့စား “နေမျိုးသူရ”က ၎င်းမိဖုရား ကွယ်လွန်သောအခါ ခိုးဝှက်၍ ပခုက္ကူမြို့သို့ ပင့်လာခဲ့ကာ ဦးမေဓာ, ဦးဇာဂရ အမည်ရှိသော ညီတော် နောင်တော် ဆရာတော် ၂-ပါးထံ အပ်နှံ၍ နေပြည်တော်သို့ ပြန်သွားလေသည်၊ နေပြည်တော်ရောက်လျှင် မကြာခင် ကွယ်လွန်လေသည်၊ ၎င်းနောက် ဦးမေဓာ, ဦးဇာဂရတို့မှာ ဘုရားကို အမြဲ ကိုးကွယ်ကြသည်၊ ၎င်းဆရာတော်တို့၏ ကျောင်းတိုက်ကိုလည်း ဖောင်တော်ဦး ဆင်းတုတော်ကို စွဲ၍ ဖောင်တော်ဦးကျောင်းတိုက်ဟု ယခုတိုင် ခေါ်ဝေါ်လျက် ရှိကြသည်၊ ဆရာတော်ကြီး ၂-ပါးတို့မှာလည်း ဖောင်တော်ဦးဆင်းတုအတု ထုလုပ်၍ ဖောင်တော်ဦးဆင်းတုအစစ်ကို ဝှက်ထားကြသည်။

## ဖောင်တော်ဦးဘုရား သဃောက်ကြွ

ဆရာတော် ၂-ပါးသည် သက်တော် ဝါတော် ကြီးရင့်သဖြင့် သဃောက်မြို့ အင်းဝတောကျောင်း၌ သီတင်းသုံးကာ ဘာဝနာကမ္မဋ္ဌာန်းတရားများ အားထုတ်၍ နေကြသည်၊ ဖောင်တော်ဦးဘုရားကိုလည်း တပါတည်း ပင့်ယူသွားကြသဖြင့် သဃောက်၌ ၁၀-နှစ်ခန့်လောက် ကြာမြင့်လေသည်။

## ဘုရားကျောင်းတော်တည်, ပခုက္ကူပြန်ကြွ

ပခုက္ကူ ဒကာ,ဒကာမတို့က ဘုရားဖူးရလိုကြောင်း အတန်တန် သွားရောက်တောင်းပန်ကြသဖြင့် ဆရာတော်များက“ဘုရားကျောင်းတည်ပြီးမှ လာပင့်ကြ၊ ဘုရားကျောင်းတည်ပြီးလျှင် ဘုရားကိုလည်း ပေးအပ်မည်”ဟု ၁၂၃၅-ခုနှစ် သီတင်းကျွတ်လမှာ အမိန့်ရှိလိုက်သဖြင့် ပခုက္ကူမြို့ ပေါင်လောင်ရှင်ရပ် ဘုရားဒါယကာ ဦးရန်ကင်း ဘုရားအမကြီး ဒေါ်ရွှန်းတို့က အလယ်ဂန္ဓကုဋီတိုက်တော်ကြီး, အာရုံခံတန်ဆောင်းတော်ကြီး, ခြသေ့်ကြီး ၂-စီးဖြင့် တန်ဆာဆင်၍ ဆောက်လုပ်အပြီးတွင် သဃောက်မှ ဆရာတော်ကြီး ၂-ပါး, ပုဂံဝန်, သဃောက်မြို့သူကြီး စသည့် သူတော်စင် သူတော်ကောင်းတို့က ဘုရားတင်



ဖောင်တော်ဦးမြတ်စွာဘုရားကျောင်းတော်

ပြာသာဒ်ဖြင့် အခမ်းအနားနှင့်တကွ လက်ပံခြေပေါ် အရောက် လိုက်ပို့ကြသည်၊ ပခုက္ကူမှ ဆရာတော်ကြီးများ, ပခန်းဝန်နှင့် ပခုက္ကူ ဒကာ,ဒကာမတို့သည် အားပါးတရ လာရောက်ကြိုဆိုကြသည်၊ လက်ပံခြေပေါ်၌ ၁၂၃၇-ခုနှစ် သီတင်းကျွတ် လဆုတ် ၂-ရက် ၃-ရက်နေ့တို့၌ ဘုရားပွဲ ပြုလုပ်ကြကာ မီးပူဇော်ကြသည်၊ ၄-ရက်နေ့ညနေ တပ်ကြားသို့ ဆိုက်ရောက်၍ အပူဇော်ခံပြီးလျှင် ၅-ရက်နေ့ စာတိုက်တန်း, ၆-ရက်နေ့ ဈေးဟောင်း, ၇-ရက်နေ့ မန်ကျည်းချောင်းတို့၌ အသီးအသီး အပူဇော် အကြည်ညို ခံပြီး ၈-ရက်နေ့တွင် ပေါင်လောင်ရှင် ဘုရားတန်ဆောင်းသို့ ပင့်ဆောင်၍ ပူဇော်ဘွယ် အမျိုးမျိုးဖြင့် ပူဇော်ကြကာ အမြဲထာဝရ ကိုးကွယ်ကြလေသည်။

## မဟာဝိဇယာရာမတိုက်သို့ ကြွခြင်း

၁၂၇၇-ခုနှစ်တွင် ပခုက္ကူမြို့ မီးဘေးသင့်သဖြင့် ဦးဘိုးလှဲ့–ဒေါ်မြသီးတို့၏ တိုက်တွင်ရင်း, ဦးဖေအောင်-ဒေါ်လေးခင်တို့၏ တိုက်ပေါ်တွင်ရင်း သီတင်းသုံးစေကြသည်၊ ၁၂၈၂-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၂-ရက်နေ့တွင် ဘုရားလူကြီးအပေါင်းတို့က မဟာဝိဇယာရာမတိုက် ဆရာတော်ဘုရားကြီးအား လျှောက်ထား၍ ကျောင်းတိုက်သို့ ပင့်ဆောင်ကြပြီး ဆရာတော်ကြီးအား အပ်နှံကြရာ ယခုတိုင် မဟာဝိဇယာရာမတိုက်တွင် သီတင်းသုံးလျက် ရှိပါသည်။

## ဖောင်တော်ဦးဘုရား အံ့ဘွယ်များ

ဖောင်တော်ဦးဘုရားကို အခမ်းအနားနှင့် သဃောက်မှ ပင့်သောအခါ တလမ်းလုံး မိုးအုံ့ခြင်း, လူတို့ အတီးအမှုတ် ရပ်ကြသော်လည်း နရီး, ခရာ, တူရိယာနှင့် ပဿာ, ဒုံမင်း, စည်း, စောင်းငြင်းအသံတို့ကို ကြားရခြင်း, တလမ်းလုံး တတောလုံး သစ်ပင်များ စိမ်းလန်းစိုပြေ ကျက်သရေရှိနေကာ ဘုရားဆင်းတုတော်အား ပူဇော်ခြင်း, နတ်တူရိယာတို့ဖြင့် တီးမှုတ်ပူဇော်ခြင်းတို့မှာ အံ့သြဘွယ်ရာစင်စစ် ဖြစ်လေသည်၊ ပခုက္ကူသို့ ရေဝတီမြစ်ရိုးဖြင့် ကြွစဉ် ရေမရှိ ရေကျနေသော ကုက္ကိုလှလမ်း စသည်တို့၌ တခဏခြင်း ရေတက်လာပြီးလျှင် ရေကျ၍သွားခြင်း စသည်တို့မှာလည်း ဖောင်တော်ဦးမြတ်စွာဘုရား၏ အံ့ဘွယ်ရာတို့သာတည်း၊ ဖော်ပြပါ တန်ခိုးတေဇော် အာနုဘော် အံ့ဘွယ်တို့နှင့် ပြည့်စုံသော ဖော်တော်ဦး ဆင်းတုတော်မြတ်ကို ယုံကြည်လှစွာသော သဒ္ဓါတရား ရှေ့ထား၍ အောက်ပါ ဝန္ဒနာဂါထာဖြင့် ရှိခိုး ဦးတိုက် ပူဇော်ဝတ်ပြုရာသည်။

ပူဇနီယံ မဟာတေဇံ၊ စည်သူရာဇေန ကာရိတံ။
ဖောင်တော်ဦးပဋိဗိမ္ဗံ တံ၊ နမာမိ သိရသာဒရံ။

ပူဇနီယံ၊ ပူဇော်အပ် မြတ်တော်မူထသော။ မဟာတေဇံ၊ သုံးလောကသူ ကြည်ဖြူဝပ်လျှိုး တန်ခိုးတော်အနန္တလည်း ရှိတော်မူထသော။ စည်သူရာဇေန၊ နရပတိစည်သူ ဇမ္ဗူကျော်ကြား မင်းတရားသည်။ ကာရိတံ၊ သဒ္ဓါမိုးစွေ ထုလုပ်စေအပ်သော။ တံ ဖောင်တော်ဦးပဋိဗိမ္ဗံ၊ ထိုဖောင်တော်ဦးဟု သုတ်ထင်ရှား သင်္ကနက်သား ဖောင်တော်ဦး ဆင်းတုတော် မြတ်စွာဘုရားကို။ သိရသာ၊ ဦးခေါင်းရတနာ မြတ်အင်္ဂါဖြင့်။ အာဒရံ၊ နှစ်သက်ကြည်ညို ရိုသေလှစွာ။ အဟံ၊ သံသရာဝဋ် တဏှာညွတ်မှ လွတ်ရန် ရည်ရော် တပည့်တော်သည်။ နမာမိ၊ နတ်ပြည်,နိဗ္ဗာန် ရရန်အကျိုး ရည်မြှော်ကိုးကာ ရှိခိုးကန်တော့ ဦးညွှတ်ပါ၏ ဘုရား။

# သာရက္ခန်ဆင်းတုနှင့် စေတီတော်များ

## သာရက္ခန်ဆင်းတုတော်များ

အလောင်းစည်သူမင်းမြတ်အား သိကြားမင်း ဆက်သအပ်သော သာရက္ခန်ဆင်းတုတော် ၅-ဆူတို့တွင် ပခုက္ကူအရှေ့ဖက် ကွမ်းရွာ ရွှေတန့်တစ်၌ တဆူ, ပခန်းစည်သူရှင်အမည်ဖြင့် ထင်ရှားသည့် သာရက္ခန်ဘုရားဆင်းတု တဆူ, ရှင်မတောင်၌ တဆူ, ဆင်ကြိုးရွှေဂူတွင် တဆူအားဖြင့် ပခုက္ကူခရိုင်၌ချည်း လေးဆူကိန်းဝပ်လျက်ရှိရာ များစွာ ထူးခြားသည့် ခရိုင်နယ်ပယ်ဖြစ်သည် ဟု ဆိုသင့်ပေသည်၊ အညာ သီဟတော သာရက္ခန်ဆင်းတုတော် အပါအဝင် ပခုက္ကူခရိုင်နယ်ပယ်အတွင်းရှိ ဆင်းတုတော်တို့ကို အောက်ပါဂါထာဖြင့် လေးမြတ်ကော်ရော် ဖူးမြော် ကန်တော့ကြရာသည်။

ရညော သက္ကေန ဒိန္နော တံ၊ သာရဂန္ဓော သဓာတုကော။
ဗိမ္ဗေ ဌပေသိ ကတွာန၊ ဧတေ ဝန္ဒာမိ သာဒရံ။

ရညော၊ ဇမ္ဗူကျွန်းဦး ရွှေဖောင်ထူးဖြင့် ကွန့်မြူးတော်မူ လောင်းစည်သူဟု လိုက်ဆူကျော်ကြား မင်းတရားအား။ သက္ကေန၊ သူဇာ့သက်ထား မိုးသိကြားသည်။ သဓာတုကော၊ သုံးလူ့ထိပ်တင် ဘုရားရှင်၏ ကြည်လင်ထူးမြတ် မွေတော်ဓာတ်နှင့်တကွသော။ သာရဂန္ဓော၊ မလ္လာယုခေါ် ကျွန်းအမော်မှ အကျော်စမွာ အစဖြာသည့် နံ့သာတို့ထက် မွှေးနံ့ထွက်၍ ပြိုင်ဘက်ကင်းကွာ လွန်ကြေငြာသည့် နံ့သာနှစ်မှန် သာရဂန်ကို။ ဒိန္နော၊ ဘုရားထုရန် စိတ်အကြံဖြင့် ရည်သန်လေးမြတ် ဆက်သအပ်၏။ တံ သာရဂန္ဓံ၊ ထို နံ့သာနှစ်မှန် သာရဂန်ကို။ ယေ ဗိမ္ဗေ၊ မြတ်စွာရှင်ချစ် "ရွှေတန့်တစ်"က ထွန်းသစ်ကျော်ဟိုး ဂုဏ်ရောင်ဖြိုးသည့် ဆင်ကြိုးရွှေဂူ သတင်းကြူသား တဆူ"ဆင်မတောင်" (ရှင်မတောင်) ဘုန်းခေါ်သခင် စည်သူရှင်နှင့် ထက်ခွင်ရေကြော "သီဟ-တော"ဟု ရှင်စောအကျော် အကြင် ရုပ်တုတော်တို့ကို။ ကတွာန၊ လေးသစ်ညီညာ ပိုင်းဖြတ်ကာဖြင့် မြတ်စွာငါးဆူ ထုလုပ်တော်မူ၍။ ဌပေသိ၊ ဆင်မယာဉ်သာ လွတ်သောခါဝယ် ကွမ်းရွာအစ ငါးဌာန၌ မျှတက်န်းအောင်း စံလိုကြောင်းကို အလောင်းစည်သူ သိတော်မူ၍ နတ်လူအများ ကုသိုလ်ပွါးအောင် တည်ထားပူဇော်တော်မူခဲ့ပေ၏။ ဧတေ ဗိမ္ဗေ၊ ထို မြတ်စွာရှင်ချစ် ရွှေတန့်တစ်က ထွန်းသစ်ကျော်ဟိုး ဂုဏ်ရောင်ဖြိုးသည့် ဆင်ကြိုးရွှေဂူ သတင်းကြူသား တဆူ ဆင်မတောင် ဘုန်းခေါ်သခင် စည်သူရှင်နှင့် ထက်ခွင်ရေကြော သီဟတောဟု ရှင်စောအကျော် ရုပ်တုတော်တို့ကို။ အဟံ၊ သံသရာဝဋ် ကျော့ကွင်းညွတ်မှ မလွတ်နိုင်ဘဲ တလဲလဲဖြင့် ဆင်းရဲဒုက္ခ ခံနေရသော အကျွန်ုပ်သည်။

သာဒရုံ၊ ရှင်တော့်ဂုဏ်ထူး စိတ်ရည်စူး၍ ကြည်နူးဝမ်းသာ ရှိသေစွာ။ ဝန္ဒာမိ၊ ဒွါရသုံးပါး ကရိုဏ်းထား၍ ဝပ်တွားခါခါ ရှိခိုးကန်တော့ပါ၏ မြတ်စွာဘုရား။

(မဟာဝိဇ္ဇောဒယ ဆရာတော်ရေး နမောတဿဂီတိကျမ်း)

[ဤ၌ သရက္ခန်ဘုရားဟု သုံးရိုးရှိသော်လည်း သက္ကတအဘိဓာန်ကျမ်းများ၌ သာရဂန္ဓဟု လာရှိသည်၊ စိန္တာမဏိသက္ကတအဘိဓာန်၌ စန္ဒကူးဟု သာမည ဖော်ပြသည်၊ ထောမနိဓိ၌ကား သာရော သေဋ္ဌော ဂန္ဓော ယဿာတိ သာရဂန္ဓော၊ ကောင်းမြတ်သော အနံ့ရှိသော စန္ဒကူးဟု ဖော်ပြသည်။]

## ပုညတိတ္ထ စေတီတော်များ

သီဟိုဠ်ကျွန်း အနုရာဓမြို့တော်၌ မဟာစေတီ, ထူပါရာမစေတီ, လံကာရာမ စေတီ, သံဃမိတ္တာဗောဓိပင်, အဘယဂိရိစေတီ, ဇေတဝနစေတီ, မရိစဝဋ္ဋိစေတီ, ဣဿရမုနိဘုရားကျောင်း, မိဿကတောင်မှ သေလစေတီ, မဟိန္ဒစေတီ စသည့် ပူဇော်ဦးခိုက်ရာတို့ ပြည့်နှက်နေသည့်နည်းတူ ပခုက္ကူ၌လည်း သီဟိုဠ်ရှင်ဘုရား, ရွှေကူဘုရား, ဖောင်တော်ဦးဘုရားတို့မှ တပါး သစ္စာလေးပါးတရားကို ထိုးထွင်း သိမြင်ရာ ဗောဓိပင်များ, ပတ္တမြားစေတီ, ကျောက်စေတီ, ရွှေချောင်းမှ ရွှေမုဋ္ဌောဘုရား, ဆုံကုန်းနယ် သိမ်တော်အရပ်ရှိ ရွှေမုဋ္ဌောစေတီ, ပခုက္ကူခရိုင် ပေါက်မြို့မှ လောကဒီပါဘုရား, လောင်းရှည်မြို့မှ သိန်းကျင်ဘုရား, ယောမြို့မှ ကြောင်ကြည့်ရှင်ဘုရား, ကျူတောဘုရား, တောင်မှ ရွှေမုဋ္ဌော ရွှေပေါင်-လောင်ဘုရား, ဂန့်ဂေါမြို့မှ စွယ်တော်ရင်ဘုရား, ထီးလင်းမြို့မှ ရွှေကွန်အုပ်ဘုရား, မြိုင်မြို့မှ ရွှေမြင်တင်ဘုရား, ရေစကြိုမြို့မှ လေးမျက်နှာဘုရား, မြစ်ခြေမြို့မှ ရွှေစောလူးဘုရား, ရှစ်မျက်နှာ ငါးမာရ်အောင်စေတီ, သိမ်တော်ရွာ ရွှေကူကြီး ဘုရား, တန့်ကြည့်တောင် စွယ်တော်ဘုရား, ဆိတ်ဖြူမှ ရွှေမင်းဝံဘုရား, ကမ္မမှ ဂေါတမဘုရား, ပခန်းမှ စည်သူရှင်, ကွမ်းရွာမှ ရွှေတန့်တစ်, ဆင်ကြိုး ရွှေကူ, ရှင်မတောင်တို့မှ သာရက္ခန်ဘုရားများ, ကျန်စစ်သားမင်း၏ ကောင်းမှုတော် ကုလားချောင်းရွာမှ သက်တော်ရဘုရား စသည့် ဦးတိုက်ပူဇော်ရာ ကောင်းမှု ပြုရာ အမျိုးမျိုးတို့ဖြင့် ပြည့်နှက်နေသဖြင့် ဗုဒ္ဓဘာသာဝင် သူတော်စင်တို့အား လျောက်ပတ်၍ နေချင်စဖွယ်ကောင်းလှသော ပတိရူပမြို့ ဖြစ်လေသည်၊ ဤ စာအုပ်ကို ဖတ်ရှုသူသည် သီဟိုဠ်ကျွန်းသားကျွန်းသူတို့ အရပ်ဌာနအားလုံးရှိ စေတီ, ပုထိုး, ဆင်းတုတော်, ဗောဓိပင်တို့ကို အောက်ပါဂါထာဖြင့် ရှိခိုး ဦးတိုက်သည့်နည်းတူ ပခုက္ကူခရိုင်အတွင်းရှိ စေတီ, ပုထိုး, ဆင်းတု,ဗောဓိပင် တို့နှင့်တကွ အရပ်ဌာနအားလုံးတို့၌ တည်ရှိသော စေတီ, ပုထိုး, ဗောဓိပင်, ဘုရားဆင်းတု အမျိုးမျိုးတို့ကိုလည်း ကြည်ညိုလှစွာသော သဒ္ဓါတရား ရှေ့သွား ပြု၍ အောက်ပါဂါထာဖြင့် ဦးခိုက် ကန်တော့ရာသဘည်း။

ဝန္ဒာမိ စေတိယံ သဗ္ဗံ၊ သဗ္ဗဋ္ဌာနေသု ပတိဋ္ဌိတံ။
သာရီရိကဓာတုမဟာဗောဓိံ၊ ဗုဒ္ဓရူပံ သကလံ သဒါ။

သဗ္ဗဋ္ဌာနေသု၊ အလုံးစုံသော ဌာနတို့၌။ ပတိဋ္ဌိတံ၊ တည်ထား စိုက်ပျိုး ကိုးကွယ်အပ်သော။ သဗ္ဗံ၊ အလုံးစုံသော။ စေတိယံ၊ စေတီတော်မြတ်အပေါင်း ကိုဒင်း။ သဗ္ဗံ၊ အလုံးစုံသော။ သာရီရိကဓာတုမဟာဗောဓိံ၊ ဘုရားရှင်၏ ဓာတ်တော် မွေတော်အပေါင်း, မဟာဗောဓိပင် အပေါင်းကိုဒင်း။ သကလံ၊ အလုံးစုံသော။ ဗုဒ္ဓရူပံ၊ ဘုရားရုပ်ပုံ ရွှေကြေးမုံ ဆင်းတုတော်အပေါင်းကို ဒင်း။ သဒါ၊ နေ့ရောညဉ့်ပါ အခါမပြတ်။ ဝန္ဒာမိ၊ ငါးဦးတည်ရိုး ကော်ရော် မျိုးဖြင့် ရှိခိုး ဦးချပါ၏ဘုရား။

# မဟာဝိသုတာရာမ ကျောင်းတိုက်ကြီး

မဟာဝိသုတာရာမကျောင်းတိုက်ကြီးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိကာယ် ၅-ရပ် ပိဋကတ်အလုံးကို အဋ္ဌကထာ, ဋီကာတွဲ၍ နောက်ဆုံး ချပို့သင်ပြပေးရာ တခုတည်းသော ပါဠိဝိဇ္ဇာဋ္ဌာန ဝိဇ္ဇာပီဌကြီး ဖြစ်လေသည်၊ သီဟိုဠ်ကျွန်း မဟာဝိဟာရကျောင်းတိုက်ကြီး ကွယ်ပျောက် ပျက်စီးပြီးနောက် မဟာဝိသုတာရာမကျောင်းတိုက်ကြီး ပေါ်ပေါက်လာခြင်းသည် သာသနာတော်အလွန် ကံကောင်းသည်ဟု ဆိုထိုက်ပါသည်၊ ယခုခေတ်၌ သာသနာတွင်နေ, လ-အသွင် ထင်ရှားကျော်ကြားကာ စာပေပိဋကတ် ချပို့နေသော စာချဆရာတော်များသည် ပခုက္ကူ မဟာဝိသုတာရာမတိုက်ထွက်များသာ များပြားလေသည်၊ ဤမဟာဝိသုတာရာမကျောင်းတိုက်ကြီးမှ ခွဲ၍ တည်ထောင်ခဲ့သော စာသင်တိုက်ခွဲပေါင်းလည်း မြန်မာနိုင်ငံအရပ်ရပ် အနှံ့အပြားတွင် ၁၅၂-တိုက်, ဂဏဝါစက စာချဆရာတော်ပေါင်း ၄၅၀-ကျော်နှင့် စာသင်သားပေါင်း ၁၁၇၀၀-ပါးရှိကြောင်း နောက်ဆုံးစာရင်းအရ သိရသည်။

## ကျောင်းတိုက်မြင်ကွင်း

မဟာဝိသုတာရာမတိုက်ကြီးသည် မြေ ၁၀-ကေလောက် ကျယ်ဝန်းသည့်ကွက်လပ်ပေါ်တွင် တည်ရှိပါသည်၊ အမြင့် ၉-ပေမြင့်သော တံတိုင်းကြီးဖြင့် နန်းတော်ကြီးတမျှ ခမ်းနားကြီးကျယ်လှပေသည်၊ မြောက်ဖက်တံခါးဝတွင် ရန်ကုန်မြို့ အလုံ သစ်တောလမ်း ဘိုကလေးသူဌေး **ဦးစောဦး** သူဌေးကတော် **ဒေါ်သိမ်**တို့၏ ကောင်းမှုဖြစ်သော ပေ ၁၂၀-မြင့်၍ မြန်မာ့အနုပညာဆန်သည့် နာရီစင်ကြီးကို ရှေးက ကျောင်းများ, ဘုရားဝင်းများ၏အဝင်ဝတွင် တုရိုဏ်းတိုင်အစား ခေတ်မှီစွာ တွေ့ရသည်၊ တောင်ဖက်အဝင်ဝတွင် ခြူးပန်း, ခြူးနွယ်, တုရင်, မှန်ကင်း, ပန်းခက်, ပန်းတွန့် အစရှိသည်တို့ဖြင့် ဆန်းကြယ်လှပသည့် ပြာသာဒ်ကြီးနှင့် အုဋ်စောင်းတန်းကြီးကို တွေ့မြင်နိုင်သည်၊ အဝင်ပြာသာဒ်တွင် **မဟာဝိသုတာရာမကျောင်းတိုက်**ဟူသော ငွေကဗျည်းစာလုံးဆိုင်းဘုတ်မှာ ပညာသင်ရန် ကြွရောက်လာကြသည့် အရှင်တို့အား ရွှင်ပျ ဝမ်းမြောက်စေရန် ကြိုဆို နှုတ်ဆက်နေသကဲ့သို့ ထင်ရပေသည်။

ကျေးဇူးတော်ရှင် အဘိဇမဟာရဋ္ဌဂုရု ဂဏမဟာဝိနာယက ဓမ္မသေနာပတိ ဆရာတော်ဘုရားကြီး စံတော်မူရာကျောင်းကြီးမှ မြောက်ဖက်တံခါး နာရီစင်နှင့် တဆက်ထည်းဆောက်လုပ်ထားသော ၂-ထပ်စောင်းတန်းကြီးကား အတောင်ပေါင်း ၁၆၀-ကျော် ရှည်လျားလေသည်၊ စာချဆရာတော်များနှင့် စာသင်



မဟာဝိသုတာရာမတိုက် အလယ်သိမ်ကျောင်းတော်ကြီး

သား ရဟန်းတော်တို့ စင်္ကြံကြ တရား စာပေ ရွတ်အံ သရဇ္ဈာယ်ရာ တရား စင်္ကြံကြီး ဖြစ်လေသည်၊ အခန်း ၃၀-ရှိသော အင်္ဂတိုက်ရေသုံးကုဋီသို့ သွားရန် စောင်းတန်းသည်လည်း အခန်းပေါင်း ၃၇-ခန်းရှိပြီး အရှေ့ဖက်တံခါးသို့ ထွက်သော စောင်းတန်းမှာ အခန်း ၁၇-ခန်း ရှိလေသည်၊ ကျောင်းတိုက်ကြီး၏ အလယ်၌ အရှေ့ အနောက် အလျား ၁၆၅-ပေ, တောင် မြောက် အနံ ၁၂၀-ပေရှိ ခေတ်တန်ဘိုးငွေ ကျပ် ၂၅-သိန်းခန့်တန် သာသနာ့ဗိမာန်တော်ကြီးမှာ ကျောင်းကြီးပေါ်ရောက်သူတိုင်း စိတ်တသတ်သတ်ဖြင့် အံ့သြခြင်း ဖြစ်ရမည်၊ အင်္ဂဖို ၁၀၀-ကို အသုံးချကာ သံ,ကျောက်,ဘိလပ်မြေတို့ကို များစွာအသုံးပြု၍ ဆောက်လုပ်ထားလေသည်၊ ကျောင်းတွင်း၌ ရွှေချ ကျောက်စီထားသော တိုင်ကြီး ၁၀-လုံးတို့ကား လွန်စွာမှ တင့်တယ် လှပ ကျက်သရေရှိလှပါသည်၊ အောက်ထပ်တက်ရန် လှေကားတွင် အင်္ဂလန် ကျောက်ပြား, ကြွေပြားများ ခင်းထားသည်မှာ ပုလဲသားတမျှ လွန်စွာ ဖြူဖွေး လှပပါပေသည်၊ အထက်ထပ်သို့တက်ရန် လှေကားကလည်း အရောင်တဖိတ်ဖိတ်နှင့် ကိုယ်ရိပ်အသွင် မြင်ရသည်ဟု ဆိုရလောက်အောင် ချောမွေ့ပြောင်လက်လှသည်၊ ကျောင်းကြီး အထက်ထပ်မှ ပတ်ပတ်လည် စင်္ကြံမှာလည်း တပတ်လောက်ပတ်ရုံဖြင့် ဒူလာ အညောင်း ရောဂါ ပျောက်ကင်းလောက်အောင် ရှည်လျား၏၊ အောက်ထပ်, အပေါ်ထပ်, အရှေ့ထိပ်, ဘုရားခန်းတို့မှာလည်း လွန်စွာ ကျက်သရေ ရှိကြသည်၊ မျက်နှာကြက်, တံကဲတော်တို့မှာ အနုပညာ လက်ရာ ပြောင်မြောက်လှသည်၊ သိမ်တင်းသုံးတော်မူနေသည့် ဆင်းတုတော်များမှာ သက်တော် ထင်ရှားမြတ်စွာဘုရားပမာ လွန်စွာ ကြည်ညိုစရာ ကောင်းလှပေသည်။

ဖော်ပြပါ ကျောင်းတော်ကြီးပေါ်၌ အဘိဓဇမဟာရဋ္ဌဂုရု ကျေးဇူးရှင်ဆရာတော်ဘုရားကြီးနှင့် တိုက်အုပ်ဆရာတော်တို့ ဥပုသ်နေ့တိုင်း ဘုရားဝတ်တက်, ဥပုသ်ပြုပြီးတိုင်း ရာပေါင်းများစွာသော သံဃာတော်တို့အား မိန့်ကြားသည့် ဩဝါဒမိန့်ခွန်းတော်တို့မှာ ဘုရားစကားတော်အလား လွန်စွာ ကောင်းမွန်၍ တန်ဖိုးကြီးလှပါသည်၊ သိမ်ကျောင်းတော်ကြီးပေါ်၌ စာချနေသော တိုက်အုပ်ဆရာတော်များနှင့် စာဆို စာလိုက် သံဃာတော်တို့ကို ဖူးတွေ့ရသည့် မြင်ကွင်း.မှာလည်း ပသာဒနီယဂုဏ် ဆောင်လှသည်၊ ရှေးက သီဟိုဠ်ကျွန်းမဟာဝိဟာရကျောင်းတိုက်ကြီး အတွင်း လောဟမဟာပါသာဒ ပြာသာဒ်တော်၌ ပိဋကတ်ချပို့ သင်ကြားကြသော ဘုရားသားကျော် သံဃာတော်တို့ကို သတိရ အောက်မေ့ အမှတ်ရစရာ ဖြစ်ပါသည်၊ စာရေးသူသည် ကျောင်းတိုက်ကြီး မြင်ကွင်းကို ကောင်းကင် လေယာဉ်ပျံပေါ်မှနေ၍လည်း အကြိမ်များစွာ မြင်တွေ့ခဲ့ရသည်၊ အလယ်ကျောင်းမကြီးနှင့် ပတ်ပတ်ဝန်းရံလျက်တည်ရှိသော အရံကျောင်းများ, အရံကျောင်းတို့၏ ဆွမ်းစားကျောင်းများ, မီးတင်းကုပ်များ

စသည်ဖြင့် ၁၀၀-နီးပါး အဆောက်အဦ အကြီး, အလတ်,အငယ်တို့ ဝန်းရံနေပုံမှာ မိခင်နှင့် သားသမီးများပမာ တူလှလေသည်၊ ကျောင်းတိုက်ကြီးအတွင်း ကျောင်းစဉ်လျှောက်ကြည့်လျှင်လည်း ကျောင်းနာမည်တို့မှာ သာသနာအား လျော်ကန်သော နာမည်များသာ ဖြစ်လေသည်၊ သာသနဇောတိပါလကျောင်း, ဓမ္မာယတနကျောင်း, သာသနဝံသကျောင်း, မကုဋ္ဌာလင်္ကာရကျောင်း, ဓမ္မောဒယကျောင်း, ရတနသိဒ္ဓိကျောင်း, ဓမ္မာဓာရကျောင်း, ဓမ္မပါလကျောင်း, သာသနဇောတိကကျောင်း စသည့် ကျောင်းတို့၏ နာမည်များမှာလည်း လောကီမသန်ပဲ လောကုတ္တရာဆန်လှပေသည်။

## ကျောင်းတိုက်ကြီးတည်ရာဌာန

ကျောင်းတိုက်ကြီးတည်ရာဌာနကား အမိမြန်မာနိုင်ငံ မကွေးတိုင်း အပါအဝင် ပခုက္ကူမြို့ ကုက္ကိုတန်းရပ်၌ ဖြစ်လေသည်၊ ပခုက္ကူမြို့သည် ရန်ကုန်မြို့တော်မှ ရေလမ်းမိုင်အားဖြင့် ၄၉၄-မိုင်, မန္တလေးမှ ၁၀၃-မိုင် ဝေးကွာသည်။

## သမိုင်းအကျဉ်းချုပ်

ကျေးဇူးတော်ရှင် ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရသည် မန္တလေးမြို့ သာသနာပိုင်ဆရာတော်ဘုရားကြီးများထံမှ ပိဋကတ် ၃-ပုံကို သင်ကြားခဲ့ပြီးနောက် ရေစကြိုမြို့ အောင်မြေသာယာ မင်္ဂလာကျောင်းတိုက်၌ သီတင်းသုံးတော်မူ၍ စာသင်သား မြောက်မြားစွာတို့အား ပိဋကတ်တော်များကို ပို့ချပေးတော်မူခဲ့သည်။

## ရေစကြိုမှ ပခုက္ကူသို့

ရေစကြိုမြို့သည် စာသင်သား များစွာတို့၏ ဂေါစရဂါမ်ဌာန မဟုတ်သည့်အတွက် ၁၂၅၀-ခုနှစ်တွင် ပခုက္ကူမြို့ ပန်းစွာတိုက်သို့ ပြောင်းရွှေ့လျက် စာသင်သားတို့အား နိကာယ် ၅-ရပ်ကို ဆက်လက် ပို့ချတော်မူပြန်သည်၊ ပန်းစွာကျောင်းတိုက်သည်လည်း မြို့လယ်ရပ်ကွက်ဖြစ်ရကား ပွဲလမ်းသဘင်, ဈေးရုံ, ပွဲရုံတို့နှင့် နီးကပ်လှသည့်အပြင် စာသင်သားဦးရေနှင့် မမျှအောင် ကျောင်းအရာမ်လည်း ကျဉ်းမြောင်းလှသဖြင့် ဦးစံပေါ်-ဒေါ်ငွေဟူသော သူတော်စင်နှစ်ဦးတို့သည် ဦးရွှေတောင် အမှူးရှိသော လူကြီးလူကောင်းတို့နှင့်တိုင်ပင်ကြကာ သက္ကရာဇ် ၁၂၆၅-ခုနှစ် တပို့တွဲလဆုတ် ၄-ရက်နေ့တွင် အုဋ်မြစ်ချ တည်ဆောက်၍ ဘုရားရှင်ထံ ဗိမ္ဗိသာရမင်းသည် ဝေဠုဝန် ကျောင်းတိုက်ကြီးကို သံဃိကလှူဒါန်းသည့်ပမာ စာတုဒ္ဒိသသံဃိက ကျောင်းတိုက်ကြီးအဖြစ်—

"ဣမာဟံ ဘန္တေ အာရာမံ၊ သုဝိသာလံ မနောရမံ။
စာတုဒ္ဒိသဿ သံဃဿ၊ ဒဒါမိ ပဋိဂ္ဂဏှထ"—



ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် ဗဟိုနာရီစင်ကြီး

ဟု ရေစကြိုသွန်းချ၍ လှူဒါန်းလေသည်၊ ဤကျောင်းတိုက်ကြီးတည်သော ခုနှစ်ကို **အနှိုင်းခိုင်သီးပြီ-တိုက်တော်တည်** ဟူသော ဆောင်ပုဒ်ဖြင့် အစဉ် အဆက် မှတ်တမ်းတင်လျက် ရှိလေသည်၊ ရေစကြိုဆရာတော်ဘုရားကြီးသည် ၁၂၆၆-ခုနှစ် ဒုတိယဝါဆိုလဆန်း ၈-ရက်နေ့တွင် နောက်ပါတပည့်သား ရဟန်းတော်တို့နှင့်အတူ ကြွရောက် သီတင်းသုံးတော်မူ၍ နိကာယ် ၅-ရပ်ကို အဋ္ဌကထာ, ဋီကာ တွဲဖက်လျက် မစဲနေ့ည ချပို့ကာ စာပွဲသဘင် ယင်တော်မူခဲ့ပေသည်။

## မဟာဝိသုတာရာမဝေါဟာရ

တိုက်တော်ကြီး၏ အမည်ကို ကျေးဇူးတော်ရှင် ဆရာရင်းဖြစ်တော်မူသော "ဥေ ယျဓမ္မာဘိမုနိဝရဉာဏကိတ္တိသိရီဓဇဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ နတ်ရဲတောင် ဒုတိယမောင်းထောင်သာသနာပိုင် ဆရာတော်ဘုရားကြီး သီတင်းသုံးတော်မူသည့် ရတနာပူရ ရွှေမြို့တော်ကြီး၏ အရှေ့မျက်နှာမှ ကျောင်းရံ ၂၀-ကျော်ရှိ မဟာဝိသုတာရာမတိုက် မဟာတုလွတ်ဘုံစံ ရွှေကျောင်းတော်နှင့် မန္တလေးမြို့တော်၏ အရှေ့မျက်နှာရှိ မဟာဝိသုတာ-ရာမ ကျောင်းတိုက်ကြီး၏ အမည်ကိုပင် မှည့်ခေါ် သတ်မှတ်တော်မူခဲ့သည်၊ ကျေးဇူးရှင် ရေစကြိုဆရာတော်ဘုရားကြီးသည် ကျောင်းတိုက်ကြီးကို အလှူခံတော်မူပြီး နိကာယ် ၅-ရပ် ပါဠိတော်ကို အဋ္ဌကထာ, ဋီကာ တွဲဖက်ကာ အလောင်းတော်၏ ဝီရိယ တောင်အထုဖြင့် ချပို့သင်ပြပေးတော်မူသဖြင့် နိကာယ် ၅-ရပ်ကို အမြန်ဆုံး တတ်မြောက်အောင် ချပို့ သင်ကြားပေးသည့် **ပခုက္ကူစာသင်နည်း**သည် သာသနာတွင် လွန်စွာ ထင်ရှား ကျော်ကြားလာခဲ့သည်၊ ထိုခေတ်အချိန်မှစ၍ ယခုအထိ သာသနာ့ဝန်ထမ်း စာသင်သား ရဟန်းတို့သည် "အဘယ်အချိန် ပခုက္ကူ မဟာဝိသုတာရာမစာသင်တိုက်ကြီးသို့ သွားရောက်၍ ပညာသင်ခွင့်ကို ရပါကုန်အံ့နည်း"ဟု ကြံစည် တွေးတောမျှော်တော်ဇောဖြင့် စောကြရကုန်သတည်း။

ကဒါ ဟိ ပခုက္ကူပုရေ၊ ဝိဇ္ဇာပိဠံ သုပါကဋံ။
ဥဂ္ဂဏှိတုံ ဂမေယျာမ၊ ဣတိ စိန္တာပရာ ဘဝူ။

# ရေစကြို ဆရာတော်ဘုရားကြီး

ရေစကြိုဆရာတော်ဘုရားကြီးသည် ပခုက္ကူသာသနာ့ကြိုးကိုင် ဖြစ်တော်မူသည်၊ မဟာဝိသုတာရာမ စာသင်ကျောင်းတိုက်ကြီးကို စတင် ဖန်တီးသူ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ကြီးလည်း ဖြစ်တော်မူသည်။

ဆရာတော်ကြီးသည် ပခန်းကြီးမြို့ အလယ်ကန်တိုက် ညောင်ပင်ရွာတွင် ဘခင် ဦးလူပု မိခင် ဒေါ်မင်းခဲတို့မှ ၁၁၉၄-ခုနှစ် တပေါင်းလဆုတ် ၁၃-ရက်နေ့ ည ၂-နာရီကျော်တွင် ဖွားမြင်တော်မူသည်၊ ၁၁-နှစ်သားအရွယ်တွင် အလယ်ကန် မင်္ဂလာကျောင်းဆရာတော်ထံ မိဘတို့က အပ်နှံကြသဖြင့် သင်ပုန်းကြီး, မင်္ဂလသုတ်, ဘုရားရှိခိုး, အောင်ခြင်းရှစ်ပါး, ဆုံးမစာ, ရတနာရွှေချိုင့်,နမက္ကာရ, ပရိတ်ကြီး, ဇာတ်ကြီးဆယ်ဘွဲ့ အစရှိသည်တို့ကို သင်ကြားခဲ့ပြီး ၁၅-နှစ်သား အရွယ်တွင် အလယ်ကန် မင်္ဂလာကျောင်းဆရာတော်ထံတွင် ရှင်သာမဏေ ဝတ်ခဲ့သည်၊ ဘွဲ့တော်မှာ **ရှင်ဂန္ဓသာရ** ဖြစ်လေသည်၊ အလယ်ကန် မင်္ဂလာကျောင်း၌ တနှစ် သီတင်းသုံးပြီးနောက် ဖျားသီးရွာ ဇေယျာဘုံသာဆရာတော် ဦးအာစာရထံ သွားရောက်ချဉ်းကပ်ကာ များစွာသော ပရိယတ္တိဓမ္မကျွန် စာပေ ကျမ်းဂန်တို့ကို သင်အံကြိုးကုတ် အားထုတ်တော်မူခဲ့သည်။

၁၂၁၃-ခုနှစ်တွင် ဖျားသီးရွာ ဇေယျာဘုံသာဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်၊ ၅-ဝါ ရသည်အထိ ဖျားသီးရွာ ဆရာတော်ထံ၌ မဆုတ်မနစ်သော ဇွဲလုံ့လဖြင့် ဂန္ထန္တရ အဝဝကို ကျနစွာ သင်ယူတော်မူသည်၊ ရေစကြိုမြို့ ဆရာတော် ဦးဝရသမ္ဘောဓိ ထံ ၂-နှစ်, ဆင်တဲ အရှင်ဣန္ဒာသဘ မထေရ်ထံ ၉-လ နည်းခံတော်မူသည်၊ ၎င်းနောက် ဖျားသီးရွာ ဇေယျာဘုံသာ ကျောင်း၌ ၁-ဝါ ပြန်ဆိုသည်၊ ၇-ဝါအရတွင် မန္တလေးမြို့ တောင်ပြင် အသောကာရာမတိုက် လေးထပ်ကျောင်း၌ ၂-လ သီတင်းသုံးပြီး အရှေ့ပြင် တိုက်တော် သီဟိုဠ်ကျောင်း၌ ၁-ဝါ, လှိုင်မင်းသမီးကျောင်း၌ ၁-ဝါ, သီတင်းသုံးလျက် ပိဋကတ်ကျမ်းဂန် အတန်တန်ကို သင်အံကြိုးစား အားထုတ်တော်မူခဲ့သည်၊ ၁၀-ဝါရပြီးနောက် မင်္ဂလာမဟာဝိသုတာရာမတိုက် "ဥဇုယျဓမ္မာဘိဝံသ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရ သာသနာပိုင်ဆရာတော်ဘုရားကြီးထံ၌ နောက်ဆုံး အချောသပ် အာစရိယမုဋ္ဌိ ရရှိအောင် ကျယ်ဝန်းများဖြင် နိကာယ်ငါးအင်ကို သင်ယူခဲ့သည်၊ ၁၂-ဝါ အရတွင် မင်းတုန်းမင်းတရားကြီးနှင့် မိဖုရားကြီးတို့က တိုက်တော် စလင်းကျောင်းကို တင်လှူလျက် ပဋ္ဌမစာတော်ချအဖြစ် ချီးမြှင့်တော်မူကြ၍ စလင်းကျောင်း၌ သီတင်းသုံးကာ ဂန္ထန္တရ အဝဝကို များစွာသော သံဃာတော်တို့



မဟာဝိသုတာရာမတိုက်တည်
ရေစကြိုဆရာတော် အရှင်ဂန္ဓသာရမဟာထေရ်

အား ချပို့ သင်ပြပေးတော်မူသည်၊ ၁၂၂၇-ခုနှစ်တွင် သာသနာပိုင်ဆရာရင်း ဥဒေ ယျဓမ္မာဘိဝံသ ပျံလွန်တော်မူသည်၊ ဆရာတော်ဘုရားကြီးက မဇ္ဈိမနိကာယ် အဋ္ဌကထာနိဿျ ရေးရန်လည်း မိန့်တော်မူခဲ့သဖြင့် စာ၀ါ အကြား အကြား၌ မဇ္ဈိမနိကာယ်အဋ္ဌကထာနိဿျကို ရေးသားဆဲတွင် ပဉ္စမသံဂါယနာတင် မင်းမြတ် နှင့် မိဖုရားကြီးတို့က နန်းတော်သို့ပင့်၍ "ဂန္ထသာရာဘိဓဇ သိရီပဝရ မဟာဓမ္မ- ရာဇာဓိရာဇဂုရု" ဘွဲ့တော် ဆက်ကပ်ပူဇော်လိုကြောင်း, တိုက်တော် သီးခြား တည်၍ ကိုးကွယ်လိုကြောင်း လျှောက်ထားချက်ကို ငြင်းပယ်တော်မူသဖြင့် သစ်ဆိမ့်တိုက်အတွင်း၌ ကျယ်ပန်းလှစွာသော ကျောင်းတော်ကြီးကို ဆောက် လုပ်စေကြပြီး မင်းတုန်းမင်းကြီးနှင့်တကွ ညာနက်ဒေဝီမဟေသီမိဖုရားခေါင်ကြီး, တောင်နန်းမတော်ကြီး, မိုးမိတ်မင်းသမီး, ကျောက်ပန်းတောင်းမင်းသမီး, ပခန်း မင်းကြီး, ရေစကြိုစားတော်ဝန်ကြီးတို့က တင်လှူကိုးကွယ်တော်မူကြသည်။

မင်းတုန်းမင်းတရားကြီး နတ်ရွာစံပြီးနောက်၌လည်း သီပေါမင်းတရားသည် ဆရာတော် အရှင်ဂန္ထသာရအား ဆက်လက်၍ ကြည်ညို ကိုးကွယ်ပြန်သည်၊ ၁၂၄၁-ခုနှစ်တွင် ကျေးဇူးတော်ရှင် ဆရာတော် ဦးဝရသမ္မောဓိ သီတင်းသုံးရာ အောင်မြေသာယာမင်္ဂလာကျောင်းတိုက်၌ သိုက်မြိုက်တင့်တယ်သော ကျောင်း ကြီး, ကျောင်းမ, ပြာသာဒ်, စနု, ဘောဂ, အရံအရံ၌တိုက်ကျောင်းများနှင့် တကွ လှပတင့်တယ် ကြီးကျယ်သော ကျောင်းတိုက်ကြီးကို တည်ဆောက်ပြီးလျှင် သီတင်းသုံးတော်မူရန် ရေစကြိုဝန်မင်းကြီး အမှူးရှိသော ဒကာ,ဒကာမများ၏ ပင့်လျှောက်ချက်ကို နှစ်သက်ကြည်ဖြူ လက်ခံတော်မူကာ ၂၈-၀ါ တိုင်တိုင် မန္တလေးမြို့၌ သီတင်းသုံးတော်မူပြီးမှ ၁၂၄၁-ခုနှစ် သိက္ခာတော် ၃၆-၀ါ အရတွင် ရေစကြိုသို့ နောက်ပါတပည့်သံဃာတော်များစွာနှင့် အတူ ကြွတော် မူ၍ **ရေစကြိုဝန်မင်းကြီး** ဆောက်လုပ်အပ်သော **အောင်မြေသာယာမင်္ဂလာ ကျောင်းတိုက်**၌ ယာပိုထ်မျှတတော်မူ၍ ဂန္ထဓူရ, ဝိပဿနာဓူရ ၂-ပါးကို ကြိုး စား အားသစ်တော်မူလေသည်။

၁၂၅၈-ခုနှစ်တွင် ဆရာတော်ကြီးထံ ပညာသင်ရန် လာရောက်ကြသော သံဃာတော်တို့သည် လူနေအိမ်ခြေနှင့်မမျှအောင် များပြားလှသည်၊ တမြို့လုံး မီးလောင်ကျွမ်းသဖြင့်လည်း မြို့နေလူထု ဆင်းရဲနွမ်းပါး အစားဆန်ရေ ကြပ် တည်းကြသည်၊ သို့ သံဃာတော်များ ဆွမ်းရေးကြပ်တည်းကြသဖြင့် ပခုက္ကူ မြို့သို့ ကြွပါရန် ပခုက္ကူမြို့မှ ပွဲစားကြီး ဦးရွှေတောင် အစရှိသော လူကြီး လူကောင်းတို့၏ တောင်းပန်လျှောက်ချက်ကို ကျေနပ်လက်ခံတော်မူကာ ၁၂၅၈- ခုနှစ်တွင် ပခုက္ကူမြို့ **ပန်းစွာတိုက်**သို့ ကြွရောက်၍ **မယ်မင်းခင်ကျောင်းပေါ်**တွင် ဓူရ နှစ်ပါးကို ပွါးများလျက် ၇-၀ါမျှ သီတင်းသုံးတော်မူသည်၊ ၁၂၆၅-ခုနှစ် တွင် ရေစကြိုသို့ ကြွ၍ ၁-၀ါသီတင်းသုံးတော်မူသည်၊ ၁၂၆၆-ခုနှစ် ဒုတိယဝါဆို

လဆန်း ၈-ရက်နေ့တွင် တိုက်ဟောင်း ပန်းစွာကျောင်းမှ **မဟာဝိသုတာရာမ တိုက်သစ်**သို့ သံဃာတော် ၁၆၀-ကျော်နှင့်တကွ နံတော်သင့် စကားသား ရုပ်ပွါးတော်နှစ်ဆူကို ထီးဖြူတော်မိုးလျက် ပင့်ဆောင်ခဲ့ကာ ပြောင်းရွှေ့ ကြွရောက် သီတင်းသုံးတော်မူသည်၊ ၁၂၇၁-ခုနှစ်တွင် ရေစကြိုသို့ တဖန် ၁-ဝါ ပြန်၍ ဆိုတော်မူပြန်သည်၊ ၁၂၇၂-ခုနှစ်တွင် ပခုက္ကူသို့ ပြန်ကြွ၍ ၅-ဝါ ပတ်လုံး သီတင်းသုံးတော်မူသည်၊ ဆရာတော်ဘုရားကြီးသည် စာချရင်းအား လပ်ချိန်တွင် ကဲလွန်သောဝီရိယ တောင်အထုဖြင့် အောက်ဖော်ပြပါ ကျမ်းစာ မြောက်မြားစွာတို့ကိုလည်း ရေးသား ပြုစုတော်မူခဲ့သည်၊ ၎င်းတို့မှာ—

၁။ ပကိဏ္ဏကစာစပ်

၂။ ကင်္ခါဝိတရဏီအဋ္ဌကထာစာစပ်

၃။ ကင်္ခါဝိတရဏီအဋ္ဌကထာနိဿျ

၄။ ဒီဃနိကာယ်ပါဠိတော် (၃-ကျမ်း) နိဿျ

၅။ မဇ္ဈိမနိကာယ်ပါဠိတော် (၃-ကျမ်း) နိဿျ

၆။ မဇ္ဈိမနိကာယ်အဋ္ဌကထာ (၃-ကျမ်း) နိဿျ

၇။ သံယုတ်ပါဠိတော် (၅-ကျမ်း) နိဿျ

၈။ အင်္ဂုတ္တရနိကာယ်ပါဠိတော် (၁၁-ကျမ်း)နိဿျ

၉။ ဇာတ်အဋ္ဌကထာနိဿျ

၁၀။ ပါရာဇိကဏ်ပါဠိတော်နိဿျ

၁၁။ ပါစိတ်ပါဠိတော်နိဿျ

၁၂။ ပါရာဇိကဏ် အဋ္ဌကထာနိဿျ

၁၃။ မဟာဝါ ပါဠိတော်နိဿျ

၁၄။ ပါစိတ်အဋ္ဌကထာနိဿျ

၁၅။ မဟာဝါအဋ္ဌကထာနိဿျ စသည်တို့ ဖြစ်ကြပါသည်။

## နတ်ပွဲသဘင် ဝင်စံရပြီ

ဤသို့လျှင် ပရိယတ္တိဓုရန္ဓရ, ပဋိပတ္တိမာမက, လဇ္ဇီပေသလ, သိက္ခာကာမ ဖြစ်တော်မူသည့် ပခုက္ကူသာသနာ့ကြိုးကိုင် ကျေးဇူးရှင် ရေစကြိုဆရာတော် ဘုရားကြီး အရှင်ဂန္ဓသာရသည် ကိုယ်ရောင်ရောဂါ ကပ်ရောက်လာသဖြင့်

သက်တော် ၈၂-နှစ် ဝါတော် ၆၃-ဝါအရ ၁၂၇၆-ခုနှစ် သီတင်းကျွတ်လဆုတ် ၁-ရက် နေ့ ၂-နာရီအချိန်တွင် ဘဝနတ်ထံ ဝင်စံတော်မူသည်။

ဂန္ထသာရော မဟာထေရော၊ ဝိသုတာရာမမာပကော။
သီလဝါ သုတဝါ ပညော၊ ဓုရဝါဟီ ဗဟုဿုတော။

ပါဝစနေ စ သတ္ထေ စ၊ ဗျာကရဏေ ဝိသာရဒေါ။
သောပိ မစ္စုဝသံ ပတ္တော၊ မာဒိသေသု ကထာဝ ကာ။

## ကျေးဇူးရှင် ရေစကြို ဆရာတော်ဘုရားကြီး သာသနာပြုတော်မူခဲ့ပုံ

ဆရာတော်ဘုရားကြီးသည်——

၁။ မိမိကျောင်းတိုက်ရှိ တိုက်အုပ်ဆရာတော်များ, ဂဏဝါစကဆရာတော်များနှင့် ကျောင်းအုပ် ဘုန်းတော်ကြီးများအား သီတင်းနေ့တိုင်း စည်းဝေး တိုင်ပင်စေသည်။

၂။ တတိုက်လုံး သံဃာ့ဥပုသ် အမြဲပြုစေတော်မူသည်။

၃။ သိက္ခာကျင့်ဝတ် ချတ်ယွင်းသူများကို တိုက်တာမှ နှင်ထုတ်စေသည်။

၄။ မိမိထက်သိက္ခာကြီးသူ အရှင်မြတ်တို့အား ဝါကျွတ်တိုင်း သွားရောက် ကန်တော့တော်မူသည်။

၅။ ဆွမ်းစဉ် ပရိတ်ရွတ် အလှူခံ မလိုက်ပဲ စာပေပို့ချမှု၌သာ မွေ့လျော် တော်မူသည်။

၆။ ညဥ့် ၃-ယာမ် ၁-ယာမ်သာ ကျိန်းစက်တော်မူ၍ ၂-ယာမ်၌ ကမ္မဋ္ဌာန်း ဘာဝနာဖြင့် ပျော်မွေ့တော်မူသည်။

၇။ • မင်းတုန်းမင်းတရားကြီး၏ ကျောင်းဆောက်တင်လှူခြင်းနှင့် ပူဇော် ခြင်းကို ငြင်းပယ်တော်မူသည်။

၈။ မင်းတုန်းမင်းတရားကြီး ဆက်ကပ်အပ်သော "ဂန္ထသာရာဘိဓဇသီရိ-ပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း မခံယူပဲ ငြင်းပယ်တော်မူသည်။

၉။ တောင်ခွင် သာသနာပိုင်လက်ထက်တွင် အင်္ဂလိပ်အစိုးရ ကိုယ်စား တောင်ခွင်သာသနာပိုင် ပို့စေအပ်သော "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ် ကို ၂-ကြိမ်တိုင်တိုင် ပြန်ပို့တော်မူစေသည်။

၁၀။ မန္တလေးမြို့တော်၌ စာလိုက်စဉ် စာချအံ့ဆဲဆဲ၌ ဆွမ်းစဉ်ပင့်သူ နောက်သို့ စာဝါဆိုင်း၍ လိုက်သွားသော စာချဆရာတော်ထံ၌ စာဝါလိုက်ခြင်းကို ဖြတ်လိုက်တော်မူသည်။

၁၁။ ကျောင်းတိုက်တွင် ဥပုသ်သည်များကို လက်မခံပဲ သီလယူပြီး ပြန်သွားစေတော်မူသည်။

၁၂။ ဘဝနတ်ထံ ပြန်လွန်တော်မူသည့်နေ့တိုင် စာပို့ချတော်မူသေးသည်။

အထက်ဖော်ပြပါ လုပ်ငန်းတော်တို့ကြောင့် မိုးတွင်းရောက်မှ ပွင့်ခွင့်ကြုံရသော မြတ်လေးပန်းပွင့်သည် အနီးအနား၌သာလျှင် သင်းပျံ့ကြိုင်လှိုင် မွှေးစွမ်းနိုင်သော်လည်း ကျေးဇူးရှင် ရေစကြိုဆရာတော်ဘုရားကြီးသည် သီလ,သမာဓိ, ပညာ ဂုဏ်များစွာတို့၏ အနံ့တော်ဖြင့် နီးဝေးမဟူ နတ်လူဌာန လောကဉဿုံ အလုံးစုံသော အရပ်မျက်နှာတို့၌ သင်းပျံ့ကြိုင်လှိုင် မွှေးစွမ်းပိုင်ပါပေသည်။

ဝဿိကေ ပုပ္ဖမာနမ္ပိ၊ သန္တိကေ ဉပဝါယတိ။
ထေရော ဟိ ဂုဏဂန္ဓေန၊ ဒိသာ သဗ္ဗာ ပဝါယတိ။



ဆရာတော် အရှင်ပညာ မဟာထေရ်

# ဆရာတော် အရှင်ပညာမဟာထေရ်

ဆရာတော် အရှင်ပညာမဟာထေရ်သည် ထက်မြက်သောဉာဏ်, နက်နဲသော ဉာဏ်ပဋိဘာန်စသည်တို့နှင့် ပြည့်စုံသည့် နိုင်ငံကျော်ပညာရှိ ဆရာတော်ကြီးတပါး ဖြစ်တော်မူလေသည်၊ ပခုက္ကူမြို့ မဟာဝိသုတာရာမ နိကာယ တက္ကသိုလ်ကြီး၏ အဓိပတိ မဟာနာယက ဖြစ်သည့်ပြင် ပခုက္ကူ မဟာဝိသုတာရာမ ဂဏဝါစက နိကာယကြီး၏ အကြီးအမှူး ဦးစီးပဓာန မဟာဝိနာယကဖြစ်၍လည်း "ပခုက္ကူ ဆရာတော် ဦးပညာ" ဟု ကျော်ကြားတော်မူခဲ့သည်။

ဆရာတော်သည် မြင်းခြံခရိုင် ပုပ္ပါးတောင်အနီး တောင်ဆင်းနယ် ခွေးပြုတ်ရွာ၌ အဘ ဦးပြော့-အမိ ဒေါ်မင်းဂုဏ်တို့မှ သက္ကရာဇ် ၁၂၄၀-ပြည့်နှစ် ကဆုန်လဆန်း ၂-ရက် ကြာသပတေးနေ့ ၂-နာရီအချိန်တွင် ဖွားမြင်တော်မူသည်၊ ဆရာတော်လောင်းလျာသည် ဘုန်းကံပါရမီ အလွန်ကြီးရင့်သော ပုဂ္ဂိုလ်ထူး ဖြစ်သည့်အလျောက် ဖွားမြင်တော်မူရာခဏ၌ မဟာပထဝီမြေကြီးသည် ပဲ့တင်သံမြည်ဟည်းလျက် တုန်လှုပ်ခဲ့သည်၊ လျှပ်စစ်လျှပ်ပန်းတို့ တလျှပ်လျှပ်လက်လင်း၍ မိုးကြီးလည်း သည်းထန်စွာ ရွာသွန်းခဲ့လေသည်။

**အတိတ်ကောင်းနိမိတ်ကောင်း**

ဖွားမြင်ပြီး၍ ၅-လသာရှိသေးသော သံဃနာထ ထေရမဟာ လောင်းလျာသူငယ် လူမမယ်ကို နှံ့သာမျိုးစုံတို့ဖြင့် ခြယ်လှယ်လိမ်းကျံကာ သန့်စင်သော အခင်းအနှီးဖြင့် သိပ်ထားစဉ် ထေရလောင်းလျာ၏ ကျောအောက်တည့်တည့်၌ သင်းခွေပန်းငုံ ဝါဂွမ်းပုံအစုကဲ့သို့ နုနုနယ်နယ် စင်ကြယ်ဖြူဖွေး လုံးထွေးလျက်ရှိသော ဂုံညင်းခန့်ပမာဏ ပိုးရွှအစုသည် သဘာဝအလျောက် ပေါ်ပေါက်တည်ရှိနေလေသည်၊ ထေရလောင်းလျာ သားငယ်၏ အမူအရာဖြင့် သိရသော မယ်တော်သည် တောင်တောင်ဤဤ ဆိုမြည်တမ်းလျက် ကြံစည်စဉ်းစားစဉ် ထေရသခင်မြတ်၏ ဘိုးတော်က "ပိုးလောက်ဖြူနု ကျောအောက်စုသော ငါ့မြေးတော်ကား သာမန်ယောကျ်ား အညံ့စားမဟုတ်၊ တလောကလုံး၏ ထောက်ရာတည်ရာ မှီခိုအားထားရာ မချွတ်ဖြစ်လိမ့်မည်၊ ပြည့်စုံလုံလောက်သော လောကီဂုဏ်, လောကုတ္တရာဂုဏ်တို့၏ တည်ရာစင်စစ် ဖြစ်လိမ့်မည်။

ပုဋ္ဌုဝေါ ဟိ ပုလဋ္ဌေန၊ ပုဏ္ဏာဘာဝဿ ကာရဏံ။
ဂုဏေနာပိ မဟန္တဿ၊ လောကေန အဘိသမ္မတံ။

ပိုးလောက်ဟူသည် ကြီးပွါးမြင့်မောက် လုံလောက် ပြည့်ဝခြင်းဟူသော ပုလ အနက် သဘောအားဖြင့် ပြည့်စုံ လုံလောက်ခြင်း၏ရင်း, ဂုဏ်အားဖြင့်

ကြီးထွား မြင့်မြတ်ခြင်း၏ရင်း အကြောင်းနိမိတ်ဟူ၍ ပညာရှိသူတို့ သမုတ်ပြီ”ဟု နိမိတ်ယူ၍ ပြောဆိုခဲ့လေသည်၊ ထေရလောင်းလျာ သူငယ်ကိုလည်း တခဏခြင်း အလျဉ်းသင့်အောင် ချေဆိုနိုင်သော ဌာနုပ္ပတ္တိက အသိဉာဏ်ကို အစွဲပြု၍ မောင်ပေါ်ဉာဏ်ဟု မှည့်ခေါ်ခဲ့ကြသည်။

ဆရာတော်လောင်းလျာသည် ရှေးဦးစွာ ချေးပြုတ်ရွာ ကျောင်းထိုင်ဆရာတော် နောင်တော် ဦးနန္ဒမာလာထံတွင် သင်ပုန်းကြီး, မင်္ဂလသုတ်, နမက္ကာရ စသည်တို့ကို တနှစ်ကြာမျှ သင်ယူခဲ့ပြီးနောက် နဂရာဇ်ကျောင်း ဆရာတော် အရှင်ဉာဏမထေရ်ထံ၌ ဆက်လက်၍ နိကာယ်ငါးတန်၏ အခြေခံဖြစ်သည့် သဒ္ဒါ,သင်္ဂြိုဟ်စသည်တို့ကို သင်ယူခဲ့သည်၊ အသက် ၁၄-နှစ်အရွယ်တွင် ဖော်ပြပါ နဂရာဇ်ကျောင်း ဆရာတော်အထံ၌ ရှင်သာမဏေ ဝတ်ခဲ့သည်၊ ဘွဲ့တော်မှာ ရှင်မေဓာ ဖြစ်သည်၊ သာမဏေ ဝတ်ပြီးနောက် ဆင်ဖြူကျွန်းမြို့ စေတီလှ ကျောင်းတိုက် (ယခု မဟာဝိသုတာရာမတိုက်) အရှင်ဓမ္မသီရိထံတွင် ဆရာ ဘုန်းတော်ကြီးကိုယ်တိုင် လိုက်ပို့ အပ်နှံသဖြင့် ဆက်လက် ပညာသင်ကြားရာ တနှစ်လောက်ရှိသောကာလတွင် ဆင်ဖြူကျွန်း တမြို့လုံး ကျောက်ကြီးရောဂါဖိစီးသဖြင့် ထေရလောင်းလျာ ရှင်မေဓာကိုလည်း မည္ဒာမထောက် စွဲရောက်နှိပ်စက်၍ အနာရောဂါပျောက်စ နာလှန်ထစတွင် မိမိဥပဇ္ဈာယ် ဆရာမြတ်ထံ ပြန်ခဲ့ပြီး ထိုစဉ်က မြောကြီးရွာ၌ စာပေကျမ်းဂန်ချပို့လျက်ရှိသော အရှင်မေဓာထံသို့ ပညာသင်ရန် သွားရောက်ခဲ့လေသည်၊ မြောဆရာတော်သည် မိမိဘွဲ့နှင့်တူသဖြင့် ထေရလောင်းလျာကို ရှင်ပညာဟု ဘွဲ့ပြင်၍ မှည့်ခေါ်လေသည်။

အသက် ၁၆-နှစ်အရွယ်တွင် မြောစာသင်ဖက် အရှင်အာဒိစ္စ အမည်ရှိသော ရဟန်းတော်နှင့်အတူ ပခုက္ကူမြို့ ပန်းစွာတိုက် ရေစကြိုဆရာတော်ဘုရားကြီး၏ ထံမှောက်သို့ ရောက်လေသည်၊ ရှင်ပညာသည် နံနက် ဋီကာကျော်စာဝါ၌ စာဆိုသူ လစ်လပ်သဖြင့် စာဝင်ဆိုရာ ရေစကြိုဆရာတော်ဘုရားကြီးမှာ များစွာ ကျေနပ် နှစ်သက်တော်မူသည်၊ ဆရာတော်ဘုရားကြီးထံတွင် ဆက်လက်၍ နိကာယ် ၅-ရပ်ကို ကျနစွာသင်ယူခဲ့ပြီး ကိုရင်ဝတ်နှင့် စာစ၍ ချပို့တော်မူခဲ့သည်၊ ၁၂၅၉-ခုနှစ် တပေါင်းလဆုတ် ၅-ရက်နေ့တွင် နဂရာဇ်ဆရာတော် အရှင်ဉာဏ ထေရ်ကို ဥပဇ္ဈာယ်ပြု၍ တောင်ဆင်းနယ် ဆင်လူးအိုင်ရွာ ဒါယကာ ဦးချုပ်နှင့် ဒါယိကာမ ဒေါ်လှဖူးတို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်၊ ရဟန်း ၄-ဝါ အရတွင် ဂဏဝါစက စာချအဖြစ် ရေစကြိုဆရာတော်ကြီးက ချီးမြှင့်မြှောက်စား ခန့်ထားတော်မူသဖြင့် နိကာယ် ၅-ရပ်ကို ၃-နှစ်တိုင်တိုင် ချပို့တော်မူသည်၊ ရဟန်း ၇-ဝါအရတွင် မန္တလေးမြို့ အရှေ့ပြင် ခင်မကန်တိုက် မင်းရွာဆရာတော် အရှင်အရိယဝံသထံတွင် အဘိဓမ္မာညဝါများကို သင်ယူခဲ့၍ မန္တလေးမြို့ တောင်ပြင် ရွှေရေးဆောင်တိုက်ဆရာတော် အရှင်အာဒိစ္စရံသီထံတွင်

ဖြတ်ထုံး ဝိနိစ္ဆယများနှင့်တကွ သဒ္ဒနယ အတ္ထနယတို့ကို ကျနစွာ သင်ယူခဲ့ပြီး ပခုက္ကူသို့ ပြန်ကြွလာခဲ့သည်။

၁၂၇၆-ခုနှစ် သီတင်းကျွတ်လပြည့်ကျော် ၂-ရက်နေ့တွင် ကျေးဇူးတော်ရှင် ရေစကြိုဆရာတော်ဘုရားကြီး ပျံလွန်တော်မူသဖြင့် သီဟိုဠ်ကျွန်း မဟာဝိဟာရ ကျောင်းတိုက်ကြီးတမျှ ခမ်းနားလှသော မဟာဝိသုတာရာမကျောင်းတိုက်ကြီး နှင့် မဟာဝိသုတာရာမိက ဂဏဝါစက နိကာယကြီးကို ဦးစီးအုပ်ချုပ် နာယက ပြုလုပ်တော်မူ၍ ဂိုဏ်းဝင်သံဃာ မြားမြောက်စွာတို့ကို စာပေပို့ချတော်မူခဲ့သည်၊ ထိုအချိန်မှစ၍ ပခုက္ကူဆရာတော် အရှင်ပညာဟု လွန်စွာ ကျော်စော ထင်ရှား လေသည်၊ သာသနာတွင် ကျော်စောထင်ရှားသည့် စာပေသမား ဆရာတော် များသည် ထိုခေတ်က ဆရာတော် အရှင်ပညာထံ နည်းခံဘူးကြသည့် တပည့် များသာ များလေသည်၊ ဆရာတော်သည် နိုင်ငံတော်မဟာနာယကလည်း ဖြစ်တော်မူသည်၊ ဆရာတော်၏ ကြိုးပမ်းချက်ကြောင့် တောင်တန်းသာသနာပြု အဖွဲ့ကြီး ပေါ်ပေါက်ခဲ့သည်၊ ဆရာတော်သည် မဟာဝိသုတာရာမ ဂဏဝါစက နိကာယကြီး၏ ဂဏမဟာဝိနာယကလည်း ဖြစ်တော်မူသည်၊ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသနှင့်အတူ ၁၂၉၁-ခုနှစ်တွင် ဣန္ဒိယနိုင်ငံ, သီဟိုဠ်နိုင်ငံသို့ ကြွတော်မူ၍ ဗောဓိပင်နှင့်ရွှေပလ္လင်တော်,သာဝတ္ထိ, ရာဇဂြိုဟ်, သင်္ကဿနဂိုရ်စသည့် ထိုထိုဌာန များနှင့် သီဟိုဠ်ကျွန်းရှိ မဟာစေတီ, သံဃမိတ္တာမဟာဗောဓိ, ထူပါရာမစေတီ, စွယ်တော်တိုက် အစရှိသည့် ပူဇနီယဋ္ဌာနများသို့ ကြွရောက်၍ ဖူးမြော် ဦးချ သံဝေဂ ယူတော်မူခဲ့သည်။

## ကျမ်းပြု ရေးသားတော်မူခြင်း

ဆရာတော်သည် ၁-ဋီကာကျော်နိသျ၊ ၂-မင်္ဂလာဒီပနိဝိနိစ္ဆယ၊ ၃-သီမာ-ဝိနိစ္ဆယ၊ ၄-သမ္မောဟဝိနောဒနီအဋ္ဌကထာနိသျ စသော ကျမ်းပေါင်းများစွာ တို့ကိုလည်း နောင်လာနောက်သားများ နည်းရကြစေရန် ရေးသားတော် မူခဲ့သည်။

## အဂ္ဂမဟာပဏ္ဍိတ

ဆရာတော်သည် အင်္ဂလိပ်အစိုးရ လျှုဒါန်းသော အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ် တော်ကို ၁၂၉၇-ခုနှစ်တွင် ခံယူရရှိတော်မူသည်။

## ဘဝနတ်ထံ ပျံလွန်ပြီ

ဆရာတော်သည် သက်တော် ၆၉-နှစ် ဝါတော်-၄၉-ဝါအရ ၁၃၀၈-ခုနှစ် တော်သလင်းလဆုတ် ၆-ရက်နေ့ နံနက် ၂-နာရီ မိနစ်-၄၀ တွင် မဟာစေတီ ဒါယကာ ဒုဋ္ဌဂါမဏိမင်းကြီးနှင့်တူစွာ သာသနာပြုကိစ္စအဝဝကို တိုင်ပင်နှီးနှော

ဆွေးနွေးရန် ဌေးမှိုင်၍ နေကြရှာသော တပည့်တပန်း ရဟန်းသာမဏေတို့ကို ထားရစ်ကာ တုသိတာနန်းမသို့ မြန်းကြွတော်မူခဲ့လေပြီ၊ ဆရာတော်ဘုရား တုသိတာနန်း လှမ်းကြွတော်မူသည်နှင့် တပြိုင်နက် မဟာပထဝီ မြေကြီးသည် သည်းထန်ပြင်းပြစွာ အရှေ့ အနောက် တောင် မြောက် ဘယ်ညာ ယိမ်းနွဲ့ကာ ဖြင့် လှုန်စွာ တုန်လှုပ်ခဲ့လေသည်။

မဟာပုညော မဟာပညော၊ ထေရော ပညာသနာမကော။
နိကာယသင်္ဂါမေ သူရော၊ ပဉ္စနိကာယဝါစကော။

ပဉ္စနိကာယဒုဂ္ဂမှိ၊ နိဗ္ဗယော သုဝိသာရဒေါ။
အင်္ဂေါ နိကာယဝိညူနံ၊ အဂ္ဂညော အဂ္ဂပုဂ္ဂလော။

သောပိ နာမ မဟာထေရော၊ ဝိသုတာရာမနာယကော။
မရဏဿ ဝသံ ယာတော၊ မာဒိသေသု ကထာဝ ကာ။




ဆရာတော် အရှင်နန္ဒဝံသမဟာထေရ်

# ဆရာတော် အရှင်နန္ဒဝံသ မဟာထေရ်

ဆရာတော် အရှင်နန္ဒဝံသ မဟာထေရ်သည် သာသနာတွင် နေ့လ အသွင် ထင်ရှားသည့် သာသနာရက္ခက, သာသနဂေါပက ဆရာတော်ဘုရား ဖြစ်တော် မူလေသည်။

## ဖွားမြင်ခြင်း

ဆရာတော်ဘုရားသည် မြင်းခြံခရိုင် ပုဂံမြို့နယ် ဆင်သားမွေးရွာ ခမည်းတော် ဦးအိုး နှင့် မယ်တော် ဒေါ်ဖီးတို့၏ ဝမ်းကြာတိုက်မှ ၁၂၄၄-ခုနှစ် နတ်တော်လဆန်း ၂-ရက် စနေနေ့ ည ၃-ချက်တီးအချိန်တွင် ဖွားမြင်တော် မူခဲ့သည်။

## ရှင်ရဟန်းပြုခြင်း

သက္ကရာဇ် ၁၂၆၁-ခုနှစ် သက်တော် ၁၇-နှစ်သားအရွယ်တွင် ရေစကြို ဆရာတော်ဘုရားကြီး အရှင်ဂန္ဓသာရ မဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်ကို ရရှိကာ ဆရာတော်ဘုရားကြီးနှင့် ဆရာတော်ဦးပညာတို့ထံတွင် အခြေပြုကျမ်းစာများနှင့် ပိဋကတ်တော်များကို သင်ယူခဲ့သည်၊ ဆရာတော် လောင်းလျာသည် လွန်စွာ ဉာဏ်ထက်မြက်သဖြင့် ကစ္စည်းသဒ္ဒါကြီးကို ၁၆-ရက်, အဘိဓမ္မာသင်္ဂြိုဟ်ကျမ်းကို ၄-ရက်ဖြင့် သင်ယူခဲ့ကြောင်း ပခုက္ကူစာသင်သား လောကတွင် ပျံ့နှံ့နေသည်၊ ပခုက္ကူတိုက်ကြီးတွင် ကိုရင်ဝတ်နှင့် စာစ၍ ချပို့တော်မူခဲ့သည်၊ ၁၂၆၃-ခုနှစ် တပေါင်းလဆုတ် ၅-ရက်နေ့တွင် ရေစကြိုဆရာတော် ဘုရားကြီးကိုပင် ဥပဇ္ဈာယ်ပြု၍ ပခုက္ကူမြို့ ကုန်သည်ကြီး ဦးဘိုးချမ်း၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းအဖြစ်သို့ ရောက်ရှိတော်မူခဲ့လေသည်။

## သာသနာပြု အားထုတ်မှု

ဆရာတော်သည် ဥပဇ္ဈာယ်ဆရာတော် အရှင်ဂန္ဓသာရ, မန္တလေးမြို့ အရှေ့ပြင် ခင်မကန် မင်းရွာ ဆရာတော်, သုဓမ္မာဝင် တိုက်တော် ကျောက်ပန်းတောင်း ဆရာတော်, ရွှေရေးဆောင် ဆရာတော် အရှင်အာဒိစ္စရံသီစသော ဆရာတော် များထံတွင် ပိဋကတ်သုံးပုံ အလုံးစုံကို အကုန်အစင် တတ်မြောက်အောင် သင်ယူတော်မူခဲ့သည်။

## ဣန္ဒိယနိုင်ငံနှင့် သီဟိုဠ်နိုင်ငံတို့သို့ ကြွတော်မူခြင်း

ဆရာတော်သည် ၁၂၈၁-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၄-ရက်နေ့တွင် ဣန္ဒိယ နိုင်ငံသို့ ကြွရောက်ကာ မြတ်စွာဘုရား ဖွားမြင်တော်မူရာ လုမ္ဗိနီ ဥယျာဉ်တော်,

မြတ်စွာဘုရား အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ်ရတော်မူရာ မဟာဗောဓိပလ္လင်တော်,မြတ်စွာဘုရား ဓမ္မစကြာတရား ဟောတော်မူရာ မိဂဒါဝုန်တော, မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော်မူရာ ကုသိနာရုံ မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်တော်-ဟူသော ၄-ပါးသော ဒဿနီယဋ္ဌာန, သံဝေဇနီယဋ္ဌာနများ အပါအဝင် အလွန် စိတ်ကြည်လင်ဖွယ် ကောင်းလှသည့် သာဝတ္ထိ, ရာဇဂြိုဟ်, သင်္ကဿနဂိုရ် အစရှိသည့် ပူဇနီယဋ္ဌာနများသို့ လှည့်လည်၍ ဖူးမြော်တော်မူခဲ့သည်၊ ဆရာတော် ကုသိနာရုံရောက်ခိုက် ပရိနိဗ္ဗာန်စံတော်မူဟန် ဆင်းတုတော်မြတ်အား ကြည်ညို လှ၍ တိစီဝရိက်သင်္ကန်း လှူဒါန်းခဲ့ကြောင်း ဆရာတော် စာချရင်း မိန့်ကြားချက်ကို မှတ်သားရဘူးပါသည်၊ ဆရာတော်သည် ဣန္ဒိယမှတဆင့် သီဟိုဠ်နိုင်ငံသို့ လည်း ကြွတော်မူလျက် ထူပါရာမစေတီ, မဟာစေတီ, ဗောဓိပင်နှင့် စွယ်တော်တို့ ကိုလည်း ဖူးမြော်တော်မူခဲ့သည်။

ဆရာတော်သည် ညောင်ဦးမြို့, ညောင်တုန်းမြို့တို့၌ ကြာမြင့်စွာ သီတင်းသုံး လျက် ပရိယတ္တိသာသနာကို ဖြန့်ချိတော်မူခဲ့သဖြင့် **ညောင်ဦးဆရာတော်, ညောင်တုန်းဆရာတော်**ဟုလည်း သာသနာတွင် ကျော်စော ထင်ရှားလှပေသည်၊ ဆရာတော်သည် ၁၃၀၈-ခုနှစ် ဆရာတော် အရှင်ပညာထေရ် ပျံလွန်ပြီးနောက် ပခုက္ကူမြို့ မဟာဝိသုတာရာမကျောင်းတိုက်ကြီးသို့ ကြွရောက်တော်မူ၍ အဘိဇ-မဟာရဋ္ဌဂုရု အရှင်သုန္ဒရ ဆရာတော်ဘုရားနှင့် အတူတကွ အရှင်အနုရုဒ္ဓ,အရှင် နန္ဒိယထေရ်တို့ ပမာ သင့်တင့် ညီညွတ်စွာ သာသနာ့တာဝန်ကို ထမ်းဆောင် တော်မူခဲ့သည်။

ဆရာတော်သည် ရဟန်းခံ သိမ်သမုတ်စသော ကံကြီး ကံငယ် ကိစ္စမှ တပါး ပရိတ်ရွတ် ဆွမ်းစဉ်စသော ကိစ္စများ၌ ကြောင့်ကြ အလွန်နည်းလျက် စာဝါကို မပြတ်ချပို့တော်မူသည်၊ဝီရိယကဲလွန်သည့် ဝီရိယာဓိကပုဂ္ဂိုလ်ထူး ဖြစ်လေသည်၊ ရဟန်းငယ်ဘဝက မန္တလေးကြွခါနီး မတက်ဘူးသော သုတ်ပါထေယျ ပါဠိ,အဋ္ဌ-ကထာကို ၁၅-ရက်အတွင်း ဆရာတော် အရှင်ပညာထံတွင် ဆို့ဝါဖြင့် သင်ယူခဲ့ သည်၊ ဒီဃနိကာယ်နိဿရေးရန် ရဟန်း ၄-ဝါ ရစဉ်က သတင်းသုံးဖော်တို့၏ တောင်းပန်ချက်အရ ဒီဃနိကာယ်ကို အထပ်ထပ် ချပို့ရင်း ရေးသားတော်မူ သည်၊ ပျံလွန်တော်မူသည်အထိ ၄ဂ-ခေါက် တိုင်မြောက်သည်ဟု သိရသည်၊ ပျံလွန်တော်မူခါနီးမှ ပုံနှိပ်စာအုပ်အဖြစ်သို့ ရောက်လေသည်။

ဆရာတော် ရေးသားပြုစုတော်မူခဲ့သည့် ကျမ်းများမှာ—

၁။ ရွှေစည်းခုံသမိုင်းခေါ် စေတိယပုပ္ပတ္တိကထာကျမ်း

၂။ ဣန္ဒိယသီဟိုဠ်ခရီးစဉ်ခေါ် မဂ္ဂက္ကမဒီပနီကျမ်း

၃။ ပဥ္စာဗျာကရဏပုစ္ဆာဝိသဇ္ဇနာကျမ်း

၄။ သိင်္ဂါလောဝါဒသုတ်နိဿယနှင့် သရူပတ္ထဝိဘာဝိနီကျမ်း

၅။ ဥပသမ္ပဒကမ္မဝါစာနိဿယနှင့် ဝိနိစ္ဆယကျမ်း

၆။ ဒီဃနိကာယ်ပါဠိတော်နိဿယ ၃-ကျမ်း

၇။ ဒီဃနိကာယ်အဋ္ဌကထာနိဿယ ၃-ကျမ်း

၈။ ကစ္စာယနသင်္ခေပ ပါဌ်နိဿယကျမ်း

၉။ ကစ္စာယနသုတ်နက်ကျမ်း

၁၀။ သက်တော်ရှည်ဘုရားသမိုင်းကျမ်း စသည်တို့ ဖြစ်လေသည်။

ဆရာတော်သည် အမြဲတမ်း စာဖြင့်သာ ပျော်မွေ့တော်မူသည်၊ နေ့စဉ် တုံးချိန်တိုင်း စာဝါ ချပို့တော်မူသည်၊ ည ၉-နာရီတွင် ကျိန်းစက်တော်မူ၍ နံနက် ၁-နာရီခွဲတွင် ကျိန်းစက်ရာမှ ထတော်မူကာ ကမ္မဋ္ဌာန်းဘာဝနာဖြင့် အချိန်ကို လင်းသည်အထိ ကုန်လွန်စေသည်။

## ဆောင်ရွက်ချက်များ

အလွန်များပြားသော စာဝါများအကြားမှ ၁-နိုင်ငံတော် ဝိနည်းဓိုရ် တာဝန်၊ ၂-ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယ၊ ၃-ဆဋ္ဌသံဂါယနာ ဝန်ဆောင် သံဃ အဖွဲ့ဝင်၊ ၄-ဆဋ္ဌသံဂါယနာ ဩသာနသောဓက၊ ၅-မဟာဝိသုတာရာမိကဂဏ-ဝါစကနိကာယ မဟာဝိနာယက-စသော တာဝန်တို့ကို ဆောင်ရွက်တော်မူသည်။

## အဂ္ဂမဟာပဏ္ဍိတ

၁၃၁၃-ခုနှစ်တွင် ဆရာတော်၏ သီလ, သမာဓိ, ပညာဂုဏ်တို့ကို ယုံကြည် သဖြင့် နိုင်ငံတော် အစိုးရက အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ကို ဆက်ကပ် လှူဒါန်း ပူဇော်သည်။

## ပျံလွန်တော်မူပြီ

ဆရာတော်သည် သက်တော် ၇၅-နှစ်တွင် ပြုလက်စဖြစ်သော သာသနာ့ ကိစ္စတာဝန်များကို ထားရစ်ကာ ၁၃၁၉-ခုနှစ် ကဆုန်လဆုတ် ၅-ရက်နေ့တွင် စည်ပင်ခိုင်ဖြိုး မဟာဝိသုတာရာမကျောင်းတိုက်ကြီးမှ မျက်နှာတော်လွှဲလျက် နတ်ပွဲသဘင် ဝင်ခဲ့လေပြီ။

**နန္ဒဝံသော** မဟာထေရော၊ ပိဋကေသု ဝိသာရဒေါ။
အစုဝံ သောပိ သမ္ဘတ္တော၊ မာဒိသေသု ကထာဝ ကာ။

## ဓမ္မကထိက စာချဆရာတော်

# အရှင်အဂ္ဂဝံသမဟာထေရ်

အရှင်အဂ္ဂဝံသသည် အဖိုးတန် ဓမ္မကထိက စာချ ရဟန်းတော်တပါး ဖြစ်လေသည်၊ ဆရာတော်သည် ပခုက္ကူခရိုင် မြိုင်မြို့နယ် ဆင်စိန်ရွာ၌ ၁၂၆၀-ခုနှစ်တွင် ဖွားမြင်သည်၊ အရွယ်ရောက်သောအခါ ရှင်ရဟန်းပြု၍ **အရှင်အဂ္ဂဝံသဟု** ဥပဇ္ဈာယ်ဆရာတို့က နာမည်ပေးသည်၊ အရှင်အဂ္ဂဝံသသည် ပခုက္ကူ မဟာဝိသုတာရာမတိုက်သို့ရောက်၍ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ပညာမဟာထေရ်ထံတွင် အဂ္ဂမဟာပဏ္ဍိတ အရှင်ဇနကာဘိဝံသနှင့်အတူ ပိဋကတ်စာပေများကို ဆိုဝါဖြင့် သင်ယူခဲ့သည်၊ စာဆိုကောင်း, တရားဟောကောင်း, အကျင့်သိက္ခာကောင်း ဖြစ်သဖြင့်လည်း သတင်းသုံးဖော်တို့က များစွာ ချစ်ခင်ကြသည်၊ အရှင်အဂ္ဂဝံသသည် မဟာဝိသုတာရာမတိုက်၌ ငယ်စဉ်ကပင် ဂဏဝါစကဖြစ်၍ စာချတော်မူရင်း အခါအားလျော်စွာ တရားဟောလုပ်ငန်းကိုလည်း ပြုလုပ်တော်မူသည်။

### ရဟန်း ၂၀ ဝါရကရေးသော တရားစာတပုဒ်

အရှင်အဂ္ဂဝံသသည် ကိုယ်တိုင် တရားစာရေး၍ ကိုယ်တိုင် တရားဟောတော်မူသည်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်၌ ပညာသင်စဉ် စာသင်သားရဟန်းတော်ဖြစ်၍ ၂၀ ဝါ ရစဉ်က ဦးပညာသာမိအမည်ရှိသော ဦးပဥ္စင်းငယ်တပါး တောင်းပန်သဖြင့် ရေးသော ရဟန်းခံရှင်ပြုတရားတပုဒ်ကို **ဒေသနာ စိန်မြကုံး** ပဉ္စမအုပ် ၁၄၄-၌ တွေ့ရသဖြင့် အရွယ်နှင့်မလိုက်အောင် ကျွမ်းကျင်တတ်မြောက်သည့် အရည်အချင်းကို သိသာနိုင်ပေသည်။

### မန္တလေး အိမ်တော်ရာတရားပွဲ

အရှင်အဂ္ဂဝံသသည် မန္တလေးမြို့ အလ္လကပ္ပတိုက်တွင်သီတင်းသုံး၍ လက်လှမ်းမှီကျောင်းတိုက်များ၌ စာလိုက်ရင်း အိမ်တော်ရာ ဘုရားကြီးအတွင်း သီတင်းစဉ် တရားဟောတော်မူခဲ့သေးသည်၊ ရှံဖန်ရံခါ အောက်ရပ် ဌာနီသို့လည်း ကြွချီ၍ တရားဟောတော်မူခဲ့သေးသည်။

### အရှင်အဂ္ဂဝံသ၏ တရား ဆရာတော်အရှင်ပညာထေရ် နာပုံ

တခါက ဆရာတော်အရှင်ပညာမဟာထေရ်အား ဒေါင်းလည်ရွာ ရဟန်းခံအလှူတခုမှပင့်ရာ မလှဲသာသဖြင့် အရှင်အဂ္ဂဝံသကို နောက်ပါရဟန်းတော်အဖြစ်ခေါ်၍ ကြွတော်မူသည်၊ အလှူပွဲ၌ ဆရာတော် အရှင်ပညာမဟာထေရ်

သည် ကိုယ်တိုင်ရေစက်ချပြီး အရှင်အဂ္ဂဝံသအား တရားဟောစေ၍ ကိုယ်တိုင် တနေရာမှ တရားနာတော်မူပြီး "မောင်အဂ္ဂဝံ တရားဟော ကောင်းကြောင်း တဆင့်ပြောဖြင့်သာ သိခဲ့ရသည်၊ ယခုမူ ကိုယ်တိုင် နာရ၍ အပြင်စကားမပါ၊ တကယ် တရားဟောကောင်းပါပေသည်"ဟု သာဓုအနုမောဒနာပြုတော်မူသည်။

အရှင်နန္ဒထေရ် ဟောသည့် တရားတော်ကို ဘုရားရှင် နာတော်မူသည်နှင့် တူလှပါပေသည်၊ အရှင်နန္ဒထေရ်သည် တရား မဏ္ဍပ်တခု၌ ည၌ ၃-ယာမ်ပတ်လုံး တရားဟောတော်မူဘူးသည်၊ ဘုရားမြတ်စွာသည် တရားပွဲအနီးရှိ အိမ်တအိမ်၏ မျက်နှာစာမှ ည၌ ၃-ယာမ်ပတ်လုံး တရားနာတော်မူသည်၊ တရားပွဲအပြီးတွင် ဘုရားရှင် သာဓု သုံးကြိမ် ခေါ်တော်မူလေသည်၊ ထိုအချိန်မှ ဘုရားရှင် တရားနာမှန်းသိသော အရှင်နန္ဒသည် "မြတ်စွာဘုရား ဘယ်အချိန်က ကြွရောက် တရားနာတော်မူပါသတုံးဘုရား"ဟု လျှောက်ရာ "တရားပွဲစကတည်းက ငါဘုရား နာနေကြောင်း" မိန့်တော်မူသည်၊ အရှင်နန္ဒက "မြတ်စွာဘုရား ပင်ပန်းတော်မူလှပါဘိ ဘုရား"ဟု လျှောက်ရာ ဘုရားရှင်က "နန္ဒ ငါဘုရား မပင်ပန်းဘူး၊ ချစ်သား နန္ဒ သင် အာယုကပ်ကာလပတ်လုံး ဟောလျှင်ပင် ငါဘုရား အာယုကပ်ဆုံးသည်အထိ တရားနာမည်"ဟု မိန့်တော်မူလေသည်။

(ရထဝိနီတသုတ်၊ မူလပဏ္ဏာသအဋ္ဌကထာ၊ ၄၃)

သုဒ္ဓါဘိဓမ္မရသပါနမနောမပညာ၊
သက္ကစ္စသောတပထဟတ္ထပုဋ္ဌာ ပိဝန္တု။
ဓမ္မိဿရောပိ ဘဂဝါ သကလမ္ပိ ရတ္တိံ၊
ဂေဟာဇိရမှိ ဌိတကောဝ သုဏိတ္ထ ဓမ္မံ။ (ပူဇာဝလိ)

အရှင်နန္ဒ ဟောသည့် တရားတော်ကို ဘုရားမြတ်စွာ နာခြင်းဖြင့်လည်း ဘုရားရှင် ဓမ္မဂရုကဖြစ်ပုံကို သိရသကဲ့သို့ အရှင်အဂ္ဂဝံသဟောသည့် တရားတော်ကို အရှင်ပညာမဟာထေရ်မြတ် နာယူတော်မူခြင်းဖြင့် ဆရာတော် အရှင်ပညာ၏ ဓမ္မဂရုကဖြစ်ပုံမှာ ကြည်ညိုစရာကောင်းလှသည်၊ အရှင်အဂ္ဂဝံသသည် ၁၂၇၅-ခုနှစ်တွင် ဒေသနာစိန်မြကုံး တရားစာအုပ်များကိုလည်း ရေးသားတော်မူခဲ့သည်။

## ပျံလွန်တော်မူပြီ

ဓမ္မကထိက စာချ အရှင်အဂ္ဂဝံသသည် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၌ ဓမ္မကထိက စာချတာဝန်ကို ထမ်းဆောင်ရင်း ၁၂၈၂-ခုနှစ် တန်ဆောင်မုန်း လဆုတ် ၃-ရက်နေ့ ည ၇-နာရီ ၅-မိနစ်တွင် ဘုရားရှင်၏အလျှင် ပရိနိဗ္ဗာန်ဝင်စံရ

သော ဘုရားရှင်၏သားတော်ကြီး အရှင်ရာဟုလာကဲ့သို့ ဆရာတော် အရှင် ပညာမဟာထေရ်၏ ရှေးဦးစွာ နတ်ပွဲသဘင် ဝင်ရရှာလေပြီ။

### သံဝေဂယူဘွယ်

ခြင်္သေ့, ကျား, သစ်တို့သည် တုန်လှုပ်လျက်ရှိကြသော သတ္တဝါတို့ကို နှိပ်စက် သတ်ဖြတ် စားမျိုနိုင်ကြကုန်သော်လည်း သေမင်းကိုမူကား နှိပ်စက်သတ်စား ခြင်းငှါ မစွမ်းနိုင်ကြကုန်ချေ။

သီဟာ စ ဗျဂ္ဃါ စ အထောပိ ဒီပိယော၊
ပသယှ ခါဒန္တိ ဝိပ္ဖန္ဒမာနံ။
န မစ္စုနော ခါဒိတုမုဿဟန္တိ။

(အယောဃရဇာတ်၊ ဇာတကပါဠိ၊ ပဥမ၊ ၃၅၆)

စ၁ချအကျော် ဆရာတော်

# အရှင်မာဃိန္ဒမဟာထေရ်

ဆရာတော်သည် ပခုက္ကူဆရာတော်ဘုရားတို့၏ အနွယ်အဆက်၌ မီးရှူး တိုင်ကြီးပမာ လွန်စွာ ကျော်စောထင်ရှားခဲ့သည်၊ စာချပလ္လင်ပေါ်တက်မိလျှင် ရွှေဂူမှထွက်သော ကေသရာဇာခြင်္သေ့မင်းပမာ ရဲမာန်ပါပါ စာဝါကို နိုင်နိုင် နင်းနင်း အဝါးဝစွာ ချပို့လေ့ရှိသည်။

ဆရာတော်သည် မြင်းခြံခရိုင် ကျောက်ပန်းတောင်းမြို့နယ် ဒေါင်းလည်ရွာ အဘ **ဦးသာဖွယ်** အမိ **ဒေါ်ဒေါ်မွေ**တို့မှ သက္ကရာဇ် ၁၂၆၅-ခုနှစ် သီတင်းကျွတ် လပြည့်ကျော် ၃-ရက် ကြာသပတေးနေ့တွင် တတိယမြောက် ဖွားမြင်သော သားရတနာ ဖြစ်သည်၊ ဘခင် ဦးသာဖွယ်မှာ ဆရာတော်လောင်းလျာ ၈-နှစ် သားတွင် ကွယ်လွန်ရှာသဖြင့် မိမိသားငယ်ကို သက်နံးဝတ် အသွင်အပြင် ကလေးဖြင့် ဖူးမြင်ခွင့် ရမသွားရှာခဲ့ပေ၊ ဆရာတော်၏ ကလေးနာမည်မှာ **မောင်ဖိုးမိတ်** ဖြစ်သည်၊ ၈-နှစ်သားအရွယ်တွင် မိခင်က ဒေါင်းလည် အိုင်းမ ရွာဦးကျောင်းဆရာတော် အရှင်အာစိဏ္ဏထံတွင် အပ်နှံ၍ ပညာသင်ကြားစေခဲ့ သည်၊ ၁၂-နှစ်သားအရွယ်တွင် အရှင်အာစိဏ္ဏထံ၌ပင် သာမဏေဝတ်ခဲ့သည်၊ လျင်မြန်စူးရှသည့် တိက္ခဉာဏ်ရည်ကို စွဲ၍ **ရှင်ပညာတိက္ခ** ဟု ခေါ်တွင်လေသည်၊ ၇-ရက်သာ ကိုရင်ဝတ်ပြီး လူဝတ်လဲကာ လောကဓာတ်ကျောင်းတွင် ၁၅-နှစ်သား အထိ ၇-တန်းတိုင် ရောက်အောင် ပညာသင်ခဲ့သည်၊ ဆရာတော် အရှင် အာစိဏ္ဏသည် "နိကာယဏ္ဏဝပါရဂူ" ဦးရီးတော် ပခုက္ကူဆရာတော် အရှင်ပညာ ဒေါင်းလည်ရွာသို့ ကြွလာချိန်တွင် မောင်ဖိုးမိတ်ကို ခေါ်၍ ဆရာတော်ကြီးထံ အပ်နှံလိုက်လေသည်၊ မောင်ဖိုးမိတ်သည် ၁၂၈၁-ခုနှစ် နယုန်လ၌ ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီးသို့ ရောက်သည်၊ ဆရာတော်သည် အရှင်နန္ဒဝံသ ထေရ်ထံ ရှင်သာမဏေဝတ်စေပြီးမှ ကိုယ်တိုင် ဥပဇ္ဈာယ်ပြုတော်မူ၍ **ရှင်မာဃိန္ဒ** ဟူသော ဘွဲ့တော်ကိုလည်း ပေးတော်မူသည်။

## သာမဏေကျော်

ရှင်မာဃိန္ဒသည် ဆရာတော် အရှင်နန္ဒဝံသထံတွင် ပိဋကတ်အခြေပြု ကျမ်းစာများကို သင်ယူ၍ ဆရာတော်အရှင်ပညာထံတွင် သဂြိုဟ်,ဋီကာကျော်, ပါရာဇိကဏ်ပါဠိ,အဋ္ဌကထာ စသော ကျမ်းများကို ဆိုဝါဖြင့် သင်ယူခဲ့ရာ နောက် တခေါက်တွင် ဆရာတော်၏ အထောက်အကူ မယူတော့ပဲ သိန္ဓောမြင်း စိုင်း သကဲ့သို့ လျင်မြန်ဖျတ်လတ်စွာ ဆိုစွမ်းနိုင်သဖြင့် စာဆိုကောင်းသော ပုဂ္ဂိုလ် အဖြစ် နာမည်ကျော်ခဲ့သည်၊ ရှင်မာဃိန္ဒသည် ၁၂၈၄-ခုနှစ် တပေါင်းလဆန်း

၁၀-ရက်နေ့တွင် အဂ္ဂမဟာပဏ္ဍိတ ဦးရိုးတော် ဆရာတော် အရှင်ပညာမဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်လေသည်၊ ဆက်လက်၍ ရဟန်း ၅-ဝါအထိ ဆရာတော် အရှင်ပညာထံတွင် နိကာယ် ၅-ရပ် ပိဋကတ်ကျမ်းစာများကို ဆိုဝါဖြင့်ချည်း သင်ယူခဲ့သည်၊ ရဟန်း ၅-ဝါတွင် ဂဏဝါစကစာချဖြစ်၍ စာလိုက်သံဃာ မြားမြောက်စွာတို့အား စာချပို့တော်မူသည်၊ ဆရာတော်သည် အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော် အရှင်သုန္ဒရထံ၌၎င်း, ဆရာတော် ဦးကုမာရထံ၌၎င်း, တောင်သာနယ် နွားပြင်းရွာ တောင်ပေါ်ကျောင်းဆရာတော်ထံ၌၎င်း, မန္တလေးဘုရားကြီးတိုက်၌၎င်း ပညာသင်ကြားခဲ့ဘူးသည်၊ ၁၃၁၉-ခုနှစ် ဥပုသ်နေ့တနေ့တွင် အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရဆရာတော်ဘုရားကြီးက မဟာဝိသုတာရာမတိုက်ကြီးကို လွှဲအပ်ရာ ဆရာတော် ၃-ပါးအနက် ဆရာတော် အရှင်မာဃိန္ဒထေရ်လည်း ပါဝင်ခဲ့သည်၊ ဆရာတော်သည် ၃၉-နှစ်တိုင်တိုင် မဟာဝိသုတာရာမတိုက်ကြီး၌ ပရိယတ္တိသာသနာ့တာဝန်ကို ထူးချွန်စွာဆောင်ရွက်တော်မူရင်း မဟာဝိသုတာရာမိက ဂဏဝါစကနိကာယကြီး၏ ဂဏဘာရနိတ္ထာရကတာဝန်, ဝိနိစ္ဆယဌာန ခရိုင် ဝိနည်းဓိုရ်တာဝန်, ဆင်္ဃသံဃါယနာမူလဝိသောဓကတာဝန်, ဆဋ္ဌသံဂါယနာ ပဋိဝိသောဓကတာဝန် စသော သာသနာ့တာဝန်တို့ကိုလည်း ဆောင်ရွက်တော်မူခဲ့သည်။

## မီးသဘော်၊ မီးရထား အခမဲ့စီးခွင့်

ဆရာတော်၏ သာသနကိစ္စ တာဝန်များကို စွမ်းစွမ်းတမန် ဆောင်ရွက်မှုတို့ကြောင့် ဆရာတော်အား ၁၃၂၃-ခုနှစ်တွင် နောက်လိုက်တပည့်တယောက်ပါ ရိုးရိုးတန်းမှ စီးနင်းခွင့်နှင့်တကွ မြန်မာတပြည်လုံးရှိ မီးသဘော်, မီးရထားများတွင် အထက်တန်းမှ အခမဲ့ စီးနင်းခွင့်လက်မှတ်ကို နိုင်ငံတော် အစိုးရက ကပ်လှူခဲ့သည်။

## နတ်ပွဲသဘင် ဝင်ခဲ့ပြီ

ဤသို့လျှင် သာသနကိစ္စအဝဝကို လွန်ကဲသော ဆန္ဒာဓိပတိဖြင့် ဆောင်ရွက်တော်မူခဲ့သော တိုက်အုပ်ဆရာတော် အရှင်မာဃိန္ဒသည် ၁၃၂၈-ခုနှစ် ကဆုန်လဆန်း ၁၄-ရက်နေ့ သက်တော် ၆၃-နှစ် ဝါတော် ၄၃-ဝါအရတွင် နတ်မင်းဗြဟ္မာ အပင့်လာသဖြင့် ချနေကျစာဝါများကို ရပ်တန့်ကာ နတ်ပြည်သို့ ကြွသွားအနားယူခဲ့လေပြီ။

**မာဃိန္ဒော** သီလဝါ ဓီရော၊ သုတော သုဂတသာသနေ။
ထေရော ထိရဂုဏောပေတော၊ ယာတော ဒေဝါန သန္တိကေ။



ပခုက္ကူမှ ဂန္ဓသာရစေတီတော်

# ဂန္ထသာရစေတီတော်

ပခုက္ကူမြို့ မြောက်ဖက်ရှိ ကူတောင်ပေါ်တွင် တည်ရှိနေသည့် စေတီသည် ထူးခြားလှသော စေတီတဆူ ဖြစ်သည်၊ သိဟိုဠ်ကျွန်း အနုရာဓမြို့ အရှေ့ဖက် စေတိယတောင်ပေါ်တွင် သိဟိုဠ်သာသနာ့ဘခင် အရှင်မဟိန္ဒထေရ်၏ အရိုး ဓာတ်တော်ကို ဌာပနာ၍ သာသနာသက္ကရာဇ် ၂၇၇-ခုနှစ် (ဘီ၊ စီ၊ ၂၆၇)တွင် သိဟိုဠ်ဘုရင် ဥတ္တိယမင်း တည်ထားခဲ့ရာ ယနေ့တိုင် သိဟိုဠ်ဗုဒ္ဓဘာသာဝင်တို့ မမေ့နိုင်ပဲ ရှိကြရလေသည်၊ ၎င်းပြင်—

"ဒီပပ္ပသာဒကမဟိန္ဒမဟာရဟန္တ-
ထေရုတ္တမဿ ဝိနိဓာယ ဓာတုံ။
ကာရာပိတံ နရဝရေန ပနုတ္တိယေန၊
အမ္ဗတ္ထလချာပဝရံ ပနမာမိ ထူပံ"—

ဟူသော ဂါထာဗန္ဓကို ကျူးရင့်၍လည်း ပူဇော်ကန်တော့ ဦးတင်ကြသည်။

ထိုအတူ ကူတောင်ပေါ်၌ တည်ထားကိုးကွယ်ခဲ့သော စေတီတော်သည် ပခုက္ကူ သာသနာ့ကြိုးကိုင်၊ ပခုက္ကူနိကာယသာသနာပိုင်၊ သီလ၊ သမာဓိ၊ ပညာ-ရန့်တော်တို့ဖြင့် သင်းပျံ့ကြိုင်လှိုင်သည့် ဘုန်းခိုင်ဘုရားကြီး၏ သားကြီး ဩရသ အရှင်ဂန္ထသာရထေရ်မြတ်၏ အရိုးဓာတ်တော်တို့ကို ဌာပနာ၍ တည် ထားခဲ့သော စေတီဖြစ်ရာ များစွာသော လူရှင်တို့၏ ဦးခိုက်ရာ၊ ကုသိုလ်ပုည မျိုးစေ့ချရာ 'ပုညဝိတ္တ' တခုအဖြစ် တည်ရှိလေတော့သည်။

ဂန္ထသာရံ မဟာထေရံ၊ နိကာယဂ္ဂါဝပါရဂံ။
မိတိမန္တံ သတိမန္တံ၊ ဝန္ဒာမိ သိရသာဒရံ။

ပညာသတိနှင့် မကွေမကွာ အမြဲယှဉ်ဘော်မူသည့် နိကာယ်ငါးရပ် ပိဋကတ် ကမ်းကူး • လင်းယဉ်မှူးကြီးဖြစ်တော်မူသော အရှင်ဂန္ထသာရမဟာထေရ်မြတ် ကြီးအား ရှိခိုးပါ၏ဟု နှလုံးသွင်း၍ ရှိခိုးဦးချကြသည်၊ တချို့ကမူ—

ဂန္ထက္ကမေသု ကောဝိဒေါ၊
သာရတ္ထေသု စ နိပုဏော။
မဟာဝိသုတိကေ အဒမ္ဘု၊
ထေရော နိစ္စံ ပသာသာတု၊

ဂန္ထက္ကမေသု၊ စာနေ စာထား ပုဒ်သွား ပုဒ်လာ များစွာသော ကျမ်းဂန် အစဉ်တို့၌။ ကောဝိဒေါ၊ သူမတူအောင် လွန်စွာ ကျွမ်းကျင် လိမ်မာတော်မူလှ

ပါပေသော။ သာရတ္ထေသု စ၊ မဖောက်မပြန် ဟုတ်မှန် ကောင်းမြတ်သော အနက်သဘောတို့၌လည်း။ နိပုဏော၊ သိမ်မွေ့သောပညာဖြင့် လိမ်မာနိုင်နင်း တော်မူလှပါပေသော။ ထေရော၊ ကျေးဇူးတော်သခင် ထိပ်ခေါင်တင် မဟာထေရ်အရှင်သူမြတ်ကြီးသည်။ မဟာဝိသုတိကေ၊ မဟာဝိသုတာရာမ စာချတိုက်ကြီးတို့၏အတွင်း၌ မှီတင်း ခိုအောင်းလျက် ရှိကြကုန်သော။ အမေ့၊ တပည့်ကြီးငယ် အပေါင်းတည်းဟူသော တပည့်တော်တို့ကို။ နိစ္စံ၊ အမြဲနိစ္စ။ ပသာသတု၊ ဆုံးမပဲ့ပြင် ကိုယ်ထင်ထင်ဖြင့် သွန်သင်မြဲ သွန်သင်တော်မူလှည့်ပါဦး ဘုရား-ဟု အောက်မေ့ အမှတ်ရ တောင့်တကြသည်။

## သမိုင်းအကျဉ်း

ဆရာတော်ဘုရားကြီးသည် အသက်တော်နှင့်အမျှ ဓူရနှစ်ပါးကို ပွါးများအားသစ်တော်မူခဲ့ပြီး ၁၂၇၆-ခုနှစ် သီတင်းကျွတ်လဆုတ် ၁၂-ရက်နေ့တွင် နတ်ပွဲသဘင် ဝင်စံခဲ့သည်၊ ဆရာတော်ကြီး ပျံလွန်တော်မူသည်နှင့်တပြိုင်နက် ပခုက္ကူကုက္ကိုတန်းရပ် ကွက်လပ်ကြီးများ၌ရှိသော ကုက္ကိုပင်အားလုံး အလိုလိုသွေ့ခြောက်၍ သေကြသည်၊ တိုက်တွင်းရှိ ရေတွင်းများမှာ ထိုအခါမှစ၍ သုံးမကုန်အောင် ရေယိုထွက်လာကြသည်၊ ကုက္ကိုပင်များမရှိသဖြင့် သန့်ရှင်းကျယ်ဝန်းသော ကွက်လပ်ကြီး၌ ဈာပနပွဲကြီးကို ခမ်းနားစွာ ကျင်းပကြရသည်၊ ဆရာတော်ဘုရားကြီး၏အလောင်းတော်ကို ၇-ရက်အတွင်း သင်္ဂြိုဟ်ရန် ဈာပနကော်မီတီကသတ်မှတ်သော်လည်း အများစုသဘောမတူသဖြင့်တပေါင်းလတိုင် ပြောင်းရွှေ့ သတ်မှတ်ကြရသည်၊ ဆရာတော်ဘုရားကြီး၏ အလောင်းတော်ကို သံဃာဿရ သံဃဦးကိုင် သာသနာပိုင် ဆရာတော်ဘုရားကြီးတို့၏ အလောင်းတော်ကို ပူဇော်ကြသကဲ့သို့ ရွှေချခေါင်း, ငွေသားခေါင်း, ကျောက်စီငွေသားခေါင်း, ရွှေသားခေါင်း, စိန်စီရွှေသားခေါင်း, ကြေးခုတင်ကြီး, ငွေသားသလွန်, မှန်စီရွှေချသလွန်, မလ္လိကာတန်ဆာ, ရွှေချည်ထိုးနဂါး, ငွေသားနဂါး, ငွေသားကြာကလပ်, ငွေသားပြာသာဒ်, ငွေသားဝေါယာဉ်, ငွေသားရထား, ကနက္ကဒဏ် ဂျပန်ထီးဖြူတော်ကြီး ရှစ်လက်, လောင်တိုက်ကြီး, တလားကြီး, တလားငယ်, ပြာသာဒ်ထည် ၁၀ဝ-တို့ဖြင့် ၁၂၇၆-ခုနှစ် တန်ဆောင်မုန်းလဆန်း ဂ-ရက်နေ့တွင် ခန်းဖွင့်သဘင် ဆင်ယင်ကျင်းပ ပူဇော်ကြပြီးလျှင် ၎င်းနှစ် တပေါင်းလဆန်း ဂ-ရက်နေ့မှစ၍ အလောင်းတော်ကို စံတော်မူရာ ကျောင်းတော်ကြီးမှ ပင့်ယူပူဇော်ကြပြီး ပွဲသဘင်အမျိုးမျိုးတို့ဖြင့် မြေမိုး ဖြန်းဖြန်းကွဲမျှ အဆန်းတကြယ် လဲလှယ် နေ့-ည သာဓုကီဠနပွဲကြီးသဘင် ဆင်ယင်ကျင်းပကြ၍ တပေါင်းလဆုတ် ၁-ရက်နေ့တွင် ဝေဟင်စွင့်စွင့် ကြီးမြင့်မွန်မြတ်လှသော လောင်တိုက်တော်ကြီးထက်သို့ စက်ယန္တရား လေယာဉ်ပျံ ရထားဖြင့် တင်ဆောင်ပြီးမှ လက်နက်စိန်ပြောင်း ချက်ပေါင်းများစွာ ပစ်ဖောက်ပူဇော်

ကြကာ မီးတင်မီးခတ် တေဇောလွှတ်၍ ရိုးခတ်မြေကျ ဈာပနပွဲကြီးသဘင် ဆင်ယင်ကျင်းပကြလေသည်။

## စေတီတည်ပြီ

ဈာပနပွဲပြီးသောအခါ ရိုးကောက်ပွဲကျင်းပ၍ ဆရာတော်၏ အရိုးတော် ခတ်ကို ဌာပနာကြကာ ကျောင်းတိုက်ဒါယကာကြီး **ဦးစံပေါ်**, ကျောင်းတိုက် အမကြီး **ဒေါ်ငွေ**, သမီး **ဒေါ်နှင်းအေး**နှင့် အမျိုးဒကာ, ဒကာမတို့စုပေါင်းပြီး စေတီကြီး တည်ထား ကိုးကွယ်ခဲ့ကြလေသည်၊ စေတီမြတ်ကြီး၏ ထီးတော်ကိုမူ မန်ကျည်းချောင်းရပ် ပိုးကုန်သည် **ဦးအေးမြ – ဒေါ်ပိုး**တို့က တင်လှူခဲ့သည်၊ ဆရာတော် အရှင်ဂန္ဓာသာရမဟာထေရ်၏ အရိုးခတ်ကို ဌာပနာထားသည့် အတွက် **ဂန္ဓာသာရစေတီ**ဟု တွင်လေသည်။

## တပည့်ကြီးများ၏အရိုးခတ်

၎င်းနောက်တွင်မှ ၁၃၀၇-ခုနှစ်တွင် ပျံလွန်တော်မူသော အဂ္ဂမဟာပဏ္ဍိတ အရှင်ပညာမဟာထေရ်၏ အရိုးခတ်, ၁၃၁၉-ခုနှစ်တွင် ပျံလွန်တော်မူသော အဂ္ဂမဟာပဏ္ဍိတ ဆရာတော်အရှင်နန္ဒဝံသမဟာထေရ်၏ အရိုးခတ်, ၁၃၁၉-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၂-ရက်နေ့တွင် ပျံလွန်တော်မူသော အဂ္ဂမဟာပဏ္ဍိတ အရှင်ကောဏ္ဍည မဟာဝိသုတာရာမိက ဂဏဝါစကနိကာယ ကြီး၏ စတုတ္ထမဟာဝိနာယကဆရာတော်၏ အရိုးခတ်, အရှင်ပဒုမ ရွှေကူတိုက်, အရှင် မာဃိန္ဒ မဟာဝိသုတာရာမတိုက် တိုက်အုပ်ဆရာတော်၏ အရိုးခတ်တို့ကိုလည်း ဖော်ပြပါ ဂန္ဓာသာရစေတီတော်၌ပင် ဖောက်ထွင်း ဌာပနာခဲ့ကြလေသည်။

ဖော်ပြပါစေတီတော်ကြီးသို့ မဟာဝိသုတာရာမတိုက်မှ ဆရာတော်များနှင့် ဂဏဝါစကဆရာတော်များသည် နှစ်စဉ် သီတင်းကျွတ်လဆုတ် ၁-ရက်နေ့ညတွင် ကြွရောက်ကြပြီး မီးရောင်စုံများ(ဆီမီး, ဖယောင်းတိုင်မီး စသည်)ဖြင့် ပူဇော် ကြပြီး လဆုတ် ၂-ရက်နေ့ နံနက်တွင် ဆွမ်းတော်ကပ်ကြ၍ ကျေးဇူးရှင် ဆရာတော်ကြီးတို့၏ ဂုဏ်တော်တို့ကို နှလုံးသွင်း ပွါးများကြသည်။

အရှင်သာရိပုတြာသည် ဆရာဖြစ်သည့် အရှင်အဿဇိ သီတင်းသုံးရာဖက်ကို ဦးခေါင်းထား၍ ကျိန်းစက်သည်၊ အရှင်ရာဟုလာသည် ဥပဇ္ဈာယ်ဆရာ အရှင် သာရိပုတြာအား အမြဲနိစ္စ ရိုသေကော်ရော် ပူဇော်ခဲ့သည်၊ လောကသာသနာ၌ မိမိအကျိုးစီးပွါးကို လိုလားသူသည် ဆရာသမားတို့ကို လေးမြတ်ကော်ရော် ပူဇော်ရာသည်၊ ဂုဏ်ကျေးဇူးအပေါင်းကိုလည်း အောက်မေ့ရာသည်။

တသ္မာ ဟိ ပဏ္ဍိတော ပေါသော၊ သမ္ပဿံ အတ္ထမတ္တနော။
အာစရိယေ'ဘိပူဇေယျ၊ သရေယျ ဝိဝိဓံ ဂုဏံ။

# ဆရာတော် အရှင်သုန္ဒရ မဟာထေရ်

ဆရာတော်ဘုရားကြီးသည် အလွန် ဘုန်းကံပါရမီ ကြီးမားတော်မူသည်၊ တိုက်တာသံဃာ, ဂိုဏ်းသံဃာတို့အပေါ်တွင် ရင်ဝယ်သားပမာ သနားကြင်နာ ကရုဏာနှင့် ပြည့်စုံစွာ မဟာဝိသုတာရာမကျောင်းတိုက်ကြီးနှင့် ကြီးကျယ်လှသည့် ဂိုဏ်းဂဏကြီးကို ဦးစီးရွှေဆောင်နိုင်လေသည်၊ ဆရာတော်သည် မြင်းခြံခရိုင် ပုဂံနယ် ပုဂံစောင်းရွာ အဘ ဦးလွန်းမောင်–အမိ ဒေါ်ငွေညွန့်တို့မှ ၁၂၇၁-ခုနှစ် သီတင်းကျွတ်လဆုတ် ၁၁-ရက် သောကြာနေ့တွင် ဖွားမြင်တော်မူခဲ့သည်၊ ၁၁-နှစ်သားအရွယ်တွင် သေယောက်မြို့နယ် ရွှေဥမင်တောရကျောင်း ဆရာတော် ဦးသမ္ဘဝထံတွင် မိဘတို့အပ်နှံကြသဖြင့် သင်ပုန်းကြီး, မင်္ဂလသုတ်, နမက္ကာရ-အစရှိသော ကလေးတို့ သင်အပ် သင်သင့် သင်ထိုက်သည့် စာပေများကို သင်ယူခဲ့ပြီး ၁၄-နှစ်သားအရွယ်တွင် ဖော်ပြပါ ရွှေဥမင်တောရကျောင်း ဆရာတော် အရှင်ကလျာဏမဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေပြုလုပ်ခဲ့သည်၊ ၁၂၉၀-ပြည့်နှစ် တပေါင်းလဆန်း ၁၀-ရက် သက်တော် ၁၉-နှစ် ၅-လ အရောက်တွင် တောင်သာမြို့နယ် ဇောင်ချမ်းရွာ သူကြီးမင်း ဘကြီးတော် ဦးဆောက် မိကြီးတော် ဒေါ်လှထွန်းတို့က ပစ္စယဒါယကာခံယူကြကာ တောင်သာမြို့နယ် ကန်မြဲရွာ ခဏ္ဍသိမ်တော်၌ ရွှေဥမင်တောရဆရာတော်ကိုပင် ဥပဇ္ဈာယ်ပြု၍ ကာရကသံဃာ စုံညီစွာဖြင့် ရဟန်းအဖြစ်သို့ ရောက်တော်မူခဲ့သည်။

## သာသနာ့တာဝန် အားသွန်ကြိုးပမ်း ထမ်းတော်မူခြင်း

ဆရာတော်သည် ရှင်သာမဏေဘဝမှ စ၍ ရဟန်းဘဝ ရောက်သည်အထိ ကျေးဇူးရှင် ရွှေဥမင် တောရဆရာတော်, ရေစကြိုဆရာတော်, ဆရာတော် ဦးပညာ, မင်းတုန်းမင်းလက်ထက် ပဋ္ဌမစာချ ငါ့တရော် ဆရာတော် စသော ပိဋကတ်အကျော် ဆရာတော်များထံတွင် ပိဋကတ်ကျမ်းဂန် အတန်တန်ကို သင်အံ တတ်မြောက်ခဲ့၍ ပခုက္ကူ ပိဋကတ်အတတ်မြို့တော် မဟာဝိသုတာရာမ ကျောင်းတိုက်၌ ရေစကြို ဆရာတော် သက်တော်ထင်ရှားရှိစဉ် ၁၀-ဝါအရတွင် ဓမ္မာစရိယ ဂဏဝါစက စာချဖြစ်တော်မူခဲ့၍ များလှစွာသော သံဃာတော်တို့အား ဂန္ထဓုရ အဝဝကို ချပို့တော်မူခဲ့သည်။

## ဒုတိယ အဓိပတိ

ပိဋကတ်ကမ်းကူး လင်းယဉ်မှူးကြီးဖြစ်သော ဆရာတော် အရှင်ပညာ မဟာထေရ်၏ လက်ထက်တွင် မိမိကိုယ်တိုင်လည်း ပိဋကတ်ကမ်းကူး လင်းယဉ်

မှူးဖြစ်သည့်အလျောက် အခါအားလျော်စွာ သံဃာတော် ၈၀၀, ၉၀၀, ၁၀၀၀- လောက်ရှိသော မဟာဝိသုတာရာမ တိပိဋက မဟာဝိဇ္ဇာလယကြီး၏ ဒုတိယ အဓိပတိ အဖြစ်ဖြင့် နှစ်ပေါင်း ၂၀-ကျော် ဆရာတော် အရှင် ပညာထေရ်နှင့် စိတ်တူကိုယ်မျှ နန္ဒိယ, ကိမိလထေရ်တို့ပမာ ရင်းနှီးစွာ သာသနာ ရေးကိစ္စ အဝဝကို ကြီးမားသောလုံ့လဖြင့် ထမ်းဆောင်တော်မူသည်၊ ၁၃၀၈-ခု နှစ် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ပညာမဟာထေရ် ပျံလွန်တော်မူပြီး နောက် မဟာဝိသုတာရာမတိုက်ကြီး၏ အဓိပတိ,ပဓာနနာယက ဖြစ်တော်မူကာ မူရ ၂-ပါးကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူသည်။

## ယိုးဒယားနိုင်ငံသို့ ကြွတော်မူခြင်း

ဆရာတော်သည် ၁၃၁၉-ခုနှစ် ပြာသိုလဆန်း ၇-ရက်နေ့တွင် ယိုးဒယား နိုင်ငံသို့ ကြွတော်မူ၍ ယိုးဒယားသာသနာပိုင်ဆရာတော်, ယိုးဒယားသံဃာ့ လွှတ်တော်မှ သံဃာ့ဝန်ကြီးများနှင့် သာသနာရေးကိစ္စများ ဆွေးနွေးခဲ့သည်၊ ယိုးဒယားနိုင်ငံ ဘန်ကောက်မြို့ရှိ မြဘုရား, ရွှေဘုရား, အယုဒ္ဓယမြို့ဟောင်းရှိ ရှေးဟောင်း ဘုရားပုထိုးများ, နဂေါရ်ပထုံမြို့မှ ဘုရားကြီးတို့ကိုလည်း ဖူးမြော် ဦးခိုက်ခဲ့သည်၊ လန်းပန်း,ဇင်းမယ်-စသော မြို့များသို့လည်း ကြွရောက်တော်မူ၍ သာသနာရေးကိစ္စ အဝဝကို ကြီးမားသော လုံ့လဥဿာဟဖြင့် ထမ်းရွက်တော် မူခဲ့သည်၊ ဆရာတော် ယိုးဒယားကြွစဉ် စာရေးသူသည် ၇-ဝါရ ရဟန်းငယ်ဘဝ ဖြင့် ပစ္ဆာသမဏအဖြစ် လိုက်ပါခဲ့ရသည်။

## ဆရာတော်၏ ကြိုးပမ်းချက်များ

ဆရာတော်ဘုရားကြီးသည်—

(၁) ပါဠိပညာရေးအဖွဲ့ကြီး၏ အဖွဲ့ဝင်ဆရာတော် အဖြစ်ဖြင့်၎င်း

(၂) ပါဠိတက္ကသိုလ် စုံစမ်းရေးအဖွဲ့ ကော်မီတီ အဖြစ်ဖြင့်၎င်း

(၃) ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယ အဖြစ်ဖြင့်၎င်း

(၄) ဆဋ္ဌသံဂါယနာ ဝန်ဆောင်သံဃအဖွဲ့ဝင် အဖြစ်ဖြင့်၎င်း

(၅) ဆဋ္ဌသံဂါယနာ သံဃနာယက အဖြစ်ဖြင့်၎င်း

(၆) နိုင်ငံတော်ဝိနည်းဓိုရ် အဖြစ်ဖြင့်၎င်း

(၇) ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာ ပြုလုပ်ရေးအဖွဲ့ ဥက္ကဋ္ဌ အဖြစ် ဖြင့်၎င်း

(၈) ယိုးဒယားနိုင်ငံ သာသနာရေးမစ်ရှင်ခေါင်းဆောင် အဖြစ်ဖြင့်၎င်း

(၉) ရန်ကုန်မြို့ ဘုရားကြီးတိုက် ခြောက်ထပ်ကြီးဘုရား တည်ဆောက်ရေး အဖွဲ့ကြီး၏ ဥက္ကဋ္ဌ အဖြစ်ဖြင့်၎င်း

(၁၀) မဟာဝိသုတာရာမိက ဂဏဝါစကနိကာယကြီး၏ မဟာဝိနာယက ဓမ္မသေနာပတိ အဖြစ်ဖြင့်၎င်း

(၁၁) တော်လှန်ရေး အစိုးရလက်ထက် ၁၃၂၆-ခုနှစ် တပေါင်းလပြည့် (၁၉၆၅-ခု မတ်လ ၁၇-ရက်) နေ့တွင် စတင် ကျင်းပပြုလုပ်သည့် သာသနာသန့်ရှင်းပြန့်ပွါးရေး အစည်းအဝေးကြီး၏ သဘာပတိ, သံဃပိတာ(သံဃဘခင်)အဖြစ်ဖြင့်၎င်း, သီရိဓမ္မာသောကမင်းကြီး၏ မင်းဆရာ အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်ကဲ့သို့၎င်း,သီဟိုဠ်ကျွန်း အေ-ဒီ ၁၂-ရာစုနှစ် သံဃသာမဂ္ဂီအစည်းအဝေးပွဲကြီး၌ ပရက္ကမဗာဟုမင်းကြီး၏ မင်းဆရာ အရှင်မဟာကဿပ ကဲ့သို့၎င်း ထမ်းဆောင်တော်မူခဲ့သည်။

(၁၂) ဆရာတော်သည် ဝိနည်းသိက္ခာပုဒ်တို့၌ အလွန်အလေးဂရုပြုတော်မူသည်၊ သာမဏေဘဝ ပညာသင်သွားစဉ်က အနာမာသဝတ္ထုကို ကိုင်ရမှာ ကြောက်လှသဖြင့် လူဝတ်လဲ၍ သွားခဲ့ပြီး စာသင်တိုက်ရောက်မှ ကပ္ပိယထံအပ်နှံကာ သာမဏေပြန်ဝတ်ခဲ့သည်။

### အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တော်များ

ဤသို့စသည်ဖြင့် သီလမေရု,သမာဓိတော်မြေအထု ပညာကရုဏာသမုဒ္ဒရာ ဖြစ်တော်မူသော ကျေးဇူးတော်ရှင် မဟာဝိသုတာရာမ တိပိဋကဝိဇ္ဇာလယာ-ဓိပတိ မဟာဝိသုတာရာမိက ဂဏဝါစကနိကာယကြီး၏ မဟာဝိနာယက ဓမ္မ-သေနာပတိ ဆရာတော်ဘုရားကြီးအား ၁၃၁၃-ခုနှစ်တွင် **အဂ္ဂမဟာပဏ္ဍိတ** ဘွဲ့တော်, ၁၃၂၂-ခုနှစ်တွင် **အဘိဓဇမဟာရဋ္ဌဂုရု**ဘွဲ့တော်တို့ကို နိုင်ငံတော် အစိုးရက သဒ္ဒါရှင်လန်း ဆက်ကပ်လှူဒါန်းလေသည်၊ ဆရာတော်သည် နောက်ပါ တပည့် ၂-ဦးနှင့် **လေယာဉ်ပျံ,မီးရထား,မီးသင်္ဘော** များကို အထက်တန်းမှ **အခမဲ့စီးနင်းတော်မူနိုင်သော လက်မှတ်**ကိုလည်း အမြဲတမ်းရရှိတော်မူသည်။

### သက်တော် ၇၉, ဝါတော် ၆၉

ယခုအခါ ဆရာတော်ဘုရားကြီးသည် သက်တော် ၇၉-နှစ် သိက္ခာတော် ၆၉-ဝါ ရှိတော်မူလျက်လည်း ရှေးဘုန်းရှေးကံပါရမီ လွန်စွာကောင်းမွန်သဖြင့်

ကျန်းမာချမ်းသာစွာရှိ၍ ကံကြီးကံငယ်ကိစ္စ ဆောင်ရွက်ခြင်း, ဩဝါဒပေးခြင်း, တရားဓမ္မဟောပြခြင်း စသော သာသနာ့ကိစ္စ သာသနာ့လုပ်ငန်းတို့ကို လုပ်ဆောင်တော်မူလျက် ရှိပါသေးသည်။

သုန္ဒရော ယော မဟာထေရော၊ မြန်မာ့ရဋ္ဌဇာတူပမော။
မြန်မာ့သာသနကိစ္စေသု၊ ပဓာနင်္ဂဓုရန္ဓရော။

မောဂ္ဂလိပုတ္တတိဿံဝ၊ ဓမ္မာသောကော နရိဿရော။
သီလဝန္တံ ဓုရံ ကတွာ၊ ပညဝန္တံ ဗဟုဿုတံ။

ဝေံ သုန္ဒရတ္ထေရမ္ပိ၊ မရမ္မဝိသယိဿရာ။
ဓုရံ ကတွာ လောကဂ္ဂဿ၊ သာသနံ နိမ္မလံ ကရုံ။

## တိုက်အုပ်ဆရာတော်

# အရှင်နန္ဒိယမဟာထေရ်

ဆရာတော်သည် ကျေးဇူးရှင် တိုက်တည်တာတည် ဆရာတော်ဘုရားကြီးတို့၏ ချနည်း ပို့နည်း နိဿယနည်းကို ကောင်းစွာရရှိသည့် ဆရာတော်ဖြစ်သည်၊ ဆရာတော်၏ အတွင်းခေတ်နှလုံးအိမ်မှ ထွက်လာသော စကားတို့လည်း အကာမရှိ အနှစ်အတိပြီးသဖြင့် ဆရာတော်ထံမှ အဖိုးတန် မိန့်ခွန်းသံ ဩဝါဒသံတို့ကို အဖန်ဖန် နာခံချင်ကြသည်၊ နိကာယ်ငါးရပ် ပိဋကတ်ပါဠိကို အဋ္ဌကထာ, ဋီကာ တွဲဖက်၍ ချပို့ရာ၌ ပင်လယ်ရေကြောင်း လူစွမ်းကောင်း ကပ္ပတိန်ပမာ လွန်စွာ ကျွမ်းကျင်လိမ္မာသည်၊ နိကာယ်ငါးရပ် ပိဋကတ်ပင်လယ်ရေကြောင်း၌ အစွမ်းကောင်းလှသည့် ပိဋကတ်ကပ္ပတိန်ကြီးလည်း ဖြစ်တော်မူသည်။

### ဖွားမြင်ခြင်း

ဆရာတော်သည် မိတ္ထီလာခရိုင် သာစည်မြို့နယ် မန်ကျည်းကန်ရွာ ဘခင် ဦးဆပ်နှင့် မိခင် ဒေါ်ကောက်တို့မှ ၁၂၆၅-ခုနှစ် ဝါခေါင်လဆုတ် ၈-ရက်နေ့တွင် ဖွားမြင်တော်မူသည်၊ ၈-နှစ်သားအရွယ်တွင် လောကခေတ်ကျောင်း၌ ပညာသင်၍ ၁၂-နှစ်သားအရွယ်တွင် သာမဏေဝတ်ခဲ့ပြီး ပိဋကတ်အခြေပြု ကျမ်းစာများကို သင်ယူခဲ့သည်၊ ၁၆-နှစ်သားအရွယ်တွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီးသို့ ရောက်၍ အဂ္ဂမဟာပဏ္ဍိတဆရာတော် အရှင်နန္ဒဝံသထံတွင် ဝိနည်းပိဋကတ်ကို အဋ္ဌကထာနှင့်တကွ သင်ယူခဲ့သည်၊ ၁၂၈၄-ခုနှစ်တွင် သူကောင်းတည်တော၍ ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ဈေးဟောင်းရပ် ရဟန်းဒါယိကာမကြီး ဒေါ်မြစ်, ဒေါ်ချင်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရဟန်းဘဝ ဒုလ္လဘကို ရရှိလေသည်၊ ရဟန်းဖြစ်ပြီးသည်မှစ၍ ရဟန်း ၅-ဝါအထိ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ပညာ နှင့် အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ မဟာထေရ်တို့ထံတော်တွင် နိကာယ်ငါးရပ် ပိဋကတ်သုံးဖြာကို ပါရဂူမြောက်အောင် သင်ယူတတ်မြောက်တော်မူခဲ့၍ ရဟန်း ၅-ဝါအရ၌ပင် ဂဏဝါစက စာချအဖြစ်ဖြင့် ချီးမြှောက်တော်မူကြသည်၊ ရဟန်း ၆-ဝါမှစ၍ မန္တလေးမြို့ အနောက်ပြင် ခင်မကန်တိုက် သူဌေးဆရာတော်ထံတွင် ၁-ဝါ, တောင်မြို့ တူးမောင်းတိုက် ညဝါအကျော် ဆရာတော်ဦးနန္ဒိယထံတွင် ညဝါပဋ္ဌာန်းအတွက် ၁-ဝါ, ဘုရားကြီးတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဦးနာရဒထံတွင် ၁-ဝါ နေထိုင်ကာ ဝါကျသွား ဝါကျလာ အမျိုးမျိုး, အနုသန္ဓေ အထွေထွေ, ကျမ်းရိုး အသွယ်သွယ်, အဓိပ္ပါယ်အဖြာဖြာ, ၄ပနာ ပဉ္စက, ၄ပနာ ဆက္က စသည် နည်းနာ နယ အဝဝကို ကျနစွာသင်ယူခဲ့ပြီး ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်ကြီးသို့ ပြန်ကြွတော်မူ၍

ရဟန်းအမကြီး ဒေါ်မြစ်, ဒေါ်ချစ်တို့ ဆောက်လုပ်လှူဒါန်းအပ်နှင်းအပ်သော ရတနသိဒ္ဓိကျောင်းတွင် သီတင်းသုံးကာ များစွာသော စာလိုက်သံဃာတို့အား သင်ကြားချပို့ပေးတော်မူခဲ့သည်၊ ရဟန်းသိက္ခာ ၁၅-ဝါအရ ၁၃၀၀-ပြည့်နှစ်တွင် ဇလန္ဒိယနိုင်ငံသို့ကြွတော်မူကာ ဘုရားရှင်သဗ္ဗညုတဉာဏ်,အရဟတ္တမဂ်ဉာဏ်ကို ရတော်မူရာဖြစ်သည့် ဗောဓိပင်နှင့် ပလ္လင်တော်, သတ္တဋ္ဌာန စေတီတော်များ, သာဝတ္ထိ, ရာဇဂြိုဟ် စသော ထိုထို ရှေးဟောင်း ကျောင်းတော်ရာစသည်တို့သို့လည်း ကြွရောက်ဖူးမြော်ခဲ့လေသည်၊ ဗာရာဏသီမြို့၌ တနှစ် သီတင်းသုံးတော်မူကာ သက္ကတကျမ်းစာများကိုလည်း သင်ယူတော်မူခဲ့ရကား ဆရာတော်သည် ဘာသန္တရကောဝိဒ,ပိဋကတ္တယဝိဒူလည်း ဖြစ်တော်မူသည်။

## စာချလုပ်ငန်း လွန်ကြိုးပမ်း

ဆရာတော်သည် နေ့စဉ် ပါဠိ, အဋ္ဌကထာ,ဋီကာ တွဲဖက်၍ နိကာယ် ၅-ရပ်ကို မပြတ် ချပို့တော်မူသည်သာ မက—

၁။ နိုင်ငံတော်ဝိနည်းဓိုရ် တာဝန်

၂။ ဆဋ္ဌသံဂါယနာ သံဂီတိဝိဓာယက တာဝန်

၃။ ဆဋ္ဌသံဂါယနာ မူလဝိသောဓက တာဝန်

၄။ ဆဋ္ဌသံဂါယနာ ပဋိဝိသောဓက တာဝန်

၅။ တော်လှန်ရေးအစိုးရ လက်ထက်တွင် ကျင်းပသည့် သာသနာ သန့်ရှင်း ပြန့်ပွါးရေး အစည်းအဝေးကြီးတွင် ဦးစီးအဖွဲ့ဝင် တာဝန်

၆။ မဟာဝိသုတာရာမ ဂဏဝါစက တိပိဋက ပါဠိ မြန်မာ အဘိဓာန် ကျမ်းပြုအဖွဲ့၏ တာဝန်ခံဆရာတော်အဖြစ် တာဝန်

၇။ မဟာဝိသုတာရာမ ဂဏဝါစကနိကာယကြီး၏ ဂဏဘာရနိတ္ထာရက တာဝန် စသည်တို့ကိုလည်း ဆောင်ရွက်တော်မူသည်။

## ကျမ်းဂန်ပြုစုတော်မူခြင်း

ဆရာတော်သည် အခွင့်ရသည့်အခါတွင် ကျမ်းဂန် များစွာ တို့ကိုလည်း ရေးသားပြုစုတော်မူခဲ့သည်၊ ၎င်းကျမ်းများမှာ —

၁။ ဗြဟ္မယာစနအဖြေကျမ်း

၂။ မဟာသမယသုတ်များ ပါဠိတော်နိဿယနှင့် အဖွင့်အကျယ်ကျမ်း

၃။ မအူဆရာတော် ထေရုပ္ပတ္တိ ဒီပနီကျမ်း

၄။ မဟာဝိသုတာရာမ ထေရာပဒါန်ခေါ် ထေရုပ္ပတ္တိဒီပနီကျမ်း—

စသည်တို့ ဖြစ်လေသည်၊ ဖော်ပြပါ ကျမ်းများအနက် မဟာဝိသုတာရာမ ထေရာပဒါန်ကျမ်းမှာ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ပညာ မဟာထေရ်၏ အဖြစ်တော်စဉ် ထေရုပ္ပတ္တိဖြစ်၍ ပါဠိဂါထာ ၂၅၂-ဂါထာတို့ဖြင့် တန်ဆာဆင်၍ ဆန်းကြယ်စွာ ရေးသားထားသည်၊ ဆရာတော်၏ ပါဠိစာပေ အရည်အချင်းကို ဤစာအုပ်ဖြင့် အကဲခတ်နိုင်သည်၊ ဝေတာလီမျိုး, ဥပဇာတိမျိုး, ဝတ္တမျိုး စသည်တို့ဖြစ်ကြသည့် ဂါထာတို့ဖြင့် ရေးသားထားရာ ဂါထာစာသွား ကောင်းမွန်ပြောင်မြောက်သည်၊ ယခုခေတ်တွင် ရနိုင်ခဲသည့် မြင့်မြတ်သော ပါဠိကျမ်းပြုပုဂ္ဂိုလ်ဟူသော ဘွဲ့ထူးကို ဆရာတော် ဆွတ်ခူးနိုင်လေသည်။

## ပျို့ ကဗျာ

ဆရာတော်သည် ပျို့,ကဗျာ,ရတု,မော်ကွန်း စသည်တို့၌လည်း ကျွမ်းကျင်တတ်မြောက်တော်မူသည်၊ "မင်္ဂလာမဏ္ဍိုင်၊ ကြံ့ကြံ့ခိုင်သား၊ ရောင်ဆိုင်လေးထွေ၊ စကြာဗွေဟု" အစချီသည့် မဟာဝိသုတာရာမတိုက် သိမ်ကျောင်းတော်ကြီးဘွဲ့ မော်ကွန်းဖြင့် ဆရာတော်၏ ပျို့ကဗျာ အရည်အချင်းကို အကဲဖြတ်နိုင်သည်။

## တိုက်တာအလှူခံ ၃-ပါး

အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီးက ၁၃၁၉-ခုနှစ် ဥပုသ်နေ့ တနေ့တွင် ဥပုသ်ပြုအပြီး သံဃာတော် (၄၀၀-ကျော်လောက်) အလယ်၌ မဟာဝိသုတာရာမတိုက်ကြီးကို လှူအပ်တော်မူရာတွင် ဆရာတော် အရှင်နန္ဒိယထေရ် အပါအဝင် ၃-ပါးဖြစ်လေသည်၊ ၃-ပါးတို့မှာ—

၁။ ဆရာတော် အရှင်ဂန္ဓမာ မဟာထေရ်

၂။ အရှင်နန္ဒိယ မဟာထေရ်

၃။ အရှင်မာဃိန္ဒ မဟာထေရ်တို့ ဖြစ်ကြပါသည်။

ထို့သို့ဖြစ်ကြောင်းကို—

"**ဂန္ဓမာထေရသီဟော စ၊ နန္ဒိယော, မာဃိန္ဒော** တထာ။
ဣတိ တိဏ္ဏံ မဟာရာမံ၊ အပ္ပေသိ အပ္ပနာဝိဓူ"—

ဟူသော ဂါထာဖြင့် မှတ်တမ်းတင်အပ်ပါသည်။

**အခမဲ့ ရထား သင်္ဘော လက်မှတ်**

ဆရာတော်အား နိုင်ငံတော်အစိုးရက ဆရာတော်၏ သီလ, သမာဓိ, ပညာဂုဏ်တို့ကို ယုံကြည်သဖြင့် မြန်မာနိုင်ငံတဝှန်းလုံးတွင် ပဌမတန်းမှ နောက်ပါ တပည့်တဦးနှင့် အခမဲ့ မီးရထား, မီးသင်္ဘော စီးခွင့် လက်မှတ်ကို ၁၃၂၃-ခုနှစ်တွင် ဆက်ကပ်လှူဒါန်းလေသည်။

ဘဒ္ဒန္တနန္ဒိယော ထေရော၊ နာယကော ဂဏဝါစကော။
သပ္ပညော သာရဝါစော စ၊ နိကာယောဒဓိပါရဂေါ။

သုနန္ဒိဇနကော စေဝ၊ နန္ဒိယော နန္ဒိယော ယထာ။
အတိစိရံ ဟိ သော ထေရော၊ ဇောတေတု ဇိနသာသနံ။

# တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက
# ဆရာတော် အရှင်နေမိန္ဒထေရ်

ဆရာတော်အရှင်နေမိန္ဒသည် ဘုရားသာသနာတော်တည်းဟူသော ပြတိုက် ဗိမာန်တော်တွင် အဖိုးတန်လှသည့် ဖူးမြင်စရာ, တန်ဖိုးထားစရာ ရတနာတပါး ဖြစ်သည်၊ အထူးအားဖြင့် မဟာဝိသုတာရာမဝါသီ ဂိုဏ်းဝင်ထေရ်တို့၏ အနွယ် အဆက်ကို မပျက်မတိမ်းအောင် စောင့်ထိန်းမည့် မဟာဝိသုတာရာမ၏ သား ကောင်းရတနာတပါးလည်း ဖြစ်ပါပေသည်၊ဆရာတော်သည် ၁၂၇၉-ခုနှစ် ပြာသို လဆုတ် ၈-ရက်နေ့တွင် အာဇာနည်ရှင်ရဟန်းတို့ ပေါ်ထွန်းမြဲဖြစ်ရာ ပခုက္ကူခရိုင် မြိုင်မြို့နယ် မြို့တင်ဘင်းကန်အုပ်စု အဝင်အပါ ငွေးပင်တွင်းရွာ **ဦးဘိုးတစ်–ဒေါ်ထွားတုတ်**တို့မှ ဖွားမြင် ကြီးပွါးခဲ့သည်၊ ဆရာတော်သည် ၁၂၉၈-ခုနှစ်တွင် ငွေးပင်တွင်းရွာ ပေတောကျောင်းဆရာတော် အရှင်နာရဒမထေရ်ကို ဥပဇ္ဈာယ် ပြု၍ ရှင်သာမဏေဝတ်ခဲ့သည်၊ ၁၃၀၉-ခုနှစ် ဝါဆိုလဆုတ် ၁-ရက်နေ့တွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် သိမ်တော်ကြီး၌ မဟာဝိသုတာရာမိက နိကာယ မဟာဝိနာယက အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ ဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်။

## ကျေးဇူးရှင်ဆရာတော်များ

ဆရာတော်အရှင်နေမိန္ဒသည် ငွေးပင်တွင်းရွာ ပေတောကျောင်းဆရာတော်, မဟာဝိသုတာရာမတိုက်ကြီး၏ အဓိပတိများ ဖြစ်တော်မူကြသော အဂ္ဂမဟာ-ပဏ္ဍိတ အရှင်ပညာ မဟာထေရ်, အဘိဓဇမဟာရဋ္ဌဂုရု အရှင် သုန္ဒရ မဟာ-ထေရ်, အဂ္ဂမဟာပဏ္ဍိတ အရှင် နန္ဒဝံသ မဟာထေရ်, တိုက်အုပ်ဆရာတော် အရှင် ဂန္ဓမာ, အရှင် နန္ဒိယထေရ်,အရှင်မာဃိန္ဒထေရ်, မန္တလေးမြို့ ခင်မကန်တိုက် အဂ္ဂမဟာပဏ္ဍိတ စံကျောင်းဆရာတော် အရှင် နန္ဒိမာထေရ်, ချမ်းသာကြီးတိုက် ရတနာ ဗိမာန်ကျောင်း အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်နန္ဒမဋ္ဌထေရ် စသည်တို့ထံတွင် သာမဏေဘဝမှစ၍ ဂန္ထဓုရအဝဝကို အာစရိယမုဋ္ဌိ ရရှိအောင် သင်ယူခဲ့သည်၊ ဆရာတော်သည် ဝီရိယတောင်အထုဖြင့် ကြိုးပမ်း အားသစ်မှု တို့ကြောင့်—

၁၃၁၄-ခုနှစ်တွင် သာသနဓဇသိရီပဝရ ဓမ္မာစရိယ သိရောမဏိ

၁၃၁၆-ခုနှစ်တွင် ဗုဒ္ဓသာသန ဝိသိဋ္ဌဝိနယဓရ မဟာဝိနယကောဝိဒ

၁၃၁၇-ခုနှစ်တွင် ဗုဒ္ဓသာသန ဝိသိဋ္ဌဒီဃဘာဏက

၁၃၁၈-ခုနှစ်တွင် ဗုဒ္ဓသာသန ဒီဃနိကာယ ကောဝိဒ



တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက အရှင်နေမိန္ဒထေရ်

( ၇၅ )

၁၃၁၉-၁၃၂၁-ခုနှစ်၌ ဗုဒ္ဓသာသနဝိသိဋ္ဌ အဘိဓမ္မိက အဘိဓမ္မကောဝိဒ
၁၃၂၁-ခုနှစ်တွင် ဗုဒ္ဓသာသန ဝိသိဋ္ဌ တိပိဋကဓရ တိပိဋကကောဝိဒ
၁၃၂၁-ခုနှစ်တွင် တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက—

ဟူသည့် ဘွဲ့တံဆိပ်တော်တို့ကို ဆွတ်ခူး ရယူတော်မူခဲ့သည်။

## ရထား, သင်္ဘော, လေယာဉ် အခမဲ့လက်မှတ်

ဆရာတော်အရှင်နေမိန္ဒအား နိုင်ငံတော်အစိုးရက နောက်ပါတပည့် ၂-ဦး နှင့် မီးရထား, မီးသင်္ဘော, လေယာဉ်ပျံ အခမဲ့စီးနင်းခွင့်လက်မှတ်ကို အမြဲတမ်း လှူဒါန်းထားသည့်ပြင် တလလျှင် ဆွမ်းဆန်တော်အတွက် ၂၇၅-၆၀ ပြား နှင့် မယ်တော်အတွက် ၃၀-အထောက်အပံ့ကိုလည်း ရရှိသည်၊ အရှင်နေမိန္ဒသည် အားလုံး မယ်တော်ကြီးအား ပေးစွန့်၍ မာတုပေါသနကိစ္စကို ပြုလုပ်တော်မူရာ အလောင်းတော်ဗောဓိသတ်ပမာ အလွန်တရာမှ ချီးကျူးဘွယ်ရာ ကောင်းလှပါ သည်၊ ဆရာတော်သည် မဟာဝိသုတာရာမိက ဂဏဝါစက နိကာယကြီး၏ ဂဏဘာရနိတ္ထာရကလည်း ဖြစ်တော်မူသည့်ပြင် ဂဏဝါစက စာချဆရာတော် ဖြစ်၍လည်း ဂန္ထဓုရအဝဝကို ချပို့တော်မူသည်၊ ဖော်ပြပါ ဂုဏ်တော် ဘွဲ့တော် ဥပါဓိတို့၏ ပိုင်ရှင်ဖြစ်သော ဆရာတော်အရှင်နေမိန္ဒ၏ စွမ်းရည်သတ္တိ,ပဋိဘာန်ကို အောက်ပါ ဂါထာဗန္ဓ ဂုဏကိတ္တိတို့ဖြင့် ထုတ်ဖော်ချီးကျူးအပ်ပါသည်။

### နေမိန္ဒဂုဏကိတ္တိ

(၁) နေမိန္ဒော ပဏ္ဍိတော ဗျတ္တော၊ ဇိနသာသနဇောတကော။
ဝိသုတဝံသဒီပေါဝ၊ သုတော သုဂတသာသနေ။

(၂) ပရိက္ခဏေသွ နေကေသု၊ သဋ္ဌု လဒ္ဓဇယဒ္ဓဇော။
စိတြကထိကော စေဝ၊ ဂဏာဿ ဂန္ထဝါစကော။

(၃) အတီဝ ပါကဋော အာသိ၊ သမ္ဗုဒ္ဓသာသနမ္ဗရေ။
ယထာ ဟိ စန္ဒိမာ သူရော၊ ပါကဋော အာသိ ခေတလေ။

(၄) ဝိနယပိဋကေ စေဝ၊ ပါရဂါမီ ဝိသာရဒေါ။
ဥပါလိတ္ထေရသေဋ္ဌောဝ၊ တေဒဂ္ဂံ မုပါဂတော။

(၅) သုတ္တန္တသာဂရေ စေဝ၊ ပါရဂ်တော ဗဟုဿုတော။
အာနန္ဒတ္ထေရသီဟောဝ၊ သမ္ဗုဒ္ဓသဟဇာတိကော။

(၆) အဘိဓမ္မေ သုဂမ္ဘီရေ၊ ဝိသိဋ္ဌဉာဏဂေါစရေ။
ဆေကော ပရမဆေကော စ၊ သာရိပုတ္တောဝ သာသနေ။

(၇) ဣစ္စေဝံ သုဂုဏောပေတံ၊ နေမိန္ဒံ ထေရကုဉ္ဇရံ။
သီလဝန္တံ ကောသာရက္ခံ၊ သမ္ဗုဒ္ဓသာသနဒ္ဓဇံ။

(၈) ဓမ္မဘဏ္ဍာဒိ’နေကေဟိ၊ ဥပါဓီဟိ အနေကဓာ။
ပူဇယုံ မြမ္မဘူပါလာ၊ ဥပါဓိဒါနကောဝိဒါ။

(၉) အမ္မမြမ္မသုရဋ္ဌမှိ၊ ဗဟူပိ သောဂတာ ဇနာ။
ဟဋ္ဌတုဋ္ဌာ ဟိ နေမိန္ဒံ၊ ပူဇာ’ကံသု အနေကဓာ။

(၁၀) ဇဝံ သဗ္ဗင်္ဂသမ္ပန္နံ၊ နေမိန္ဒံ တိလကံ ဝရံ။
နိရောဂတ္ထံ’ဘိပတ္ထေမ၊ သာသနဿ’ဘိဝုဒ္ဓိယာ။

ပခုက္ကူမြို့·မဟာဝိဇယာရာမ·အသောကါရုံအလယ်ကျောင်းတော်ကြီး
အလျားပေ·၂၅၀　　အနံပေ·၁၅၀

# မဟာဝိဇယာရာမတိုက်ကြီး

မဟာဝိဇယာရာမ ကျောင်းတိုက်ကြီးသည် ပခုက္ကူမြို့၌ ဒုတိယ အကြီးဆုံး စာသင်တိုက်ကြီးဖြစ်သည်၊ မဟာဝိသုတာရာမကျောင်းတိုက်ကြီး၌ သံဃာတော် တထောင်လောက် သီတင်းသုံးစဉ်က မဟာဝိဇယာရာမ ကျောင်း တိုက်ကြီး၌ သံဃာတော် ငါးရာ ခြောက်ရာလောက် သီတင်းသုံးလျက်ရှိခဲ့ဘူးကြောင်း နှုတ် သတင်းအရ သိရသည်၊ ကျောင်းတိုက်ကြီးကား အသောကာရုံအလယ်ကျောင်း တော်ကြီးနှင့် အရံ တိုက်ကျောင်းပေါင်းများစွာတို့ဖြင့် တန်ဆာဆင်ထားရကား တင့်တယ်လှပ ကျယ်ဝန်းလှပါသည်၊ ပခုက္ကူမြို့သူ မြို့သားတို့၏ မြင့်ခိုင်ကြီးမား လှသည့် သဒ္ဓါတရားကိုလည်း ဤကျောင်းကြီးဖြင့် ချိန်ဆ ခန့်မှန်းနိုင်ပေသည်။

## သမိုင်းအကျဉ်း

အဂ္ဂမဟာပဏ္ဍိတ, အဘိဓဇမဟာရဋ္ဌဂုရု ဥပါမိဘွဲ့တော်ရ ဆရာတော်အရှင် **ဇဝနမဟာထေရ်**သည် မဟာဝိသုတာရာမတိုက်ကြီး၌ ၁၅-နှစ် သီတင်းသုံးတော် မူကာ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းတော်မူခဲ့သည်၊ ဆရာတော်သည် ၁၂၇၁-ခုနှစ် သီတင်းကျွတ်လဆုတ် ၁-ရက်နေ့တွင် ဇာတိချက်ကြွေ မွေးရပ် မြေဟောင်းဖြစ်သည့် သေယောက်မြို့ ရွှေမြင်တင် ကျောင်းသို့ ပြန်ကြွတော်မူ သည်၊ ပခုက္ကူမှ ရှေ့နေကြီး ဦးဖိုးသောင်နှင့် ပေါင်လောင်ရှင် သူကြီးမင်း ဦးညွာ စသော ဒကာ, ဒကာမတို့ လိုက်ပင့်ကြ၍ ၁၂၇၁-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၃-ရက်နေ့ ညနေ ၅-နာရီတွင် ပခုက္ကူသို့ ကြွရောက်၍ မဟာဝိဇယာရာမ ကျောင်းတိုက်ကြီးကို တည်ထောင် ဖွင့်လှစ်တော်မူသည်၊ ရှေးဦးစွာ ဆရာတော် သည် ပြလမ်းအရှေ့ဖက် ကျောက်စေတီကျောင်းဝိုင်း၌ ခေတ္တယာယီကျောင်း များ ဆောက်စေ၍ သီတင်းသုံးတော်မူပြီး နောက်မှ ရန်ကုန်မြို့ ကြည့်မြင်တိုင် ဥယျာဉ်တိုက် အဂ္ဂမဟာပဏ္ဍိတ လေသာဆရာတော် ပုဂ္ဂလိကလှူဒါန်းသည့် မန်ကျည်းတောကျောင်းဝိုင်းမြေ, ဦးချင်း လှူသည့်မြေ, မန်ကျည်းချောင်းရပ် ပိုးကုန်သည် မကာင့် လှူသောမြေနှင့် အစိုးရလှူသော မြေကွက်လပ်များပေါ်၌ ဤမည်သော မဟာဝိဇယာရာမ ကျောင်းတိုက်ကြီးကို အခိုင်အမြဲ တည်ဆောက် ကြပြီး ဆရာတော်ကြီးထံ ရေစက်ချ၍ သံဃိကအဖြစ် လှူဒါန်းကြလေသည်။

## ဘုံကုသိုလ်အလယ်တိုက်ကြီး

ပခုက္ကူမြို့သူ, မြို့သားတို့မှာ သဒ္ဓါနှင့် ပစ္စည်းအင်အား မမျှကြပါ၊ သဒ္ဓါတရား မှာ ပစ္စည်းအင်အားထက် အားကောင်းကြသည်၊ ဦးအေးမြ-ဒေါ်ပိုးတို့က

၉-ထောင်, ဦးဆိုး-ဒေါ်မြစ်တို့က ၉-ထောင်, အမိန့်တော်ရမင်း ဦးဖိုးသောင်-ဒေါ်မြစ်တို့က ၆-ထောင်, ဦးဖိုး- ဒေါ်ငွေတုတ်တို့က ၆-ထောင်, ဝဲတောင့်သူကြီးမင်း ဦးစံအေးတို့က ၃-ထောင် မှတည်၍ ဦးဖိုးသောင်၏ နှိုးဆော်ကောက်ခံစီမံခြင်းဖြင့် ၁၂၇၂-ခုနှစ်တွင် အလယ်တိုက်ကြီးကိုစ၍ ဆောက်လုပ်ရာ ၇-ဆောင်းကုန်တိုက်ကြီးပြီးစီး၍ ၁၂၇၄-ခုနှစ် ကဆုန်လဆန်း ၁၄-ရက်နေ့နံနက်တွင် အရှေ့ဖက် ယာယီစံကျောင်းမှ သံဃာတော် ၄၀၀-ကျော်တို့နှင့် တကွပြောင်းရွှေ့ကာ စာပွဲသဘင် မစဲနေ့ည ချပို့ ဆင်ယင်တော်မူသည်၊ အလယ်တိုက်ကြီး ပြီးသည့်နောက်တွင်လည်း ဝံသမေဒနီတိုက်, ရသာဝတီ ဆွမ်းစားတိုက်ကျောင်း, ဦးတုတ်ကျောင်း, ပိဋကတ်တိုက်ကျောင်း, ရှစ်မျက်နှာကျောင်း အစရှိသည့် တိုက်ကျောင်းပေါင်း ၂၀-ကျော်နှင့် စောင်းတန်းကြီး စသည်တို့ဖြင့် နတ်နန်း ဝေဇယန်တမျှ တင့်တယ် ခမ်းနားလှကြောင်းကို မဟာဝိဇယာရာမ သာသနာဝင်၌ မှတ်တမ်းတင်ခဲ့ကြသည်။

### စစ်အပြီး မြင်ကွင်း

သီဟိုဠ်ကျွန်း မဟာသေနမင်း၏ လက်ချက်ကြောင့် မဟာဝိဟာရကျောင်းတိုက်ကြီး ပျက်စီးရသကဲ့သို့ ဒုတိယကမ္ဘာစစ်အတွင်းက အင်္ဂလိပ်အစိုးရ၏ ဗုံးဒဏ်ချက်ကြောင့် အလယ်တိုက်ကြီးနှင့်တကွ တိုက်ရံ, ကျောင်းရံ အချို့ ပျက်စီးခဲ့ရာ စစ်အပြီးတွင် စည်ပင်ပြန့်ပွါး ပခုက္ကူ မြို့သူ, မြို့သားတို့၏ သဒ္ဓါတရားကြောင့် မဟာဝိဇယာရာမကျောင်းတိုက်ကြီးသည် ၃-သိန်းကုန် အသောကာရာမတိုက်ကျောင်းကြီးနှင့်တကွ ကျောင်းရံပေါင်းများစွာတို့ဖြင့် တင့်တယ်စည်ကားလျက်ရှိပြန်ရာ ထိုကျောင်းတိုက်ကြီး၌ မှုရနှစ်ပါး ပွါးများလျက်ရှိကြသည့် ရဟန်းသံဃာတော်တို့၏ အသွင်အပြင် အမူအရာကို ဖူးတွေ့ရသော အဘယ်မည်သော ဗုဒ္ဓဘာသာဝင်သည် စာသင်သား ရဟန်းသံဃာတို့ကို မကြည်ညို မလေးစားဘဲ ရှိချိမ့်မည်နည်း။

> ဝိဇယာရာမနာမမှိ၊ အာရာမမှိ မနောဟရေ။
> ပဿိတွာန ဗဟုဿုတေ၊ ကော နာမ နော ပသာဒယေ။



ဆရာတော် အရှင်ဇဝနမဟာထေရ်

# ဆရာတော် အရှင်ဇာဝနမဟာထေရ်

ဆရာတော် အရှင်ဇဝနမဟာထေရ်သည် စာချကောင်း, အဟောအပြောကောင်းသော ဆရာတော်ကြီးဖြစ်သည်၊ မဟာဝိဇယာရာမ စာသင်တိုက်ကြီးကို စတင်ဖန်တီးသူ ဖြစ်သဖြင့်လည်း ပခုက္ကူသာသနာ့သမိုင်းတွင် မှတ်တမ်း တင်ထိုက်ပါပေသည်၊ ဆရာတော်သည် မြင်းခြံခရိုင် သေယောက်စီရင်စု ဇီးတောရွာ အဘ **ဦးပိန်ကျော်**–အမိ **ဒေါ်သောင်း**-တို့မှ ၁၂၃၉-ခုနှစ်ဝါခေါင်လဆန်း ၅-ရက် အင်္ဂါနေ့တွင် ဖွားမြင်သည်၊ ၁၀-နှစ်သားအရွယ်တွင် ရွှေမြင်တင်ကျောင်းတိုက်ဆရာတော် ဦးစန္ဒိမာထံတွင် မိဘတို့အပ်နှံကြသဖြင့် ပညာသင်ကြားသည်၊ ၁၂-နှစ်သားအရွယ်တွင် ဆရာတော် ဦးစန္ဒိမာထံတွင် ရှင်သာမဏေဝတ်ခဲ့သည်၊ ၁၉-နှစ် ၃-လတွင် ရွှေမြင်တင်ကျောင်းဆရာတော် ဦးစန္ဒိမာကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘဝသို့ ရောက်ခဲ့သည်၊ ရဟန်း ၂-ဝါတွင် ပခုက္ကူ ရေစကြို ဆရာတော် ဘုရားကြီး အရှင်ဂန္ထသာရထံ ရောက်ရှိကာ ပညာသင်ခဲ့သည်၊ ရဟန်း ၃-ဝါမှ ၈-ဝါအထိ မန္တလေးမြို့ ဘုရားကြီးတိုက်, အရှေ့ပြင် ခင်မကန်တိုက်, အနောက်ပြင် မိုးကောင်းတိုက်တို့၌ သီတင်းသုံး၍ နေ့ဝါ, ညဝါများ သင်ယူခဲ့သည်၊ မဟာဝိသုတာရာမတိုက်ကြီး၌ ရဟန်းသိက္ခာ ၈-ဝါမှစ၍ ၂၃-ဝါအထိ ၁၅-နှစ်တိုင်တိုင် သီတင်းသုံးတော်မူ၍ စာပေပိဋကတ်ကို သင်ပြချပို့တော်မူခဲ့သည်၊ ဆရာတော်သည် ရဟန်းသိက္ခာ ၂၃-ဝါအရတွင် မဟာဝိဇယာရာမတိုက်ကြီးကို တည်ထောင်ဖွင့်လှစ်ကာ ပိဋကတ် ၃-ဖြာကို ပါဠိ, အဋ္ဌကထာ, ဋီကာ တွဲဖက်၍ ချပို့တော်မူသည်။

### ဆရာတော်ရေး ကျမ်းများ

ဆရာတော်သည် ဝိနည်းပါဠိတော် (၅-ကျမ်း)နိဿျ, သံယုတ် ပါဠိတော် (၅-ကျမ်း) နိဿျ, ဝိသုဒ္ဓိမဂ်အဋ္ဌကထာ နိဿျ, ပေဋကဝဏ္ဏဝိသောဓနီ နိဿျ စသည့် ကျမ်းပေါင်း ၃၁-ကျမ်းတို့ကို ပြုစုခဲ့ကြောင်း ကိုယ်တိုင်ရေး အဋ္ဌုပ္ပတ္တိ၌ ဖော်ပြထားတော်မူခဲ့လေသည်။

### အဂ္ဂမဟာပဏ္ဍိတ, အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်

ဆရာတော်၏ သာသနာအတွက် ဆောင်ရွက်ချက်တို့ကို နှစ်သက် ကြည်ညိုကာ နိုင်ငံတော်အစိုးရသည် ၁၂၉၀-ပြည့်နှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်, ၁၃၁၈-ခုနှစ်တွင် အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်တို့ကို ဆက်ကပ်လှူဒါန်းလေသည်၊ ဆရာတော်သည် ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင်ကြီးတွင် သံဃနာယက, ဩဝါဒါစရိယ တာဝန်တို့ကို ထမ်းဆောင်တော်မူခဲ့သည်။

## ဘဝနတ်ထံပုံလွှန်တော်မူခြင်း

ဤသို့လျှင် ဘုရားရှင်သာသနာတော်ကို စည်ပင်အောင် ကြိုးပမ်းထမ်းရွက်တော်မူခဲ့သော ဆရာတော်ဘုရားကြီးသည် သက်တော် ဂ၂-နှစ် ဝါတော် ၆၃-ဝါ အရ ၁၃၂၀-ခုနှစ် တပို့တွဲလဆုတ် ၇-ရက်နေ့တွင် နတ်များဘုရင် အပင့်လာသဖြင့် ကျင့်ဆောင်ဆဲဖြစ်သော သာသနာ့တာဝန် လုပ်ငန်းတို့ကို ထားရစ်တော်မူခဲ့က ဒေဝကြငှန်း နတ်တို့နန်းသို့ စံမြန်းတော်မူလေပြီ။

ထေရော ဇဝနပညော စ၊ ဇဝနော ဇဝနော ယထာ။
ဗျတ္တော သာသနကိစ္စေသု၊ ဝိဇယာရာမမာပကော။
နိမန္တိတော၀ သက္ကေန၊ ယာတော ဒေဝါန သန္တိကေ။

# ဆရာတော် အရှင်ဇောတိက မဟာထေရ်

သီဟိုဠ်ကျွန်း ဝိဇ္ဇောဒယတက္ကသိုလ်၏ အဓိပတိ သောရတထေရ် ကွယ်လွန်ပြီးနောက် ပဏ္ဍိတ်ဘွဲ့ အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ရ အရှင်ဝိမလဓမ္မထေရ် အဓိပတိဖြစ်လာသကဲ့သို့ အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီး လွန်ပြီးနောက် ဆရာတော် အရှင်ဇောတိကမဟာထေရ်သည် မဟာဝိဇယာရာမ စာသင်တိုက်ကြီး၏ အဓိပတိ မဟာနာယက ဖြစ်လာတော်မူသည်၊ ဆရာတော်သည် ၁၂၅၅-ခုနှစ် နတ်တော်လဆုတ် ၄-ရက် အင်္ဂါနေ့တွင် ဖွားမြင်သည်၊ ၁၂၇၀-ပြည့်နှစ်တွင် သာမဏေဝတ်ခဲ့ပြီး ၁၂၇၄-ခုနှစ် အသက် ၂၀-တွင် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

ဆရာတော်သည် အဘိဓဇမဟာရဋ္ဌဂုရု အရှင်ဇဝနထေရ်နှင့် အဘိဓဇမဟာ-ရဋ္ဌဂုရု မစိုးရိမ်ဆရာတော်တို့ထံတွင် ဂန္ထဓုရအဝဝကို သင်ယူ တတ်မြောက်တော်မူခဲ့သည်။

### အဂ္ဂမဟာပဏ္ဍိတ

၁၃၂၁-ခုနှစ်တွင် ဆရာတော်၏ နာယကဓုရန္ဓရဂုဏ်, ဂဏဝါစကဂုဏ်, သီလ-ဝန္တသိက္ခာကာမ ဂုဏ်တို့ကြောင့် နိုင်ငံတော်အစိုးရက အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်ဖြင့် လေးမြတ်ကော်ရော် ပူဇော်ခဲ့လေသည်။

**ဇောတိကော** နာယကော အာသိ၊ ဇဝနမှိ ဒိဝင်္ဂတေ။
ဝိဇယာရာမနာမဿ၊ ဝိဿဝိဇ္ဇာလယဿ စ။

# ဆရာတော် အရှင်ဉာဏိန္ဒ မဟာထေရ်

ဆရာတော်သည် မဟာဝိဇယာရာမ စာသင်တိုက်ကြီး၏ နာယကတဆူ ဖြစ်တော်မူသည်၊ စာချလုပ်ငန်းသာ မဟုတ်ဘဲ အဟောအပြော ဓမ္မကထိက လုပ်ငန်း၌လည်း ကျွမ်းကျင်တော်မူသည်။

ဆရာတော်သည် ၁၂၅၇-ခုနှစ် ပြာသိုလဆုတ် ၂-ရက် အင်္ဂါနေ့တွင် ပခုက္ကူ ခရိုင် မြိုင်မြို့နယ် အပါအဝင် ကျောက်ကုန်းရွာတွင် အဘ **ဦးဖိုးအောင် – မိခင် ဒေါ်ချစ်မယ်**တို့မှ ဖွားမြင်ခဲ့သည်၊ ၆-နှစ်သားအရွယ်တွင် တွင်းမ တောင်ကျောင်း ဂိုဏ်းထောက်ဆရာတော် ဦးအာသဘထံတွင် ပညာသင်၍ ၁၀-နှစ်သားအရွယ် တွင် ရှင်သာမဏေဝတ်ခဲ့သည်၊ ၁၄-နှစ်သားအရွယ်တွင် မန္တလေး အနောက်ပြင် ချမ်းသာကြီးတိုက် မြို့အုပ်ကျောင်း ဆရာတော် ဦးတိက္ခထံသို့ ရောက်ရှိကာ ပိဋကတ်ကျမ်းစာများကို သင်ယူခဲ့၍ ၁၂၇၆-ခုနှစ်၌ တွင်းမရွာ မြောက်ကျောင်း ဆရာတော် ဦးဥတ္တမကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်လေသည်၊ ဆရာတော်သည် မန္တလေး တောင်ပြင် ဘုရားကြီးတိုက် ဆရာတော် ဦးပခန်း, ပခုက္ကူ မဟာဝိသုတာရာမတိုက် ဆရာတော် အရှင်ပညာ မဟာ ထေရ်နှင့် ဆရာရင်း အရှင်ဇဝနမဟာထေရ်တို့ထံတွင် ပိဋကတ်ကျမ်းဂန် အတန်တန်ကို နည်းခံ သင်ယူတော်မူခဲ့သည်။

၁၂၇၅-ခုနှစ်တွင် ပခုက္ကူမြို့ မဟာဝိဇယာရာမကျောင်းတိုက်ကြီးသို့ရောက်၍ ကျေးဇူးရှင် အဘိဇမဟာရဋ္ဌဂုရု ဆရာတော်ဘုရားကြီးက ဂဏဝါစက စာချ အဖြစ် ချီးမြှင့်မြှောက်စားတော်မူသည်၊ ဆရာတော်သည် မဟာဝိဇယာရာမ စာသင်တိုက်ကြီး၏ မျက်နှာဖုံးစာချအဖြစ်ဖြင့် ကျော်ကြားခဲ့သည်၊ ဘုံပျံတိုက် ကျောင်းပေါ် စာချစဉ်က စာလိုက်သံဃာ ၂၀၀-ကျော်လောက် ရှိကြောင်း ဆရာတော်ထံမှ ကြားသိရသည်၊ ဆရာတော်သည် စာချတာဝန်, ဓမ္မကထိက တာဝန်တို့ကို ဆောင်ရွက်တော်မူရင်း—

(၁) ခရိုင်ဝိနည်းဓိုရ် တာဝန်

(၂) ပါဠိပညာရေးအဖွဲ့ နာယက တာဝန်

(၃) ခုံရုံးဝိနည်းဓိုရ် တာဝန်

(၄) ဆဋ္ဌသံဂါယနာတွင် မူလဝိသောဓက, ပါဠိပဋိဝိသောဓကတာဝန် တို့ကို ဆောင်ရွက်တော်မူခဲ့သည်။

၁၃၀၇-ခုနှစ် ဝါဆိုလပြည့် ဥပုသ်နေ့တွင် မဟာဝိဇယာရာမတိုက်ကြီးကို တိုက်အုပ် ဆရာတော်အဖြစ် ပေးအပ်ရာ ၃-ပါးတွင် ဆရာတော် ပါဝင်ခဲ့သည်၊ ၃-ပါးတို့မှာ—

၁။ ဆရာတော် အရှင်ဇောတိကမဟာထေရ်

၂။ ဆရာတော် အရှင်ဉာဏိန္ဒမဟာထေရ်

၃။ ဆရာတော် အရှင်ဇနိန္ဒမဟာထေရ် (ပန်းရွာ)တို့ ဖြစ်ကြလေသည်။

**ဇောတိကော စေဝ ဉာဏိန္ဒော၊**
**ဇနိန္ဒော ထေရကုဥ္စရော။**
ဣတိ တိဏ္ဏံ မဟာရာမံ၊
အဒါသိ ဒါနကောဝိဒေါ—

ဟူသောဂါထာဖြင့် မှတ်တမ်းတင်အပ်ပါသည်၊ ဆရာတော်သည် ဂန္ထာဘရဏ နိသျ,သုတ္တနိဒ္ဒေသနိသျတို့ကိုလည်း ရေးသားတော်မူခဲ့ကြောင်း သိရသည်။

**မိးရထား မီးသဘော်ာ အခမဲ့စီးနင်းခွင့်**

ဆရာတော်၏ သာသနမုရန္ဓရ,သိက္ခာကာမ-ဂုဏ်တို့ကို ယုံကြည်သဖြင့် ရိုးရိုး တန်းမှ နောက်ပါတပည့်တဦးနှင့် ဆရာတော်အား အထက်တန်းမှ စီးနင်းခွင့် လက်မှတ်ကို ၁၃၁၈-ခုနှစ်တွင် နိုင်ငံတော်အစိုးရက လှူဒါန်းလေသည်။

**ဉာဏိန္ဒော** ဉာဏဝါ ဓီရော၊
သုတဝါ စိတြဝါစကော။
ဝဿသတံ ဟိ သော ထေရော၊
ဇောတေတု ဇိနသာသနံ။

# သာသနဝိပုလာရာမ မန္တလေးကျောင်းတိုက်

သာသနဝိပုလာရာမ မန္တလေးကျောင်းတိုက်သည် ပခုက္ကူပိဋကတ်အတတ်မြို့တော်ရှိ ကျောင်းတိုက်များအနက် တတိယမြောက် အကြီးကျယ်ဆုံးသော ကျောင်းတိုက်ဖြစ်သည်၊ ပခုက္ကူမြို့တည်းဟူသော ဗုဒ္ဓဘာသာပြတိုက်ကြီးတွင် ရှုမြင်စရာ, လေ့လာစရာ တခန်းတကွက်လည်း ဖြစ်လေသည်၊ ပြာသာဒ်ကြီးနှင့် တကွ အရှေ့, အနောက် ၁၅၃-ပေရှိ၍ တောင်, မြောက် ၅၉-ပေ ရှိပြီး အထပ်ပေါင်း လေးထပ်နှင့် တံခါးပေါက်ပေါင်း ၁၅၈-ပေါက်ပါဝင်သည့် မြန်မာ့အနုပညာဆန်ဆန် ဆောက်လုပ်ထားသော ကျောင်းတော်ကြီးကို ဝန်းရံလျက် တိုက်ကျောင်း ၇-ကျောင်း, သစ်သားကျောင်း ၄-ကျောင်း တည်ရှိလေသည်၊ ကျောင်းတိုက်ကြီး တခုလုံးကို ခေတ်တန်ဖိုးဖြင့် တွက်လျှင် ကျပ်ငွေ ၁၅ သိန်းမှ သိန်း ၂၀-လောက် တန်မည် ဖြစ်သည်၊ ကျောင်းတိုက်နေရာထိုင်ခင်းမှာ သံဃာတော် ၅၀၀-လောက် ချောင်ချောင်လည်လည် သီတင်းသုံးယောက်အောင် ကျယ်ဝန်း ခမ်းနားလှပေသည်။

## သမိုင်းအကျဉ်း

ဤကျောင်းတိုက်ကြီး တည်ဆောက်သူမှာ ဒုတိယကျောင်းအမကြီး ဝိသာခါဟု ခေါ်ဆိုထိုက်သည့် ပခုက္ကူမြို့ ကုက္ကိုတန်းရပ်နေ ရှေးက ဆန်ကုန်သည်ကြီး **ဒေါ်လှကြွယ်အမည်ရှိသော** ရတနာသုံးရပ်ကို မပြတ်မလပ် ကြည်ညိုဆည်းကပ်သည့် ဒါယိကာမကြီး ဖြစ်လေသည်၊ ဒါယိကာမကြီးသည် ပေးကမ်းလှူဒါန်းမှု၌ ရောင့်ရဲ ကျေနပ် တင်းတိမ်အားရသည် မရှိဟု သိရသည်၊ ၁၂၇၉-ခုနှစ်၌ ၇-ပင် ၆-ခန်းတိုက်ကြီး တည်ဆောက်ပြီး မန္တလေးမြို့ ဘုရားကြီးတိုက် ပခန်းကျောင်းမှ **ဆရာတော်ဦးပခန်းကို** ပင့်တင် လှူဒါန်းလေသည်၊/၁၂၉၆-ခုနှစ်တွင် အသောကာရုံ လေးထပ်ကျောင်းကြီးကို စ၍ တည်ဆောက်ရာ ၁၃၀၀-ပြည့်နှစ်တွင် ပြီးဆုံးလေသည်၊ ရေစက်ချပွဲတွင် ပင့်သံဃာ ၁၆၀-ကို ပင့်ဖိတ်ပြီး ဆွမ်းဆက်ကပ်ကာ သင်္ကန်းစသည် လှူဒါန်း၍ ပခုက္ကူနှင့် အရပ်ရပ်ရှိမိတ်ဆွေသင်္ဂဟ ထောင်ပေါင်းများစွာတို့ကို ကျောင်းရေစက်ချပွဲတွင် ဖိတ်ခေါ် ကျွေးမွေး ညှော့ဝတ်ပြုရင်း များစွာသော သံဃပရိသတ်, လူ့ပရိသတ် အလယ်တွင်—

ဣမံ ဘန္တေ့ သပါသာဒံ၊ သုဝိသာလံ ဝိစိတ္တိကံ။  
ဒေဝတာနံ ဝိမာနံဝ၊ ရုစိရံ သုမနောဟရံ။  
ဝိဟာရံ အနုကမ္ပာယ၊ သံဃော မံ သမ္ပဋိစ္ဆတု။



သာသနဝိပုလာရာမ မန္တလေးကျောင်းတိုက်မှ အသောကာရုံလေးထပ်ကျောင်းတော်ကြီး

"သံဃာတော်အရှင်မြတ်တို့ဘုရား အလွန်တရာ ကျယ်ဝန်းလှစွာသော ဖလ်, မှန်, ရွှေရောင်, ငွေရောင်, တပြောင်ပြောင်နှင့် တောက်လောင်ခမန်း ခြူးပန်း ခြူးနွယ် အသွယ်သွယ်တို့ဖြင့် ဆန်းလည်းဆန်းကြယ်လှစွာသော နတ်တို့၏စံနန်း ဗိမာန်နှင့်လည်းတူ၍ တင့်တယ်လှပ စိတ်နှလုံးကို ယူကျုံးဆွဲဆောင်နိုင်သော ဤကျောင်းကြီးကို သံဃာတော်သည် တပည့်တော်မအား သနားပါသဖြင့် လက်ခံသာယာတော်မူပါဘုရား" ဟု ဆို၍ ရေစက်သွန်ချ လှူဒါန်းလေသည်။

ဝိဟာရဒါနံ သံဃဿ၊ အဂ္ဂံ ဗုဒ္ဓေန ဝဏ္ဏိတံ။

(စူဠဝဂ္ဂပါဠိတော်၊ ၂၉၂)

အာဝါသဒါနဿ ပနာနိသံသံ၊
ကော နာမ ဝတ္တုံ ပုရိသော သမတ္ထော။
အညတြ ဗုဒ္ဓါ ပန လောကနာထာ၊
ယုတ္တော မုခါနံ နဟုတေန စာပိ။

(ဗုဒ္ဓဂံသအဋ္ဌကထာ၊ ၂၅)

# ဆရာတော် ဦးပခန်း

## ( အရှင်ဝိစာရမဟာထေရ် )

ဆရာတော်သည် သာသနာတော်တွင် နေ့လ အသွင် ထင်ရှားကျော်ကြား တော်မူသည်၊ ဂန္ထန္တရဝိဒူ၊ ဗျာကရဏပါရဂူ ဆရာတော်ကြီး ဖြစ်တော်မူသည်၊ ဆရာတော်သည် သက္ကရာဇ် ၁၂၂၄-ခု တန်ဆောင်မုန်းလဆုတ် ၇-ရက် ဗုဒ္ဓဟူး နေ့ နံနက် ၃-နာရီတွင် ပခုက္ကူခရိုင် ပခန်းနယ်အပါအဝင် တွင်းမရွာ **ဘိုးပြန့်–ဒေါ်မေး**တို့မှ ဖွားမြင်သည်။

### နာမည်မှည့်မင်္ဂလာ

ဘိုးပြန့်-ဒေါ်မေးတို့သည် ဖွားမြင်ပြီးနောက် ၃-လမြောက် နာမည်မှည့် မင်္ဂလာ ပြုသောခါတွင် မိခင်၌ သန္ဓေရှိစဉ်က အမြဲမပြတ် ဒါန၊ သီလ၊ ဘာဝနာ နှင့် မွေလျော်လိုခြင်း၊ ပရိတ်၊ တရားဒေသနာ၊ စာပေနာလိုခြင်းဟူသော အာသာချင်ခြင်းကို စွဲ၍ **မောင်စာတိုက်**ဟု အမည်မှည့်ကြသည်၊ ဂ-နှစ်သား အရွယ်တွင် နောင်တော်ဘုန်းတော်ကြီး ဦးဥတ္တမထံ မိဘတို့က အပ်နှံကြ၍ "နမော ဗုဒ္ဓါယ"အစ သရရှစ်လုံး၊ ဗျည်း ၃၃-လုံးကို ၂-လကြာမျှသာ သင်ယူ၍ မင်္ဂလသုတ်၊ အပြင်အောင်ခြင်း၊ အတွင်းအောင်ခြင်း၊ ရတနာရွှေချိုင့်၊ နမက္ကာရ၊ ပရိတ်ကြီး၊ လောကနီတိ၊ ဓမ္မနီတိ၊ ရာဇနီတိ၊ ဝသလသုတ်၊ ဇာတ်ကြီးဆယ်ဘွဲ့၊ အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်းတို့ကိုလည်း မပင်မပန်း သင်ကြား တတ်မြောက်တော် မူလေသည်။

### သာမဏေပြုလုပ်ခြင်း

အသက် ၁၃-နှစ်အရွယ်တွင် ဦးဥတ္တမထံ၌ပင် သာမဏေဝတ်ခဲ့ရာ ဘွဲ့တော် မှာ **ရှင်ဝိစာရ** ဖြစ်သည်၊ ထိုနှစ်မှာပင် ကစ္စည်းသဒ္ဒါကြီးကို ဦးဥတ္တမကချပို့ပေး သည်၊ ၁၄-နှစ်မှ ၁၇-နှစ်သားအထိ လူထွက်၍ မိဘ ၂-ပါးကို လုပ်ကျွေးသည်၊ ၁၇-နှစ်တွင် တဖန် ဦးဥတ္တမထံတော်၌ သာမဏေဝတ်၍ ရှင်ဝိစာရဟူသော ဘွဲ့ဟောင်းကိုပင် ရယူပြီး ကစ္စည်းသဒ္ဒါကြီး၊ သင်္ဂြိုဟ်ကျမ်း၊ ပုဒ်စစ်၊ သဒ္ဒါစစ်၊ နည်းလေးဆယ်၊ သံဝဏ္ဏနာကျမ်းတို့ကို ဦးဥတ္တမထံတွင် သင်ယူခဲ့လေသည်၊ (၁၉-နှစ် ၆-လ) အသက် ၂၀-မြောက်တွင် သစ်ပင်ကြီးရွာ ဆေးဆရာကြီး **ဆရာဖြူ**–ဆရာကတော် **ဒေါ်သန့်**တို့၏ ပစ္စယာနုဂ္ဂဟဖြင့် တောဝေးကန် ဂိုဏ်းထောက်ဆရာတော် အရှင်အရိယကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်လေသည်၊ ဦးဥတ္တမထံ၌ ဒွေမာတိကာ၊ ခုဒ္ဒသိက္ခာ၊ မူလသိက္ခာကျမ်း



ဆရာတော် ဦးပန်း(အရှင်ဝိစာရမဟာထေရ်)

တို့ကို သင်ကြားပြီးနောက် ပခုက္ကူမြို့ မြစ်ကိုင်း ရွာဦးကျောင်း အရှင်သုအနန္တ, အရှင်မုနိန္ဒတို့ထံတွင် အဘိဓာန်, ဆန်း, အလင်္ကာ, ဘေဒစိန္တာ, ဂန္ထာဘရဏ-စသော သဒ္ဒါငယ်ကျမ်းများနှင့် မာတိကာ, ဓာတုကထာစသည့် ညဝါများကို သင်ယူလေသည်၊ ရဟန်း ၃-ဝါတွင် ပခုက္ကူမြို့ ကုန်သည်ကြီး ဘိုးကတိုး-မယ်မင်းခင်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ရွှေကူတိုက် ခဏ္ဍသိမ်၌ သိမ်ထပ်ခဲ့ပြန်သည်။

၆-ဝါအရတွင် မန္တလေးမြို့ အနောက်ပြင် စကုတိုက်၌ နေထိုင်၍ "ပဒုမာ-လင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု" မေဃဝတီဆရာတော်နှင့် "နာဂိန္ဒာဘိဓဇ-မဟာဓမ္မရာဇာဓိရာဇဂုရု" မိုးညှင်းကောင်း ဆရာတော်တို့၏ အထံ၌ ပိဋကတ်သုံးပုံ နေ့ဝါ, ညဝါများနှင့် သက္ကတကျမ်းများကိုပါ ၃-နှစ်ပတ်လုံး သင်ယူခဲ့သည်၊ စစ်ကိုင်း ပဲကတိုးတောကျောင်း, အင်းဝမြို့ သမန်းတောကျောင်းတို့၌လည်း ၁-ဝါစီ သီတင်းသုံး၍ အင်းဝမြို့ တံတားဦးအပိုင် မြင်းသည်ရွာ သိမ်ကုန်း တောရ ကျောင်း၌လည်း ၁-ဝါ နေတော်မူခဲ့သည်၊ ၎င်းနောက် မန္တလေးမြို့ ဘုရားကြီးတိုက်၌ အရှင်အာစာရ "ကဝိဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဆရာ တော်ကြီး၏ ထံ၌ သီတင်းသုံးကာ စာလိုက်ရင်း စာပေပို့ချတော်မူခဲ့သည်၊ ဆရာတော်ကြီးက "ပခန်းကြီး ပခန်းကြီး"ဟု ချီးမြှောက်ခေါ်ဝေါ်တော် မူလေသည်။

ဆရာတော်သည် အလုပ်အကျွေးဖြစ်သော မြင်းခြံခရိုင် နွားထိုးကြီးမြို့အပိုင် ဆူးဖြူကုန်းရွာ ရှင်ပဏ္ဍဝကို စာဆိုစေ၍ ရှေးဦးအစ ဂန္ထာဘရဏကျမ်းကို ဝါကျ သွား-ဝါကျလာ အမျိုးမျိုး, အနုသန္ဓေ အထွေထွေ, ကျမ်းရိုး အသွယ်သွယ်, အဓိပ္ပါယ်အဖြာဖြာ, ဥပနာပဒ္ဓက, ဥပနာဆက္က, ဂန္ထန္တရအဝဝတို့ဖြင့် ပို့ချသည်ကို သိ၍ ဘုရားကြီး ဆရာတော်က လွန်စွာ နှစ်သိမ့်အားရတော်မူသည်၊ ဘုရားကြီး ဆရာတော်ထံ လာသမျှ ဝိနိစ္ဆယရေးရန်များ, မေးခွန်းအမျိုးမျိုး ဖြေရန်များကို ဆရာတော်အား တာဝန်ပေးကာ ဓမ္မာနုဂ္ဂဟ, အာမိသာနုဂ္ဂဟတို့ဖြင့် ချီးမြှောက် တော်မူခြင်းကြောင့် ဆရာတော်ဦးပခန်းကြီးဟု ကျော်ကြားလေသည်၊ ဦးပခန်း ကြီးဟူသော ဘွဲ့မည်ဖြင့်ပင် "သုဇာတာဘိ သိရီဓဇ ဓမ္မသေနာပတိ သိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" မိုးထားသာသနာပိုင်ဆရာတော်, ပဏ္ဍိတဓဇသိရီပဝရ မဟာဓမ္မရာဇာဓိရာဇဂုရု" မိုင်းခိုင်းဆရာတော်, "ဘဒ္ဒန္တအာစာရ ကဝိဓဇမဟာ-ဓမ္မရာဇာဓိရာဇဂုရု"ဒက္ခိဏာရာမဆရာတော်,ဆရာတော်ဦးရန်ကုန်တို့ ထံ၌လည်း ပိဋကတ် ကျမ်းဂန်များ သင်ယူပြန်၍ မအားနေ့ည စာပေပို့ချတော်မူခဲ့သည်၊ မိမိအတွက် ဆောက်လုပ်သော ပခန်းကျောင်းကြီးသို့ ပြောင်းရွှေ့ကာ စာချမှု လုပ်ငန်းကို ဇောက်ချ၍ ပြုလုပ်တော်မူရာ ဘုရားကြီးတိုက်၌ ၃၆-နှစ် ကြာမြင့်ခဲ့ လေသည်။

၎င်းနောက်တွင် ပခုက္ကူမြို့ ကုက္ကိုတန်းရပ် ဘုရားဒါယကာ ဦးလယ်ဆွဲ ဘုရားအမ-ဒေါ်မင်းဂုံ, သား- ကိုဘိုးဝေ, ကိုဘိုးဘေ, ကျောင်းဒါယကာ- ဦးပေါ်သင်း, ကျောင်းအမကြီး-ဒေါ်လှကြွယ်, ညီမ-ဒေါ်လှသွယ်, ဒေါ်လှနွယ် တို့က ပခုက္ကူမြို့ မြစ်ကိုင်းရပ်တွင် သာသနဝိပုလာရာမ မန္တလေးတိုက်ကြီး တည်ဆောက်ကာ ဆရာတော်ဦးပခန်းအား ပင့်တင်၍ သံဃိက လှူဒါန်းလေ သည်၊ ဆရာတော်သည် သာသနဝိပုလာရာမ မန္တလေးတိုက်ကို အလှူခံ၍ ၁၂-နှစ်တိုင်တိုင် စာပေပို့ချတော်မူသည်၊ ဆရာတော်သည် မန္တလေးမြို့, ပခုက္ကူ မြို့တို့၌ နေတော်မူစဉ်—

၁။ ကာရန္တာဒိဝိဘာဝိနီကျမ်း

၂။ ဗျဉ္ဇနဗုဒ္ဓါဒိဒီပနီကျမ်း

၃။ ကပ္ပဝိနိစ္ဆယကျမ်း

၄။ ဥဒ္ဒစ္စစေတနာဝိနိစ္ဆယကျမ်း

၅။ ဇီဝိတပရိစ္စာဂ အင်္ဂပရိစ္စာဂ ဝိနိစ္ဆယကျမ်း

၆။ နိပ္ဖန္နရူပဝိနိစ္ဆယကျမ်း

၇။ လောကဝဇ္ဇ ပဏ္ဏတ္တိဝဇ္ဇ ဝိနိစ္ဆယကျမ်း

၈။ ဗုဒ္ဓဂုဏပကာသနီကျမ်း

၉။ သဒ္ဒါကြီးနိသျ

၁၀။ လက္ခဏတ္တယဒီပနီကျမ်း

၁၁။ ပရိတ်ကြီးနိသျ—

စသော ကျမ်းပေါင်းများစွာတို့ကို ပြုစုစီရင်တော်မူခဲ့သည်။

ဤသို့စသည်ဖြင့် သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းရွက်ခဲ့သည့် အရှင်ဝိစာရ ဘွဲ့တော်ရှိသော ဆရာတော်ဦးပခန်းကြီးသည် သက်တော် ၇၈-နှစ် ကျော် ဝါတော် ၅၈-ဝါအရ ၁၃၀၂-ခုနှစ်တွင် နတ်ပွဲသဘင် ဝင်စံတော်မူ ခဲ့ပြီ။

**ဝိစာရော** ယော မဟာထေရော၊ ဇိနသာသနဇောတကော။
သောပိ မစ္စုမုခံ ပတ္တော၊ မာဒိသေသု ကထာဝ ကာ။

# ဆရာတော်အရှင်ဥက္ကံသာဘိဝံသထေရ်

## ဆရာတော်ဦးပခန်း၏ တပည့်စဉ်ဆက်

ဆရာတော်သည် ကျမ်းဂန်တတ်ဆရာတော်ဖြစ်သည့်အလျောက် ကျမ်းဂန်တတ် သာသနာပြုတပည့်တပန်းများစွာတို့ ပေါ်ထွန်းခဲ့သည်၊ ၎င်းတပည့်များအနက် ထင်ရှားသည့်တပည့်များမှာ **အရှင်သဒ္ဓမ္မ** သာသနဝိပုလာရာမတိုက် ဒုတိယမြောက် ဆရာတော် (၁၃၁၃-ခုနှစ်တွင် ပျံလွန်တော်မူသည်။), **အရှင်အရိယာလင်္ကာရ** သကျသီဟမူလဓမ္မာစရိယ တမ္ပဝတီကျောင်း ဘုရားကြီးတိုက် မန္တလေး(ပျံလွန်), **အရှင်မေဓိယာဘိဝံသ** သကျသီဟဓမ္မာစရိယ နယားကျောင်း ဘုရားကြီးတိုက် မန္တလေး, **အရှင်သာသန** အဂ္ဂမဟာပဏ္ဍိတ ပခုက္ကူ (ယခု မန္တလေးတိုက်ဆရာတော်), **အရှင်ဥက္ကံသာဘိဝံသ** အမရပူရကျောင်း ဘုရားကြီးတိုက် မန္တလေး စသည်တို့ ဖြစ်ကြသည်။

ထိုဆရာတော်များအနက် ဆရာတော် အရှင်ဥက္ကံသာဘိဝံသသည် ၁၂၆၉-ခုနှစ်တွင် ရမည်းသင်း အုဋ္ဌ်ဖိုရွာ၌ အဘဦးစံခိုင် – အမိဒေါ်အိမ်မင်းတို့မှ ဖွားမြင်သည်၊ ဆရာတော် ဦးပခန်း၏ တပည့်ရင်းဖြစ်သည့်ပြင် ပခုက္ကူ ကွမ်းရွာမင်းကျောင်းနှင့် လှေကုတ်ရွာတို့၌လည်း ပညာသင်ကြားခဲ့သည်၊ ပခုက္ကူ မဟာဝိသုတာရာမကျောင်းတိုက်ကြီး၌ ၃-နှစ်ပတ်လုံး သီတင်းသုံးတော်မူ၍ အဂ္ဂမဟာပဏ္ဍိတ ဆရာတော် အရှင်ပညာမဟာထေရ်ထံ ဂန္ထန္တရအဝကို သင်ယူခဲ့သည်၊ မန္တလေးမြို့ ပရိယတ္တိအသင်းကြီး၏ အကိုးကွယ်ခံ သကျသီဟ မူလဓမ္မာစရိယ ဖြစ်တော်မူသည်၊ ဆဋ္ဌသံဂါယနာတွင် တာဝန်ရှိသော ပဋိဝိသောဓက, ဩသာနသောဓက, စာပြင်ဆရာတော်အဖြစ် ထင်ရှားခဲ့သည်၊ နိုင်ငံတော်အစိုးရ ဆက်ကပ်သော **မီးရထား, မီးသင်္ဘော** အထက်တန်းမှ တပည့်တဦးနှင့် စီးနင်းခွင့်**လက်မှတ်**ကို အလှူခံတော်မူရသည်။

ဆရာတော်သည် မန္တလေးမြို့၌ ကျော်ကြား၍ စာလိုက်များသော စာချဆရာတော်တပါး ဖြစ်သည့်ပြင် မန္တလေးမြို့ ဒက္ခိဏာရာမ ဘုရားကြီးကျောင်းတိုက်ကြီး၏ သံဃသမ္မုတိရ နာယက ဆရာတော်လည်း ဖြစ်တော်မူသည်၊ ဆရာတော်သည် ဂန္ထကာရက ကျမ်းပြုပုဂ္ဂိုလ်ဖြစ်တော်မူသဖြင့်—

၁။ ကထိနဝိနိစ္ဆယကျမ်း

၂။ သီမာဝိနိစ္ဆယကျမ်း

၃။ ကမ္မဝါစာဝိနိစ္ဆယကျမ်း

၄။ သံမူဋ္ဌဆေဒနီကထာကျမ်း—

စသည်တို့ကိုလည်း ပြုစုစီရင်တော်မူခဲ့သည်၊ ဂါထာအရေးအသားလည်း ကောင်းမွန်သည်ဖြစ်၍ ဆရာတော်၏ သံမူဋ္ဌဆေဒနီကထာကျမ်း နိဂုံး၌—

"သီလာဒိဂုဏယုတ္တေန၊ ဂဏဝါစကဘိက္ခုနာ။
ဥက္ကံသသနာမကေန၊ ဒက္ခိဏာရာမဝါသိနာ။

ပါဠိအဋ္ဌကထာဒီနိ၊ သမာဒါယ သုနိစ္ဆိတာ။
သုနိစ္ဆိတာ အကိစ္စေန၊ သံမူဋ္ဌဆေဒနီကထာ။

ဣမိနာ ကတပုညေန၊ သမတ္တောဟံ အသစ္စကံ။
မိစ္ဆာဝါဒံ ဝိနာသေတုံ၊ ဘဝေယျံ ဇာတိဇာတိယံ"——

ဟူသော ဂါထာများဖြင့် ဆရာတော်၏ စာပေအရည်အသွေးကို သိသာနိုင်ပေသတည်း။

# ဆရာတော် သဒ္ဓမ္မာလင်္ကာရမဟာထေရ်

ပခန်းဆရာတော်ဘုရားကြီး နတ်ရွာစံတော်မူပြီးနောက် သာသနဝိပုလာ-ရာမကျောင်းတိုက်ကြီး၏ အဓိပတိ မဟာနာယက ဖြစ်လာသူမှာ အရှင်သဒ္ဓမ္မာ-လင်္ကာရမဟာထေရ် ဖြစ်လေသည်၊ အရှင်သဒ္ဓမ္မဟုသာ ထင်ရှားသည်၊ ဆရာတော်သည် ရေစကြိုမြို့ နန္ဒင်းကိုင်းရွာ ဘခင် သူကြီးမင်း ဦးရွှေတင်–မိခင် ဒေါ်သိုက်တို့မှ ဖွားမြင်သည်၊ သာသနဝိပုလာရာမတိုက်၌ အဓိပတိ မဟာ-နာယကဖြစ်၍ စာပေပို့ချကာ သာသနာ ကြီးပွါးရာကြီးပွါးကြောင်း ဆောင်ရွက်ခဲ့၍ သက်တော် ၆၇-နှစ် ဝါတော် ၄၇-ဝါအရ ၁၃၁၃-ခုနှစ် ဝါဆိုလဆုတ် ၁၂-ရက်နေ့တွင် ပျံလွန်တော်မူသည်။

**သဒ္ဓမ္မော** နာယကော အာသိ၊ ဝိစာရမှိ ဒိဝင်္ဂတော၊
**ဝိပုလာရာမ**နာမဿ၊ မဟာဝိဇ္ဇာလယဿ စ။

# ဆရာတော် အရှင်သာသနမဟာထေရ်

ဆရာတော်သည် မန္တလေးကျောင်းတိုက် ဆရာတော် အရှင်သဒ္ဓမ္မ ပံ့လွှန်တော်မူပြီးနောက် ၁၃၁၃-ခုနှစ်တွင် သာသနဝိပုလာရာမ မန္တလေးတိုက်ကြီး၏ အဓိပတိ ဦးစီးနာယကဆရာတော် ဖြစ်လာသည်၊ ဆရာတော်သည် ၁၂၅၉-ခုနှစ် နတ်တော်လဆုတ် ၉-ရက် သောကြာနေ့တွင် ဖွားမြင်ခဲ့သည်၊ ၆-နှစ်သားအရွယ်တွင် မြစ်ကိုင်း ရွာဦးကျောင်းဆရာတော် ဦးသုအနန္တ, ဦးမုနိန္ဒတို့အထံတွင် ပညာသင်ကြားပြီး ၁၂-နှစ်သားအရွယ်တွင် သာမဏေဝတ်ခဲ့သည်၊ ၁၂၇၁-ခုနှစ်တွင် မန္တလေးကျောင်းတိုက်ကြီး ဒါယကာ ဦးပေါ်သင်း–ဒေါ်လှကြွယ်တို့၏ ပစ္စယာနုဂ္ဂဟဖြင့် ပခုက္ကူတောရဆရာတော် ဦးကြည်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်တော်မူလေသည်။

## ပရိယတ် သင်ကြားခြင်း

ဆရာတော်သည် ပခုက္ကူ မြစ်ကိုင်း ရွာဦးကျောင်း ဆရာတော် ဦးသုအနန္တ, ဦးမုနိန္ဒ, မန္တလေးမြို့ ချမ်းသာကြီးဆရာတော် ဦးတိက္ခ, ခင်မကန်တိုက် သုဓမ္မာကျောင်း ဆရာတော် ဦးရေဝတ, မန်ကျည်းပင်ကျောင်း ဆရာတော် ဦးသီလာစာရ, ခေမာသီဝံ ဆရာတော် ဦးအဂ္ဂဝံသ, တောင်ပြင် ဘုရားကြီးတိုက် ဆရာတော် ဦးပခန်းတို့အထံတွင် ပရိယတ်ကျမ်းဂန် အတန်တန်ကို သင်ယူခဲ့သည်။

## သာသနာ့ဝန် အားသွန်ကြိုးပမ်းခြင်း

ဆရာတော်သည် သာသနဝိပုလာရာမ မန္တလေးတိုက် ဆရာတော် ဦးပခန်းအထံတွင် ဝိနိစ္ဆယ အဝဝကို နည်းယူသင်ကြားလျက် ပဋ္ဌမစာချဖြစ်၍ စာပေပို့ချစဉ်——၁· သဒ္ဒသာရတ္ထဒီပနီကျမ်း၊ ၂· ဝါကျဘေဒပကာသနီကျမ်း——တို့ကို ပြုစုခဲ့ပြီး ဣန္ဒိယ,သိဟိုဠ်တို့မှ အပြန်တွင် ၃· ပါဠိ-အင်္ဂလိပ်-မြန်မာ သုံးဘာသာ စကားပြောကျမ်းတို့ကိုလည်း ရေးသားစီရင်တော်မူသည်။

## ဆောင်ရွက်မှု အမျိုးမျိုး

ဆရာတော်သည် ၁၃၁၃-ခုနှစ်မှစ၍ သာသနဝိပုလာရာမ ကျောင်းတိုက်ကြီး၏ ဦးစီးနာယကအဖြစ်ဖြင့် ဆောင်ရွက်တော်မူလျက် ပါဠိတက္ကသိုလ်ကျောင်းအုပ်, ဆဋ္ဌသံဂါယနာ ပါဠိဝိသောဓက, ဆဋ္ဌသင်္ဂီတိကာရက, ပခုက္ကူခရိုင် ဩဝါဒါစရိယ, ပါဠိပဋ္ဌမပြန် ကြီးကြပ်ရေး နာယက အဖြစ်ဖြင့် သာသနာ့တာဝန်တို့ကိုလည်း ထမ်းဆောင်တော်မူသည်။

**အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်**

ဤသို့စသည်ဖြင့် ပရိယတ်,ပဋိပတ် ၂-ရပ် လောက်လုံ စုံလင်ပြည့်ဝ သီလဝန္တ,သိက္ခာကာမ ဖြစ်တော်မူသည့် ဆရာတော် အရှင်သာသနထေရ်အား နိုင်ငံတော်အစိုးရက ၁၃၂၂-ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကို ဆက်ကပ်လှူဒါန်းလေသည်။

**သာသနော** ယော မဟာထေရော၊ **ဝိပုလာရာမဗလ္လသဒော**။
ပါဠိဝိသောဓကော စေဝ၊ ဆဋ္ဌသံဂီတိကာရကော။

ပါဠိဝိဇ္ဇာလယေ စာပိ၊ အဓိပတိ ဓုရန္ဓရော။
ဟုတွာ သောဘေသိ သော ဝိညူ၊ ပဋိက္ကူ သာသနမ္ဗရေ။

# ရှေးစာသင်တိုက်ဟောင်းများ

ပခုက္ကူမြို့၌ မဟာဝိသုတာရာမ စာသင်တိုက်ကြီး မပေါ်မီကပင် စာသင်တိုက်ဟောင်းများ ရှိခဲ့ဘူးလေသည်၊ ၎င်းတို့ကား ကျောက်မိကျောင်း, လေသာကျောင်းတိုက်, လယ်ပြင်ကျောင်းတိုက်, ပုထိုးတိုက်,ခံတောတိုက် စသည်တို့ ဖြစ်ကြလေသည်။

ကျောက်မိကျောင်းမှာ မဟာဝိသုတာရာမ ကျောင်းတိုက်ကြီး မပေါ်မီ စစ်ကိုင်း, မင်းကွန်း ပါဠိတော်ဂိုဏ်း အဆက်အနွယ်ဖြစ်သည့် အရှင်ရာဇိန္ဒထေရ် တည်ထောင်ခဲ့သော ကျောင်းဖြစ်၍ စာသင်သား ၅၀-လောက် လက်ခံသည့် စာချကျောင်း ဖြစ်ဘူးကြောင်း သိရသည်။

ပခုက္ကူတောင်ခြေမှ လေသာကျောင်းတိုက်မှာလည်း စာသင်သား ၅၀-နီးပါးလောက် သီတင်းသုံး၍ ပညာသင်ရာ ဝိဇ္ဇာဌာနဖြစ်ဘူးကြောင်း ကျေးဇူးရှင် အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ ဆရာတော်ဘုရားကြီးထံမှ သိရသည်၊ ကျောင်းတိုက်ကို စ၍ တည်ထောင်သူမှာ အဂ္ဂမဟာပဏ္ဍိတ လေသာဆရာတော် အရှင်ဓမ္မိက ဖြစ်လေသည်၊ ဖော်ပြပါ လေသာဆရာတော်၏ ကျော်ကြားမှုသည် မူလက ကျော်ကြားနေသော ကျောက်မိကျောင်း ဆရာတော်၏ ဂုဏ်သတင်းကို ဖုံးလွှမ်းသွားရကား "ကျောက်ကို လေဖုံးသည်"ဟု ပခုက္ကူ၌ ဥဒါန်းတွင်ဘူးသည်။

ပခုက္ကူ မဟာဝိသုတာရာမ စာသင်တိုက်ကြီး၏ အနောက်တောင်ဖက်၌ ကပ်လျက်တည်ရှိသော လယ်ပြင်ကျောင်းတိုက် စတင်တည်ထောင်သော ဆရာတော်မှာ ဆရာတော်အရှင်ကလျာဏထေရ်ဖြစ်သည်၊ ဆရာတော် အရှင်ကလျာဏလက်ထက်က စာသင်သား ၂၀-ကျော်လောက် လက်ခံ၍ စာချခဲ့သည်၊ ဆရာတော် အရှင်ကလျာဏသည် သက်တော် ၇၀-တွင် ပျံလွန်တော်မူသည်၊ ဆရာတော် အရှင်ကလျာဏ၏ နောက်၌ ဆရာတော် အရှင်နန္ဒမာလာ, ၎င်းဆရာတော်၏ နောက် ဆရာတော် အရှင်ပညာ, ၎င်းနောက် ယခု သက်တော်ထင်ရှား ရှိတော်မူသော အရှင်နန္ဒထေရ် ဖြစ်သည်။

ပုထိုးကျောင်းတိုက်ကား သီဟိုဠ်ရှင် ဘုရားကြီး၏ အနောက်တောင်ဖက်၌ တည်ရှိသည်၊ သက္ကရာဇ် ၁၁၄၃-ခုနှစ် တပို့တွဲလဆုတ် ၁၄-ရက်နေ့တွင် နန်းတက်သော ဘိုးတော်မင်းတရားကြီးလက်ထက်တွင် "ဂုဏာဘိလင်္ကာရ သဒ္ဓမ္မမဟာ-ဓမ္မရာဇာဓိ ရာဇဂုရု" ဘွဲ့တံဆိပ်ရ မင်းအိုဆရာတော်၏တပည့် ပုထိုးဆရာတော် စ၍ တည်သောကျောင်းတိုက် ဖြစ်သဖြင့် ပုထိုးတိုက်ဟု အမည်တွင်လေသည်၊

ဥင်းပုထိုးဆရာတော်တပည့် ရွှေဘိုမင်း၊ ပုဂံမင်း၊ မင်းတုန်းမင်းတို့ လက်ထက်တွင် "ခင်ကြီးအိပ်"အမည်တွင်သော ပုဂံနတ်ထောင့်ဂိုဏ်း ပုထိုးဆရာတော် အရှင်သုမန၊ "ခင်ကြီးတိုး" အမည်ရှိသော ဂဏဝါစက အရှင်ဇိန၊ ဥင်းဆရာတော် အရှင်ဇိန၏ တပည့် တောရဆရာတော်ဘုရားကြီး ဦးကြည်၊ ဥင်းဆရာတော် ဦးကြည်၏ တပည့်များကား ဆရာတော် အရှင်နန္ဒိယ၊ ဆရာတော် အရှင်ကောသလ္လ၊ ဆရာတော် အရှင် ဇောတိက စသည်တို့ ဖြစ်ကြသည်၊ ပုထိုးတိုက်သည် ရှေးဟောင်းစာသင်တိုက် ဖြစ်သဖြင့် စာပေပိဋကတ်တော်များ ရှေးဟောင်း ပေ၊ ပုရပိုက်များ လွန်စွာပေါ်များလေသည်။

**ခံတောတိုက်လည်း** မဟာဝိသုတာရာမတိုက် မပေါ်မီက စာသင်တိုက်ငယ် ဖြစ်လေသည်၊ မဟာဝိသုတာရာမတိုက် တည်၍ ပရိတ်ရွတ် မြေသန့်စဉ်က ခံတောတိုက်အုပ် ကျောင်းသစ်ဆရာတော် ဦးစန္ဒိမာ၊ ရွှေဂူတိုက် ရတနာဗိမာန် အုဋ်ကျောင်း ဘုန်းကြီး စသည်တို့ ပါဝင်ကြောင်း "မဟာဝိသုတာရာမ ရေစက်ချစာတမ်း"၌ တွေ့ရှိရသည်။

ဤသို့ဖြင့် ပခုက္ကူ အတတ်မြို့တော်တည်းဟူသော တောနက်ဂနိုင် မဟာမြိုင်ကြီးအတွင်း ခြင်္သေ့မင်းပမာ ရဲရင့်တော်မူကြကုန်သော ပိဋကတ္တယပါရဂူ ဗျာကရဏဝိဒူ ပညာရှင် ဆရာတော်မြတ်ကြီးတို့သည် မြင့်မောက်သော ဟိန်းဟောက်သံကြီးတို့ဖြင့် ကြိမ်ဖန်များစွာ ဟိန်းဟောက်တော်မူခဲ့ဘူးကြကုန်ပြီ။

**ပခုက္ကူ**ဝှပြဟာရညေ၊ ထေရာ ဟိ ကဝိကေသရာ။
နဒိံသု ဥစ္စနာဒေဟိ၊ ပိဋကတ္တယကောဝိဒါ။

## အရညဝါသီ

# ဆရာတော် ဦးကြည်

### တောင်ပေါ်ကျောင်းများ

သီဟိုဠ်ကျွန်း ရောဟဏတိုင်းမှ စိတ္တလပဗ္ဗတတောင်, အနုရာဓမြို့မှ မိဿက တောင် စသည်တို့သည် စိတ်ကြည်နူးစရာ တရားဖြင့် ပျော်မွေ့သူတို့နေရာ ဖြစ် သကဲ့သို့ ပခုက္ကူပိဋကတ်အတတ်မြို့တော်၏ မြောက်ဖက် တောင်ကုန်းများ သည်လည်း ဘာဝနာပွါးလိုသူတို့အား လျောက်ပတ်သည့် ဘာဝနာနုယောဂီတို့ စိတ်ကြည်နူးစရာ တောင်ထူးများ ဖြစ်ကြသည်၊ အဆိုပါတောင်ကုန်းများပေါ်၌ ဝိပဿနာဓူရဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်နေသော ရဟန်းတော် အများအပြား ရှိလေသည်၊ စစ်ကိုင်းတောင်ရိုးချောင်များကဲ့သို့ ချောင်အမည် များဖြင့် မဟုတ်ပဲ တောင်အမည်များဖြင့်တမျိုး အချိုးကျ အဆင်ပြေလှသည်၊ တောင်တို့မှာ ပဋိပတ်အကျော် ဆရာတော်ဦးကြည် သီတင်းသုံးခဲ့ရာ သဲပုံစေတီ တောရတောင်, ကျွန်းဖိုတောင်, မှန်စီတောင်, ရွှေဘုံသာတောင်, မြစိမ်းတောင်, ဆရာတော်ဦးဉာဏ တည်ထောင်သီတင်းသုံးသွားသော စေတီရံတောင်, နိဗ္ဗာန် တောင်, ဓမ္မဇ္ဇလိတတောင်, ကူတောင်, စိတ္တသုခတောင်, ကုသိနာရုံတောင်, ကိန္နရာတောင်, နှစ်ကျိပ်ရှစ်ဆူတောင်, ရွှေချမ်းသာတောင်-တို့ ဖြစ်လေသည်။

### ဥပုသ်သည်, သီတင်းသည်တို့ ပျော်ရာ

ဝါတွင်း, ဝါပ, အခါကြီး, ရက်ကြီး, နေ့ထူး, နေ့မြတ်များတွင် ပခုက္ကူ ဒကာ, ဒကာမတို့ ဆွမ်း, ကွမ်း, ပန်းနံ့သာ စသည် ယူဆောင်၍ သံဃာတော်မြတ်တို့ အား ဆွမ်းလုပ်ကျွေးလှူဒါန်းကြပြီး ရှစ်ပါးသီလ, ကိုးပါးသီလ ဆောက်တည် ကြလျက် ဆိတ်ငြိမ်ရာ သစ်တပင်ရင်း ဝါးတပင်အောက်နှင့် ကမ္မဋ္ဌာန်းဇရပ်ကျောင်း ပေါ်သို့ ရောက်ကြကာ တရားဘာဝနာပွါးများရင်း ပုတီးစိပ်၍ ဝိဝေက ချမ်းသာကို ခံစားနေကြသည်တို့မှာ ဝမ်းမြောက်ဝမ်းသာ သာဓုအနုမောဒနာ ပြုရန် ကောင်းလှပါပေသည်။

### ဖွားမြင်တော်မူခြင်း

ကိုယ်နှင့်အသက် ငဲ့ကွက်တော်မမူဘဲ ရဲရဲဝံ့ဝံ့ စွန့်စွန့်စားစား တရား ဘာဝနာ ကျင့်ကြံသော ဘာဝနာနုယောဂီမထေရ်မြတ်တို့အနက် သဲပုံစေတီ တောရဆရာတော် ဦးကြည်လည်း ပါဝင်ခဲ့သည်၊ ဆရာတော်သည် ၁၂၀၄-ခုနှစ်



အရညဝါသီ ဆရာတော် ဦးကြည်

သီတင်းကျွတ်လဆုတ် ၅-ရက်နေ့ ည ၂-နာရီကျော်တွင် ညောင်ဦးမြို့ အဘ လှေသူကြီး **ဦးပေခွေး**–မိခင် လှေသူကြီးကတော် **ဒေါ်မင်းကူး**တို့မှ ဖွားမြင်တော်မူသည်၊ မွေးချင်း ၅-ယောက်တို့အနက် ဆရာတော်လောင်းလျာသည် အကြီးဆုံး သားကြီးရတနာ ဖြစ်လေသည်၊ နာမည်မှည့်မင်္ဂလာ ပြုသောခါ၌ **မောင်ကြည်**ဟု မိဘတို့ မှည့်ခေါ် သမုတ်ကြသည်။

## သာမဏေဝတ်ခြင်း

သက်တော် ၁၂-နှစ်အရွယ်တွင် ပုထိုးဂိုဏ်းထောက်ဆရာတော် ဦးသုမနထံ အပ်နှံ၍ သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ ပရိတ်ကြီး-စသည်တို့ကို သင်ကြား၍ ၁၅-နှစ်သားအရွယ်တွင် ဦးသုမနထံ၌ပင် သာမဏေဝတ်ခဲ့သည်၊ ဘွဲ့တော်မှာ **ရှင်ကိတ္တိ** ဖြစ်လေသည်၊ ဆရာတော်ဦးသုမနသည် ရှင်ကိတ္တိအား သဒ္ဒါ၊ သင်္ဂြိုဟ်-စသည့် ဂန္ထန္တရအဝဝကို သင်ကြား ချပို့ပေးလေသည်၊ အသက် ၂၀-ပြည့်၍ ၁၂၂၄-ခုနှစ် နယုန်လဆန်း ၁၀-ရက်နေ့တွင် ပုထိုးတိုက် ခဏ္ဍသိမ်တွင် ဆရာတော် ဦးသုမနကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်လေသည်၊ ဦးပဥ္စင်း ဦးကြည်(ဦးကိတ္တိ)သည် သိက္ခာ ၃-ဝါအရတွင် ဆရာတော်ဦးသုမန၏ စေလွှတ်ချက်အရ မန္တလေးမြို့ မြောက်ပြင် စံကျောင်းတိုက် "သုဒဿနဝရဓမ္မသာမိ မဟာရာဇာဓိရာဇဂုရု" ပဌမဘွဲ့တံဆိပ်တော်နှင့်"သုဒဿနဇေအတုလာဓိပတိသီရိ-ပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" ဒုတိယဘွဲ့တံဆိပ်တော် အားဖြင့် ဘွဲ့တံဆိပ်နှစ်ထပ်ရ စံကျောင်းဆရာတော်ဘုရားကြီးထံ ကြာမြင့်စွာပင် လယ်တီဆရာတော်ကြီးနှင့်အတူ ရင်းရင်းနှီးနှီး ပိဋကတ်ကျမ်းစာများကို သင်ယူခဲ့လေသည်၊ ပညာသင်ကြားခြင်းကိစ္စ ပြီးဆုံးသောခါ ပခုက္ကူသို့ ပြန်ကြွခဲ့ပြီး ပုထိုးတိုက်၌ ပိဋကတ်ကျမ်းစာများ ချပို့၍ ဓုရနှစ်ပါးကို ကြိုးစားအားသစ်တော်မူလေသည်။

## တောထွက်၍ ဓုတင်ကျင့်ခြင်း

နေက္ခမ္မဇ္ဈာသယဓာတ်နှင့်ပြည့်စုံသော ၁၀-ဝါရ ရဟန်းတော်ဦးကြည်သည် ရှာနီးကျောင်း၊ မြို့တွင်းကျောင်း ရဟန်းတို့၏ အာဒီနဝ-အပြစ်ကို ဉာဏ်ပညာဖြင့် ရှုဆင်ခြင်၍ ရွှေဥမင်ဆရာတော်၊ တောင်ဖီလာဆရာတော်တို့၏ထုံးကို နှလုံးသွင်းတော်မူလျက် ပခုက္ကူမြို့ မြစ်ကိုင်းရွာမြောက် တာငါးရာအကွာ သဲပုံစေတီ ရောက်ရာတောင် တောကျောင်းဝယ် အာရညကင်ဓုတင်နှင့်တကွ အခြားဓုတင် ၁၂-ပါးကို ကျင့်သုံးလျက် သီတင်းသုံးတော်မူခဲ့လေသည်။

## ဆရာတော်၏ ဓုတင်အကျင့်

ဆရာတော်သည် သက်တော် ၇၄-နှစ် အသက်ဆုံးတိုင် တိစီဝရိတ်ဓုတင်ကို ကျင့်ဆောင်တော်မူသည်၊ ပံ့သကူဓုတင်ကို ကျင့်ဆောင်တော်မူရာ ညောင်စောင်း၌ပင် (နိသဇ်)

ဓုတင်ဆောင်လျက် ပျံလွန်တော်မူသည်၊ ဆရာတော်၏ တပည့်ရင်း အရှင်နန္ဒိယ ထေရ်၏ ဖော်ပြချက်မှာလည်း လျောင်းသောဣရိယာပုထ်ဖြင့် တခါမျှ မတွေ့ မမြင်ဘူးဟု ဆိုသည်၊ သက်တော် ၇၈-နှစ်တိုင်အောင် အာရညကင်ဓုတင်၊ ပိဏ္ဍပါတ် ဓုတင်၊ သပဒါနစာရိဓုတင်၊ ဧကာသနိက်ဓုတင်တို့ကို ဆောင်တော်မူ၍ ရံဖန် ရံခါ ပတ္တပိဏ်ဓုတင်၊ ခလုပစ္ဆာဘတ္တဓုတင်၊ ရုက္ခမူဓုတင်၊ အဗ္ဘောကာသိကဓုတင်၊ သောသာနိကဓုတင်၊ ယထာသန္ထတိဓုတင်၊ ပံသုကူလိကဓုတင်တို့ကို ဆောင်လျက် ပဋိပတ္တိသာသနာ့ဝန်ကို ဆောင်ရွက်တော်မူသည်၊ ထို့ကြောင့် သဲပုံစေတီ တောရဆရာတော်ဘုရားကြီးသည် ဘုရားရှင်၏ သားကြီး ဩရသ အရှင်မဟာကဿပမဟာထေရ်ကြီးကဲ့သို့ တောရသဓုတင်ဓရ၊ ဓုတဝါဒီပုဂ္ဂိုလ်ကြီး ပီသပါပေသည်။

## ဣန္ဒိယ, သီဟိုဠ်သို့ ကြွတော်မူခြင်း

ဆရာတော်သည် ၁၂၅၅-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၁၄-ရက်နေ့တွင် ဣန္ဒိယနိုင်ငံသို့ ကြွတော်မူ၍ ဗောဓိပင်နှင့်ရွှေပလ္လင်၊ သတ္တဋ္ဌာနစေတီတော်များ၊ တရားဦးဓမ္မစကြ် ဟောမြွက်တော်မူရာ မိဂဒါဝုန်တောစသည့် သံဝေဇနီယဋ္ဌာန များသို့ ကြွရောက်ပြီးလျှင် ဖူးမြော် ကန်တော့ ပူဇော် သံဝေဂ ယူတော်မူခဲ့ သည်၊ ဗောဓိပင်အောက်၌ ပေါက်၍နေသော ဗောဓိပင်ပျိုတပင်ကို ပင့်ယူတော် မူခဲ့ပြီး ပုထိုးတိုက်ဦး၌ စိုက်ပျိုးတော်မူခဲ့သည်၊ ၁၂၅၈-ခုနှစ်တွင် သီဟိုဠ်ကျွန်းသို့ ကြွရောက်၍ သံဃမိတ္တာဗောဓိ, မဟာစေတီ, ထူပါရာမစေတီ, သုမနတောင် ထိပ်ရှိ ဘုရားရှင်ခြေတော်ရာ, ဘုရားရှင်စွယ်တော် စသည်တို့ကို ဖူးမြော် ကန်တော့ ဦးခိုက် ပူဇော်ခဲ့သေးသည်၊ ဆရာတော်သည် သီဟိုဠ်ရှင်ဘုရားကြီး ဂေါ်ပကအဖွဲ့၏ နည်းပေးညွှန်ပြ ဩဝါဒါစရိယ နာယကအဖြစ်ဖြင့် ဗုဒ္ဓဝေယျာဝစ္စကိုလည်း ပြုတော်မူခဲ့သည်။

ဆရာတော်သည် နက်နဲဆန်းကြယ်စွာ တရားဟောစွမ်းနိုင်သည့် ဂမ္ဘီရစိတြ-ဘာဏီ ဓမ္မကထိကပုဂ္ဂိုလ်တဆူလည်း ဖြစ်တော်မူသည့်ပြင် မိမိထံသို့ ချဉ်းကပ် လာသော ဒကာ,ဒကာမတို့အား မင်္ဂ, ဖိုလ်, နိဗ္ဗာန်ချမ်းသာ အကျိုးစီးပွါးနှင့် စပ်သည့်စကားကိုသာ ပြောဟောလေ့ရှိသည့် အတ္ထသံဟိတဘာဏီ ပုဂ္ဂိုလ်ကြီး တဆူလည်း ဖြစ်တော်မူပါပေသည်၊ ဆရာတော်သည် ရဟန်းကိစ္စ ၂-ခုရှိမှတပါး အခြား အမှုလုပ်ငန်းတို့၌ မည်သည့်အခါမျှ လေ့ကျက်တော်မမူပဲ ညဥ့်အခါဝယ် အနည်းငယ်မျှ ထိုင်မှီသော ဣရိယာပုထ်ဖြင့် ကျိန်းစက်၍ ကမ္မဋ္ဌာန်းဘာဝနာ ကိုသာ ကျင့်ကြံကြိုးကုတ် အားထုတ်သည့် ဘာဝနာနုယောဂီ ပုဂ္ဂိုလ်ကြီး လည်း ဖြစ်ပါပေသည်၊ ၎င်းပြင် မိမိရသော အပိုအလျှံ လာဘ်လာဘတို့ကို ခင်တွယ်ခြင်းမရှိပဲ တစမကျန် စွန့်လှူ၍ ခေါင်းပါး ခြိုးခြံ ရောင့်ရဲသော

အကျင့်ကိုကျင့်တတ်သည့်အဖြစ်တည်းဟူသော အပ္ပိစ္ဆတာဂုဏ်,သန္တုဋ္ဌိတာဂုဏ်, သလ္လေခတာဂုဏ်-တို့နှင့်လည်း ပြည့်စုံတော်မူပါပေသည်။

ဤသို့စသည်ဖြင့် ချီးကျူးမကုန် ဂုဏ်တော်သမုဒ္ဒရာကြီး ဖြစ်တော်မူသော ဆရာတော်ဦးကြည် (အရှင်ကိတ္တိမဟာထေရ်) သည် သက်တော် ၇၄-နှစ် ဝါတော် ၆၄-ဝါအရတွင် ဇရာဗျာဓိ နှစ်ချက်ငြိသဖြင့် ၅-ရက်တာမျှ အာဟာရတော် အသုံးအဆောင်ပျက်ကာ တပည့်တပန်းတို့အား အပ္ပမာဒတရား လက်ကိုင်ထားရန် မှာကြားခဲ့ပြီး ထိုအခိုက် ရောက်ရှိလာသည့် ဒေဝါ,ဒေဝီတို့၏ ပင့်လျှောက်ချက်ကို လက်ခံတော်မူ၍ ၁၂၇၇-ခုနှစ် ပဌမဝါဆိုလဆန်း ၆-ရက်နေ့ ည ၂-နာရီအချိန်အခါတွင် တုသိတာနန်းမသို့ မြန်းကြွတော်မူလေပြီ၊ ဈာပနပွဲကို ပြာသာဒ် ပေါင်း ၁၀၀-ကျော်တို့ဖြင့် ခမ်းနားစွာ ကျင်းပပူဇော်ကြသည်။

မုတော သုဇုတဝါဒေါ သော၊ ထေရိန္ဒော ကဿပေါ ယထာ။
ကတွာ သာသနကိစ္စာနိ၊ အဂမီ တုသိတံ ပုရံ။

## ဆရာတော် ဦးကြည်၏ အများသိ အဖြစ်အပျက်များ

### ဆရာတော်နှင့် ပတတ်ညွှတ်ကွင်း

ဆရာတော်သည် သီတင်းသုံးရာတောင်မှ မြို့တွင်းသို့ ဆွမ်းခံကြွရာ လမ်းခရီးအကြား ယာခင်းများ၌ ထောင်ထားသော ပတတ်ညွှတ်ကွင်းတခုတွင် ဆရာတော်၏ ခြေထောက်မှာ မိလျက်ရှိနေသည်ကို အခြား ဒကာတဦး တွေ့မြင်သဖြင့် လာ၍ ဖြုတ်မည်ပြုရာ လက်ခံတော်မမူပဲ ညွှတ်ကွင်းထောင်သူ လာရောက်ပြီး ထိုသူကိုယ်တိုင် ဖြုတ်ပေးမှ ဆက်လက်ကြွတော်မူလေသည်။

### ဆရာတော်နှင့်ပြန်ပေး

ဆရာတော်၏ သီလ, သမာဓိ, ပညာဂုဏ်တို့ကြောင့် ပခုက္ကူနှင့်တကွ နယ်လူထုအများ ဆရာတော်၌ ကြည်ညိုကြ၏၊ ပြန်ပေးသမားလူဆိုးတို့သည် ဝေါယာဉ်ဖြင့်ပင့်၍ ပြန်ပေးခေါ်ကြ၏၊ ပြန်ပေးလူဆိုးတို့ ဆရာတော်အား ပင့်၍ ခရီးပေးရောက်ပြီဟု အမှတ်ဖြင့် ချဝှက်မည်ပြုသည်တွင် ဆရာတော်သီတင်းသုံးရာ သဲပုံစေတီတော် ကျောင်းတွင်းပင် ဖြစ်နေသဖြင့် လက်လျှော့ပြန်သွားကြရဘူးသည်။

### ဆရာတော်နှင့်ဆင်ကြမ်း

ဆရာတော် ဆွမ်းခံဝင်စဉ် တခါတွင် မမျှော်လင့်ပဲ သစ်ကုမ္ပဏီမှ အမုန်ယစ်သော ဆင်ကြမ်းတကောင်နှင့် ရင်ဆိုင်မိ၏၊ ဆင်ရိုင်းသည် ဆရာတော်အား ရန်ပြုအံ့သော အမူအရာကို ပြသော်လည်း ဆရာတော်သည် ပကတိတည်ငြိမ်

သော ဏ္ဍန္တြေဖြင့် ကြွမြဲ ကြွတော်မူလေရာ ဆင်ရိုင်းသည်လည်း တစုံတခု ရန်မပြု တော့ပဲ သွားမြဲလမ်းဖြင့် သွားရဘူးသည်။

**ဆရာတော်နှင့်မြွေများ**

ဆရာတော်သည် ပခုက္ကူပထိုးတိုက်မှ သဲပုံစေတီတောင်,သဲပုံတောင်မှ ပထိုး တိုက်သို့ ကြိမ်ဖန်များစွာ နေ့ညဥ့်မရွေး ကြွမြဲဖြစ်ရာ တခါတွင် လမ်း၌ ခွေလျက် ရှိသော မြွေပွေးတကောင်ကို တက်၍နင်းမိ၏၊ မြွေပွေးသည် တစုံတခု ရန်ပြု မနေ မကိုက်မနှိပ်စက်လေပဲ ငြိမ်၍သာ နေခဲ့ဘူးသည်၊ ဤသို့ဖြင့် ဆရာတော်၏ မေတ္တာဓာတ်ကြောင့် မြွေသတ္တဝါများပင် ဆရာတော်ကို အန္တရာယ် မပြုကြ လေကုန်။

**ဆရာတော်နှင့်ကလေးများ**

ဆရာတော်ဆွမ်းခံဝင်ကြွစဉ် ကြွမည့်အိမ်ပေါက်နှင့် လမ်းတလျှောက်တို့၌ ဒကာ,ဒကာမများက အဝတ်အစား ခေါင်းပေါင်းများကို ခင်းပေးကြရုံသာ မက ကလေးသူငယ်တို့ပင် မိမိဝတ်သော ပုဆိုးငယ်တို့ကို ချွတ်၍ ခင်းကြကာ "ဆရာတော်ဘုရား တပည့်တော်တို့ပုဆိုးအခင်းများပေါ်တွင် နင်းကြွတော်မူပါ ဘုရား"ဟု လျှောက်ထားကြကုန်၏။

ဤသို့စသည့် အဖြစ်အပျက်များကား ဆရာတော်၏ စန္ဒကူး နှင်းခဲပေါင်း ထောင်သောင်းမက အေးမြသည့် သီလတန်ခိုးကြောင့် အံ့ဩဘွယ်ရာ အဖြစ် အပျက်များအဖြစ် မှတ်သားဖွယ်များ ဖြစ်လေသည်။

# ပခုက္ကူ သာသနာ့ရိပ်သာများ

ပခုက္ကူ၌ ပညာသင်ပြပေးရာ ဝိဇ္ဇာဌာနများ၊ ဝိဇ္ဇာပီဌများသာ မကဘဲ ကမ္မဋ္ဌာန်းဘာဝနာ ပွါးများအားထုတ်ရာ သာသနာ့ရိပ်သာများ၊ ကမ္မဋ္ဌာန်း ကျောင်းတိုက်များလည်း ရှိသည်၊ တခရိုင်လုံးတွင် အစိုးရအသိအမှတ်ပြု သာသနာ့ရိပ်သာ ၁၄-ခုရှိပြီး ပခုက္ကူမြို့ပေါ်၌ သာသနာ့ရိပ်သာ ကမ္မဋ္ဌာန်း တိုက် ၃-ခုရှိလေသည်၊ ၎င်းတို့မှာ—

၁။ မြစ်ကိုင်းရပ် မဟာသုခိတာရာမ သာသနာ့ရိပ်သာ

၂။ ပဟိုရ်စည်ကွက်သစ် သာသနာ့ရိပ်သာ (ဆရာတော် ဦးခေမိန္ဒ သာသနာ့ရိပ်သာဟုလည်း ခေါ်သည်။)

၃။ စွန်းလွန်း သာသနာ့ရိပ်သာ အားဖြင့် ၃-တိုက် ရှိလေသည်။

ထို ရိပ်သာသုံးခုအနက် မဟာသုခိတာရာမ သာသနာ့ရိပ်သာနှင့် ပဟိုရ်စည် ကွက်သစ် သာသနာ့ရိပ်သာများမှာ ရန်ကုန်မြို့ အဂ္ဂမဟာပဏ္ဍိတ မဟာစည် ဆရာတော်ဘုရားကြီး၏ သာသနာ့ရိပ်သာခွဲများ ဖြစ်ကြသည်၊ စွန်းလွန်း သာသနာ့ရိပ်သာမှာ မြင်းခြံမြို့ စွန်းလွန်းဂူကျောင်း အဆက်အနွယ် သာသနာ့ ရိပ်သာ ဖြစ်လေသည်၊ ပခုက္ကူခရိုင်အတွင်းရှိ ကမ္မဋ္ဌာန်းတရား ပွားများလိုသူ ရဟန်းရှင်လူတို့သည် ဖော်ပြပါ သာသနာ့ရိပ်သာများတွင် ချမ်းသာစွာ ကမ္မဋ္ဌာန်းတရား ပွါးများအားထုတ်နိုင်ကြသည်။

ယော စ ဝဿသတံ ဇီဝေ၊ အပဿံ ဥဒယဗ္ဗယံ။
ဧကာဟံ ဇီဝိတံ သေယျော၊ ပဿတော ဥဒယဗ္ဗယံ။

ခန္ဓာငါးပါးတို့၏ အဖြစ်အပျက်ကို မရှုမမြင်ဘဲ အနှစ်တရာ ပတ်လုံး အသက်ရှည်ရခြင်းထက် ခန္ဓာငါးပါးတို့၏ အဖြစ်အပျက်ကို မပြတ်ရှုမြင်သော ပုဂ္ဂိုလ်၏ တနေ့တရက်မျှ အသက်ရှင်ရခြင်းသည် ပို၍ မွန်မြတ်လေသည်။

(ပဋာစာရာထေရီဝတ္ထု၊ ဓမ္မပဒပါဠိတော်၊ သဟဿဝဂ်၊ ၃၀)

# သီလရှင် ကျောင်းတိုက်များ

သီဟိုဠ်ကျွန်း အနုရာဓမြို့သည် တချိန်က ဘိက္ခုနီမတို့ ပရိယတ်, ပဋိပတ် လေ့လာအားထုတ်ရာ ဘိက္ခုနီမကျောင်းတို့ဖြင့် ကျက်သရေရှိသကဲ့သို့ ပခုက္ကူမြို့ သည်လည်း သီလရှင်တို့ပျော်စံရာ ကျောင်းများ, ရိပ်သာများဖြင့်လည်း တမျိုး အချိုးကျ ပဏာရလှပါသည်။

ပခုက္ကူမြို့ အရှေ့မြောက်ပိုင်း သံခိပ်ရက်ကွက်သည် သီလရှင်တို့နေထိုင်၍ ပရိယတ်,ပဋိပတ် အားထုတ်ပွါးများရာအဖြစ် ထင်ရှားသည်၊ ဖော်ပြပါ သံခိပ် အရပ်၌ သီလရှင်ကျောင်းတိုက်ပေါင်း ၁၃-တိုက် ရှိလေသည်၊ သီလရှင် ကျောင်း တိုက်တိုင်း၌ သီလရှင်ဆရာကြီးတဦးစီ ဦးစီး၍ အုပ်ချုပ်ကာ ဂန္ထဓူရ,ဝိပဿနာဓူရ များကို စံနစ်တကျ ပွါးများအားထုတ်လျက် ရှိကြသည်၊ သီလရှင်တို့မှာ သဒ္ဒါ, သင်္ဂြိုဟ်, မာတိကာ ဓာတုကထာ, ယမိုက်, ပဌာန်း စသည်တို့ကို ချပို့သင်ကြား လျက် ရှိလေသည်၊ ပရိတ် ၁၁-သုတ်နှင့် ဓမ္မစကြာ, အနတ္တလက္ခဏာသုတ် စသည် တို့ကို နှုတ်ရဆောင်ကြကာ နံနက်,ည ဘုရားဝတ်ပြု၍ ရွတ်ဖတ် သရဇ္ဈာယ် ကြရသည်၊ သီလရှင်ကျောင်းတိုက် ၁၃-တိုက်ရှိရာ တချို့တိုက်တို့၌ ၁၀-ပါး, အပါး ၂၀-စသည်ရှိ၍ စုစုပေါင်းဦးရေမှာ ၂၀၀-ကျော် ၂၀၀-အတွင်းမှာ ရှိတတ် လေသည်။

### သီလရှင်တို့ စားဝတ်နေရေး

သီလရှင်တို့မှာ ၇-ရက်တပတ် အဖိတ်နေ့တိုင်း ဆွမ်းဆန်အလှူခံ ထွက်ကြရ သည်၊ ယင်းဆွမ်းဆန်ဖြင့် ချမ်းသာစွာ အသက်မွေးကြသည်၊ တချို့သီလရှင် များမှာ ဆွမ်းဆန်ဝတ် ရှိတတ်သည်၊ အသုဘကိစ္စများမှ သီလရှင်များကို ပင့်ဘိတ်တတ်ကြသဖြင့် အသုဘကိစ္စများမှ ဝတ္ထုငွေများ, ပိတ်စများလည်း ရတတ်သည်၊ မိန်းမဘဝ၌ ဘိက္ခုနီ မပြုလုပ်နိုင်သော ယခုခေတ်၌ သီလရှင်ဝတ်၍ ရှစ်ပါးသီလ, ကိုးပါးသီလ, ဆယ်ပါးသီလများကို စောင့်ထိန်းကြကာ ပရိယတ်, ပဋိပတ်များကို အားထုတ်ခြင်းသည် ချီးကျူးထိုက်သော လုပ်ငန်းဖြစ် လေသည်။

### သမိုင်းအကျဉ်း

သက္ကရာဇ် ၁၂၇၀-ပြည့်နှစ်တွင် မုံရွာ လယ်တီဆရာတော်ဘုရားကြီးသည် နောက်ပါ သံဃာတော် ၁၂-ပါးဖြင့် ပခုက္ကူမြို့သို့ ကြွရောက်ကာ ၁၂-ရက်ကြာ သီတင်းသုံးတော်မူ၍ ပရမတ္ထသံခိပ်ကို များစွာသောပရိသတ်တို့အား ပို့ချ

ဟောပြောတော်မူသည်၊ ထိုအချိန်မှစ၍ သံခိပ်အသင်းများဖွဲ့၍ အဘိဓမ္မာကို လေ့လာကြသည်၊ အမျိုးသမီးတချို့ သီလရှင် ဝတ်ကြသည်၊ သီလရှင်များနေထိုင်ရန် ပခုက္ကူဈေးသူဈေးသားများ စုဆောင်း၍ ဘုံကုသိုလ်သီလရှင်တိုက်ကို စ၍ဆောက်ကြသည်၊ လယ်တီဆရာတော်ကြီး သင်ပြသည့်သံခိပ်ကိုစွဲ၍ သီလရှင်ကျောင်းတိုက်သည် **သံခိပ်ကျောင်းတိုက်**ဟု တွင်သည်၊ နောက် တဖြည်းဖြည်း တိုးတက်ကြီးပွါး များပြားလာရာ သီလရှင်နေရာရပ်ကွက်တခုလုံး သံခိပ်ရပ်ကွက်ဟု အမည်ရလေသည်၊ လယ်တီဆရာတော်ဘုရားကြီးသည် ဦးဒီပ, ဦးကေသရ ဟူသော တပည့်နှစ်ပါးကိုလည်း ထားတော်မူခဲ့သည်၊ လယ်တီဆရာတော်ထံတွင် အစဆုံးဝတ်သော သီလရှင်များမှာ ဒေါ်စစ်မေ, ဒေါ်မကြီးတို့ ဖြစ်ကြသည်။ လယ်တီဆရာတော်ကြီး၏ လှုံ့လကြောင့် စာတတ် ပေတတ် သီလရှင် များမြောက်စွာ ပေါ်ထွန်းခဲ့သည်။

ပျင်းရိသဖြင့် ဝီရိယမရှိပဲ အနှစ်တရာပတ်လုံး အသက်ရှည်နေရခြင်းထက် ဝီရိယကို မြဲမြံစွာ အားထုတ်သူ၏ တရက်မျှ အသက်ရှင်ရခြင်းသည် မြတ်လှလေသည်။

ယော စ ဝဿသတံ ဇီဝေ၊ ကုသီတော ဟီနဝီရိယော။
ဧကာဟံ ဇီဝိတံ သေယျော၊ ဝီရိယမာရဘတော ဒဠှံ။

(ဓမ္မပဒပါဠိ၊သဟဿဝဂ္ဂ၊သပ္ပဒါသတ္ထေရ ဝတ္ထု၊၂၉)

# ပါဠိစကားပြော အဖွဲ့ကြီး

ဘာသာစကားတို့တွင် အချင်းချင်း နီးကပ်စွာ စပ်သွယ်နေသော ဘာသာစကားများမှာ ၆-မျိုး ရှိလေသည်၊ ၎င်းတို့မှာ—

၁။ သက္ကတဘာသာ

၂။ ပြာကြိုဋ္ဌဘာသာ

၃။ အပဗ္ဘံသဘာသာ

၄။ ပေသာစီဘာသာ

၅။ မာဂဓီဘာသာ

၆။ သောရသေနီဘာသာ--

အားဖြင့် ဘာသာ ၆-မျိုး ဖြစ်လေသည်။

သက္ကတံ ပြာကရိတဥ္စာ- ပဗ္ဘံသော စ ပိသာစိကီ။
မာဂဓီ သောရသေနီ စ၊ ဆ ဘာသာ ပရိကိတ္တိတာ။

(ပြာကရိတလက္ခဏာကျမ်း)

ဖော်ပြပါ ဘာသာ ၆-မျိုးအနက် မာဂဓီဘာသာခေါ် ပါဠိဘာသာကို သရုပ်ဖော်ဆောင်း တတ်မြောက်လျှင် ကျန် ၅-ဘာသာမှာ ကြိုးစားသူတို့အဖို့ လွယ်ကူစွာ တတ်မြောက်နိုင်သည်။

## ပါဠိဘာသာ၏ အခေါ်အဝေါ်များ

ပါဠိဘာသာကို—

အရိယာတို့ ခေါ်ဝေါ် ပြောဆို သုံးစွဲသည့်အတွက် အရိယာဘာသာ-ဟု ခေါ်သည်။ "အရိယကံ နာမ အရိယဝေါဟာရော မာဂဓဘာသာ" (ဝိ၊ ဋ္ဌ၊ ၁-၂၂၀။)

မဖောက် မပြန် မှန်ကန်သော သဘောရှိသော ဘာသာ ဖြစ်သဖြင့် သဘာဝနိရုတ္တိဘာသာ-ဟုလည်း ခေါ်သည်၊ "သဘာဝနိရုတ္တိတိ မာဂဓဘာသာ အဓိပ္ပေတာ" (မူလဋီ၊ ၂။ ၁၉၂။)

တန္တိဘာသာ-ဟုလည်း သုံးစွဲကြသည်၊"အာရောပယိတွာန တန္တိဘာသံ မနောရမံ" (ဓမ္မ၊ ဋ္ဌ၊ ၁။ ၂။)

တချို့နေရာ၌ ပကတိဘာသာ-ဟုလည်း သုံးစွဲကြသည်၊ "ပုဗ္ဗေ ပကတိ-ဘာသာယ ဝုတ္တံ အဋ္ဌကထံ သန္ဓာယ" (ဝဇိရ၊ ဋီ။ ၂၉၁။)

မူလဘာသာ-ဟုလည်း ခေါ်သည်။ "သမ္ဗုဒ္ဓံ မူလဘာသာယ၊ မာဂ-ဓာယ နိရုတ္တိယာ" (မဟာဝံသ၊ ၃၇။ ၂၄၄။)"မူလဘာသာယ သန္ဓေသေ၊ လိခါပေတွာန သာဓုကံ" (မဟာဝံသ၊ ၉၇။ ၉၃။)

ဓမ္မနိရုတ္တိ-ဟုလည်း ခေါ်ရသည်။"ဓမ္မနိရုတ္တာဘိလာပေ ဉာဏံ" (အဘိ၊ ၂။ ၃၀၇။)

မဂဓတိုင်းသူတို့ ပြောဆို သုံးစွဲသော ဘာသာဖြစ်သဖြင့် မာဂဓ-ဘာသာ-ဟုလည်း ခေါ်သေးသည်။ "သမ္မာသမ္ဗုဒ္ဓေါပိ တေပိဋကံ ဗုဒ္ဓဝစနံ တန္တိံ အာရောပေန္တော မာဂဓဘာသာယ ဧဝ အာရောပေတိ" (အဘိ၊ ဋ္ဌ၊ ၂။ ၃၇၂။)

## ပါဠိဘာသာနှင့် သီဟိုဠ်ကျွန်း

သီဟိုဠ်ကျွန်း၌လည်း ရှေးက ပါဠိဘာသာ လွန်စွာခေတ်စားခဲ့သည်၊ တချို့က သီဟိုဠ်ကျွန်းဖြစ်ဟုပင် ဆိုကြသေးသည်၊ တချို့ပါဠိတော်များ၌ စုဏ္ဏိယ အားလျော်စွာ ပါဠိဂါထာများကို ရေးသား၍ သီဟိုဠ်သားတို့ လက်စွမ်းပြခဲ့ကြသည်၊ သီဟိုဠ်ဆရာတော်တို့ အဆက်ဆက်ရေး ဂါထာ တသောင်းကျော်ရှိ မဟာဝံသကျမ်းကြီးမှာ သီဟိုဠ်နိုင်ငံ၏ ပါဠိဘာသာ ထွန်းကားခဲ့ပုံ သက်သေ သာဓကတခုပင် ဖြစ်သည်၊ ယခုတိုင် သီဟိုဠ်ကျွန်း၌ ပါဠိဘာသာ ထွန်းကားဆဲ ဖြစ်သည်၊ ပါဠိဘာသာသည် သီဟိုဠ်ဘာသာနှင့် နီးစပ်သဖြင့် သီဟိုဠ်သားတို့ အဖို့ ခဲရာခဲဆစ် မဟုတ်ကြပေ၊ ယခုခေတ် သီဟိုဠ်ပါဠိသင်ရာ ဝိဇ္ဇာပီဌများမှာ ဝိဒ္ဓေါဒယတက္ကသိုလ်, ဝိဇ္ဇာလင်္ကာရတက္ကသိုလ်စသည်တို့ ဖြစ်ကြသည်၊ ပါဠိ-ဘာသာကို ဖတ်စာစနစ်ဖြင့် သင်ကြရသဖြင့် နက်နက်နဲနဲ မတတ်ကြသည့်တိုင် အောင် ပြောတတ်, ဆိုတတ်, ရေးတတ်ကြလေသည်။

## မြန်မာပြည်နှင့် ပါဠိဘာသာ

အမိမြန်မာနိုင်ငံ၌လည်း ပါဠိဘာသာ ထွန်းကားခဲ့ကြောင်း မြန်မာပြည် ဖြစ် သဒ္ဒနီတိစသော ဗျာကရုဏ်းကျမ်း, သဒ္ဒါငယ်ကျမ်း, အဘိဓမ္မာဋီကာစသော များမြောက်စွာသော ကျမ်းစာတို့ဖြင့် ပေါ်လွင်သည်၊ တချိန်က ပုဂံပြည်၌ ရဟန်းတော်များသာ မကပဲ အမျိုးသမီးများပင် ပါဠိဘာသာ ကျွမ်းကျင် တတ်မြောက်ကြကြောင်း "သာသနဝံသပ္ပဒီပိကာ"စသော ကျမ်းတို့ဖြင့် သိသာ နိုင်ပေသည်။

ထိုခေတ်က အမျိုးသမီးတယောက်က အမျိုးသမီး တယောက်အား 'ဣဒါနိ တွံ ကိတ္တကံ ဂန္ထံ ဝါစုဂ္ဂတံ ကရောသိ=ယခု ညီး ကျမ်းစာများ ဘယ်လောက် အရ ကျက်ထားသလဲ'ဟု မေး၍ ထိုအမေးခံရသော အမျိုးသမီးက 'အဟံ ပန ဣဒါနိ ဒဟရပုတ္တေဟိ ပလိဗောဓတ္တာ ဗျာကုလံ ပတ္တာ ဗဟုံ ဂန္ထံ ဝါစုဂ္ဂတံ ကာတုံ န သက္ကာ၊ သမန္တမဟာပဋ္ဌာနေ ပန ကုသလတ္တိကမတ္တံဝ ဝါစုဂ္ဂတံ ကရောမိ=ရှင်မရေ....ငါကတော့ ယခုဆို ကလေးငယ်တွေနဲ့ အလုပ်ရှုပ်သဖြင့် စာများများ မကျက်ဆောင်နိုင်တော့ဘူး၊ အနန္တနယသမန္တပဋ္ဌာန်းကျမ်းတော်ကြီးထဲမှ ကုသလတိက်လောက်ပဲ ကျက်နိုင်တော့တယ်'ဟု အဖြေပေးလေသည်။

ထိုခေတ်ကပင် ရဟန်းတပါး ဆွမ်းခံဝင်စဉ် ၁၂-နှစ်အရွယ် ကလေးမလေးက ပါဠိဘာသာဖြင့် မေးသည်မှာ "ကိန္နာမော သိ တွံ ဘန္တေ=အရှင်ဘုရား ဘွဲ့တော် ဘယ့်နှယ်ခေါ်ပါသလဲ"၊ ထိုအခါ ဘုန်းကြီးက အဖြေပေးသည်မှာ "ခေမာ-နာမာဟံ=ဘုန်းကြီးနာမည် ခေမာပေါ့"၊ "ကထံ ဟိ ဘန္တေ ပုမာဝ သမာနော ဣတ္ထိလိင်္ဂေန နာမံ အကာသိ=အရှင်ဘုရား ယောကျ်ားဖြစ်ပါလျက် ဣတ္ထိလိင် နာမည် ဘာကြောင့်မှည့်ပါသလဲ"ဟု မေးစဉ်တွင် အိမ်တွင်း၌ ထိုင်နေသော မိခင်က "ညီးဟာ ရာဇာဒိဂိုဏ်း လက္ခဏာ မသိဘူးလား"ဟု မေး၍ သမီးက "အမေရယ် သမီး သိတာပေါ့၊ အဲဒီ ခေမ-သဒ္ဒါဟာ ရာဇာဒိဂိုဏ်းလက္ခဏာ မရဘူး အမေ"ဟု ပြောပြန်လေရာ အမေက ခေမ-သဒ္ဒါ ရာဇာဒိဂိုဏ်း တစိတ် ဖြစ်ကြောင်း ပြောပြရလေသည်၊ ဤသို့ စသည်ဖြင့် မြန်မာပြည်၌ တချိန်က အမျိုးသမီးတို့ပင် ပါဠိဘာသာကို တတ်ကျွမ်းခဲ့ကြသည်။

## ပါဠိစကားပြော အဖွဲ့ကြီး

အမိမြန်မာနိုင်ငံ၌ အကြီးကျယ်ဆုံး ပါဠိသင်ရာ, ပိဋကတ်သင်ရာ ဝိဇ္ဇာပီဌမှာ ပခုက္ကူ မဟာဝိသုတာရာမ တိုက်ကြီး ဖြစ်သည်၊ မဟာဝိသုတာရာမ တိုက်ကြီး၌ နိကာယ်ငါးရပ်ကို သင်ယူကြပြီး လက်တွေ့ ပါဠိရေးတတ်, ပြောတတ်ရန် ရည်ရွယ်၍ ၁၂၉၄-ခုနှစ်က တည်ထောင်ခဲ့သော ပါဠိစကားပြောအဖွဲ့ကြီး ရှိခဲ့ဘူးသည်၊ အဖွဲ့ကြီး၏ တည်ရဌာနမှာ ပခုက္ကူ မဟာဝိသုတာရာမတိုက် တိလောကာ-လင်္ကာရကျောင်း ဖြစ်သည်၊ ၎င်းအဖွဲ့ကြီး၌ အဖွဲ့ဝင်ရဟန်းတော်များမှာ ပါဠိကို ပြောတတ်ရန် လေ့လာရခြင်း, ပြောတတ်လာလျှင် ပို၍ ပါဠိစကားပြော ကောင်းသူ ဖြစ်အောင် လေ့လာရခြင်း,လက်ရေးဖြင့် တိုက်တွင်း၌ ဖြန့်ဝေသည့် **သယံလေခ ပါဠိမဂ္ဂဇင်း**တွင် ပါဝင်၍ ရေးရခြင်း စသည်တို့ကို ပြုလုပ်ကြရသည်၊ အဆိုပါ ပါဠိစကားပြောအဖွဲ့ဝင်တို့၏ ဆောင်ပုဒ်ကား—

"ပါဠိဘာသာ နာမ သမဏဘာသာ။
ယဒိ သက္ယပုတ္တော ဘဝေယျ၊ ဗုဒ္ဓဝစနံ ဘာသတု။"

"ပါဠိဘာသာစကားဆိုဒါ ရဟန်းတော်တို့၏ ဘာသာစကား ဖြစ်သည်၊ သာကီဝင်မင်းသား ဘုရားသားတော်ဆိုလျှင် ဘုရားစကား ပြောပါ၊ ဘုရားစကား ပြောတတ်ပါစေ" ဟူသော ဆောင်ပုဒ်ပင် ဖြစ်သည်၊ ပါဠိအသင်းကြီး၏ ဥက္ကဋ္ဌမှာ သီဟိုဠ်ရှင် ဘုရားကြီးတိုက် ဆရာတော် အရှင်နန္ဒဝံသမဟာထေရ် ဖြစ်သည်၊ ဆရာတော်မှာ ထိုစဉ်က ပါဠိအလေ့အကျက်ကြောင့် ပါဠိစကားပြော ကောင်းသော ဆရာတော်ဟု ထင်ရှားသည်၊ ပါဠိစကားပြောအဖွဲ့ကြီး၏ အတွင်းရေးမှူး ရဟန်းတော်များမှာ အရှင်သုမင်္ဂလထေရ်နှင့် အရှင်ဥတ္တမထေရ် (ယခု ဗုဒ္ဓ ဓမ္မ လောက တရားသတင်းစာ အယ်ဒီတာ စာရေးဆရာ မင်္ဂလာ ဦးအောင်မြင့်) တို့ ဖြစ်ကြကြောင်း—

> "**နန္ဒဝံသော** တဒါ ဗျတ္တော၊ ဥက္ကဋ္ဌော သဗ္ဗပုင်္ဂဝေါ။
> **မင်္ဂလော ဥတ္တမော** စေဝ၊ လေခကာ မာဂဓီ ဝိဒူ"—

ဟူသော ဂါထာဖြင့် မော်ကွန်းထိုးအပ်ပါသည်။

ဘုံပျံဆရာတော် ကျောင်းကြီးတိုက် ကြည့်မြင်တိုင် ရန်ကုန်, ပဌမကျော် လယ်တီ ဦးကောဝိဒ, ဆရာတော်ဦးမာဃိန္ဒ စာချအကျော် မဟာဝိသုတာရာမ တိုက်, အရှင်နန္ဒိယမဟာထေရ် (ယခု တိုက်အုပ်ဆရာတော်), အရှင်ဉာဏဗလ (ယခု အေဗွီကောလိပ် ကျောင်းအုပ်ကြီး ဦးစိန်ရွှေ ရန်ကုန်), အရှင်နာယက စာချဆရာတော် ဈေးကျောင်း မဟာဝိသုတာရာမတိုက် စသည့် ဆရာတော် တို့သည် ထိုစဉ်က ပါဠိစကားပြောအဖွဲ့ချုပ်ကြီး၌ စကားပြောကောင်းသည့် အဖွဲ့ဝင်ဆရာတော်များ ဖြစ်ကြသည်။

> ယံ ဗုဒ္ဓေါ ဘာသတေ ဝါစံ၊ ခေမံ နိဗ္ဗာနပတ္တိယာ။
> ဒုက္ခဿန္တကိရိယာယ၊ သာ ဝေ ဝါစာန'မုတ္တမာ။

ဘုရားမြတ်စွာသည် ဘေးဘယတို့မှ ဝေးကွာရာ ဖြစ်သည့် နိဗ္ဗာန်အောင်မြို့ ရောက်ဖို့ရန်, ဝဋ်ဒုက္ခအဆုံးကိုပြုရန် အကြင်စကားတော်ကို ဟောတော်မူ၏၊ ဘုရားရှင် ပါဠိဘာသာဖြင့် ဟောမိန့်အပ်သော ထိုစကားတော်သည် စကား အားလုံးတို့အနက် အမြတ်ဆုံးဖြစ်သည်။

(သဂါထာဝဂ္ဂ သံယုတ္တပါဠိ၊ သုဘာသိတသုတ္တ၊ ၁၉၁)

# ဆွမ်းလောင်းသင်းများ

## ကုသလဝါယာမ ဆွမ်းလောင်းအသင်း

ကုသလဝါယာမဆွမ်းလောင်းအသင်းသည်ပခုက္ကူစာသင်သားရဟန်းတော်တို့အား မိဘပမာ လွန်စွာ ကျေးဇူးဥပကာရရှိသော အသင်းကြီး ဖြစ်လေသည်၊ ၁၂၆၅-ခုနှစ်တွင် မဟာဝိသုဒ္ဓါရာမစာသင်တိုက် တည်ထောင်လျက် ကျေးဇူးရှင် ရေစကြိုဆရာတော်ဘုရားကြီး ကြွလာသီတင်းသုံးတော်မူ၍ ပိဋကတ် ၃-ပုံကို အဋ္ဌကထာ, ဋီကာ တွဲဖက်၍ ချပို့သင်ပြပေးတော်မူသည်မှစ၍ ပခုက္ကူ၌စာသင်သားရဟန်းတော်တို့ တနေ့တခြား လွန်စွာ များပြားလာလေသည်၊ ၁၂၈၀-ပြည့်နှစ်လောက်တွင် မြို့ပေါ်၌ သံဃာဦးရေ ၂၀၀၀-ကျော်လောက် ရှိလာ၍ သံဃာတချို့ ဆွမ်းရေးအတွက် အခက်ကြုံကြရသည်။

## ဆွမ်းလောင်းအသင်းပေါ်ပေါက်လာပြီ

သဒ္ဓါတရားနှင့်ပြည့်ဝသည့် ဗုဒ္ဓဘာသာဝင် သူတော်စင် သူတော်ကောင်းများဖြစ်သော ဈေးဟောင်းရပ်နေ ကွယ်လွန်သူ ဦးဘိုးကောင်း, ဦးခင်မောင်ကြီး, ကိုလှဖေ အစရှိသော ဥပါသကာကြီးတို့သည် ဆရာတော် အရှင်ပညာ, အရှင်နန္ဒဝံသ စသော တိုက်အုပ်ဆရာတော်များထံ ချဉ်းကပ်၍ လျှောက်ထားပြီး ဆရာတော်များပေးအပ်သော "ကုသလဝါယာမဆွမ်းလောင်းအသင်း"ဟူသော နာမည်ကို အသုံးပြု၍ ၁၂၈၀-ပြည့်နှစ်၌ သန့်ရှင်းမွန်မြတ်လှသော သဒ္ဓါတရားဖြင့် ကုသလဝါယာမ ဆွမ်းလောင်းအသင်းကြီးကို စတင်တည်ထောင်လေသည်၊ အသင်းဝင်လူငယ်များ၏ စေတနာကို သိမြင်ကြသော သူတော်စင်တို့သည် ဆွမ်းဆန်နှင့် ဝတ္ထုငွေများ လှူဒါန်းကြသည်၊ ပခုက္ကူမြို့ ကျွဲတဲရွာ သစ်စက်ပိုင်ရှင် ဦးမောင်းကလည်း ၃၀၀၀-ကျော်တန် အသင်းရုံ အဆောက်အဦတဆောင် လှူဒါန်းရာ ၁၂၈၂-ခုနှစ်တွင် အမြဲနိစ္စဘတ် ဆွမ်းလောင်းအသင်း ဖြစ်လာသည်။

အသင်း၏ အမှုဆောင်လူကြီးတို့သည် အမြို့မြို့အရွာရွာသို့ ဆွမ်းဆန်အလှူခံထွက်ကြကာ သံဃိကဆွမ်း လောင်းလှူကြသည်၊ အသင်းတည်စတွင် တပတ် ၁-ကြိမ်မှစ၍ ၂-ကြိမ် ၃-ကြိမ်တိုင် လောင်းလှူလာခဲ့ကြရာ နောင်တွင်မှ အမြဲတမ်း နေ့စဉ် လောင်းလှူနိုင်ကြလေသည်၊ ဆန်တတင်းမှ ၂-တင်း ၃-တင်း ၄-တင်းခွဲအထိ သံဃာဦးရေလိုက်၍ လောင်းလှူခဲ့ကြသည်၊ ပဌမဆုံး ဆွမ်းလောင်းအသင်းဥက္ကဋ္ဌမှာ ကျောင်းဒါယကာကြီး ဦးရွှေပိုင် ဖြစ်လေသည်၊ ၁၃၀၂-ခုနှစ်တွင် ဒုတိယကမ္ဘာစစ်ကြီး မီးဒဏ်ကြောင့် ဆွမ်းလောင်းအသင်းရုံ




ကုသလဝါယာမ ဆွမ်းလောင်းအသင်း

ပျက်စီးရုံမျှမက ၃-နှစ်ကြာမျှ ရပ်ဆိုင်းထားခဲ့ကြရပြီး ၁၃၀၇-ခုနှစ်မှစ၍ ဆွမ်းလောင်းနိုင်ကြပြန်သည်၊ ၁၃၀၉-နှစ်တွင် အုဋ္ဌကုသိုလ်ရှင် **ဒေါ်ဝ,** သစ်သားကုသိုလ်ရှင် **ဦးစိန်ဘန်း** စသူတို့၏ သဒ္ဓါတရားကြောင့် ငွေ-၇၀၀၀ဝိ လောက်တန် ဘုံကုသိုလ် ဆွမ်းလောင်းအသင်းရုံ ပေါ်လာခဲ့ပြန်၍ အသင်းရုံအတွင်း အချိုးကျကျ တင့်တင့်တယ်တယ် ဖွယ်ဖွယ်ရာရာ သက္ကစ္စမြောက် ဆွမ်းလောင်းကြရလေသည်။

တဖန် ၁၃၁၉-ခုနှစ် တန်ခူးလ၌ မြို့လုံးကျွတ်မီးတွင် ဆွမ်းလောင်းရုံနှင့်တကွ ရှင်အရဟံ ပိဋကတ်တိုက်မှ ပိဋကတ်စာပေ ၅၀၀ဝိ-ကျော်ဘိုးပါ ပျက်စီးဆုံးပါခဲ့ရသည်၊ တဖန် ၁၃၂၂-ခုနှစ်တွင် ၂-သောင်းကျော်တန် ဆွမ်းလောင်းရုံ အုဋ္ဌတိုက်ကြီးကို အများ၏ကုသိုလ်ဖြင့် တည်ဆောက်ပြီးစီး၍ အစဉ်မပြတ် ကြိုးပမ်းရှာဖွေ အလှူခံကာ ဆွမ်းလောင်းလျက်ရှိနေသေးရာ အခါကောင်းကြုံကြိုက်ခိုက်တတ်အားသမျှ ကုသိုလ်ပါဝင် လှူဒါန်းသင့်ကြပေသည်၊ ရုံဖန်ရုံခါ ဟင်းလျာများဖြင့် လောင်းလှူ၍ နှစ်ပတ်လည်တကြိမ် စာရေးတံမဲလိပ်ဖြင့် သင်္ကန်း, ပရိက္ခရာ,ထီး,ဘိနပ်,စာအုပ် စသည်များကိုလည်း မြို့လုံးကျွတ် သံဃာတော်မြတ်တို့အား မဲချ၍ လှူဒါန်းကြလေသည်။

## ဆွမ်းလှူရကျိုး အဘိရူပနန္ဒာထေရီ

အဘိရူပနန္ဒာထေရီမ လောင်းလျာသည့် ဗန္ဓုမမင်းကြီး၏ မိဖုရားဖြစ်စဉ်က ရဟန်းတပါးကို ဆွမ်းတသပိတ်လှူခဲ့သည့်ကောင်းမှုကြောင့် တာဝတိံသာနတ်ပြည်၌ ဖြစ်ရသည်၊ သိကြားမင်း၏ မိဖုရားအကြိမ်-၁၀၀၀, စကြာမင်း၏ မိဖုရားအကြိမ်-၁၀၀၀ ဖြစ်ခဲ့သည်၊ သာမန် ဧကရာဇ်မင်းတို့၏ မိဖုရားဘဝကိုကား ဂဏန်းချ၍ မရခဲ့ပေ၊ ဂေါတမဘုရား လက်ထက်တွင် သာကီဝင်မင်းမျိုး၌ဖြစ်၍ ဘိက္ခုနီမ ပြုလုပ်ကာ အာသဝေါကင်းကွာ ရဟန္တာမဖြစ်၍ နိဗ္ဗာန်ဝင်လေသည်။

(ထေရီဂါထာ အဋ္ဌကထာ၊ ၂၇)

## ဥဗ္ဗိရိထေရီ

ထေရီမလောင်းလျာသည် ပဒုမုတ္တရ ဘုရားရှင်လက်ထက်က ရဟန္တာမထေရ်တပါးအား ဆွမ်းတသပိတ်လှူသည့်အတွက် နတ်ပြည်,လူ့ပြည်တို့၌ချည်း ဖြစ်ရသည်၊ ဂေါတမဘုရားလက်ထက်တွင် ဥဗ္ဗိရိအမည်ဖြင့် ဘိက္ခုနီမ ပြု၍ အာသဝေါကင်းကွာ ရဟန္တာမ ဖြစ်ပြီး နိဗ္ဗာန်ဝင်စံခဲ့သည်။

(ထေရီဂါထာ အဋ္ဌကထာ၊ ၅၅)

ဤဝတ္ထုသာကေတို့ကိုထောက်၍ စာရှုသူ ဒကာ,ဒကာမတို့သည် သံဃာတော်အား တတ်စွမ်းသမျှ ဆွမ်းလောင်းလှူ လုပ်ကျွေးကြရာသည်။

## သာသနာနုဂ္ဂဟဆွမ်းလောင်းအသင်း

သာသနာနုဂ္ဂဟ ဆွမ်းလောင်းအသင်းသည် ပခုက္ကူပိဋကတ်သင် ရဟန်းတော်တို့အား အရဏ်ဆွမ်း လောင်းလှူ၍ သာသနာပြုနေသော အသင်းဖြစ်လေသည်။

## နံနက်ခင်း စာဝါနှင့် သာသနာနုဂ္ဂဟဆွမ်း

ပခုက္ကူ ရဟန်းတော်များနှင့် သာမဏေများမှာ များသောအားဖြင့် ၁၀-နာရီခွဲ ၁၁-နာရီလောက်ကျမှ ဆွမ်းဘုဉ်းပေးကြပါသည်၊ နံနက်ခင်း အရဏ်ကျင်းစတွင် သာသနာနုဂ္ဂဟ ဆွမ်းလောင်းအသင်းမှ လောင်းလှူသည့် ဆွမ်းကို ဘုဉ်းပေးကြရသဖြင့် ဆွမ်းခံမသွားခင် ကျက်စရာစာများ ကျက်နိုင်ကြသည်၊ ဆွမ်းခံပြန် ၈-နာရီခွဲ စာဝါကိုလည်း ချမ်းချမ်းသာသာ ဆိုနိုင် လိုက်နိုင်ကြသည်၊ ထို့ကြောင့် သာသနာနုဂ္ဂဟ ဆွမ်းလောင်းအသင်းသည် ပခုက္ကူစာသင်သား ရဟန်းတော်နှင့် ရှင်သာမဏေတို့အား အလွန်တရာမှ ကျေးဇူးဥပကာရ ကြီးမားသည့် ဆွမ်းလောင်းအသင်း ဖြစ်လေသည်၊ အသင်းဝင် ဒကာ, ဒကာမတို့၏ အဖိုးတန် သဒ္ဓါတရားမှာလည်း များစွာ ချီးကျူးစရာကောင်းလှပေသည်။

## သမိုင်းအကျဉ်း

ရတနာသုံးပါးကို လွန်စွာ လေးစားကြည်ညိုကြသော ကုက္ကိုတန်းရပ်, ဝါးတန်းရပ်, မုံညင်းစုရပ်ရှိ သူတော်စင် သူတော်ကောင်းကြီးများ ဖြစ်ကြသော ကွယ်လွန်သူ ဦးစံမြ, ဦးအောင်ညိမ်း, ဦးချစ်ဦး, ဦးဘိုးထူး, ဦးပေါ်သင်း, ဦးဘိုးချမ်း အစရှိသော လူကြီးမင်းတို့သည် ၁၂၈၈-ခုနှစ် သီတင်းကျွတ် လဆန်း ၁၀-ရက်နေ့တွင် ဦးလှဘော်၏နေအိမ်၌ စည်းဝေးတိုင်ပင်ကြပြီး "သာသနာနုဂ္ဂဟဆွမ်းလောင်းအသင်းကြီး" ကို စတင် ဖွဲ့စည်း တည်ထောင်ခဲ့လေသည်၊ ရှေးဦးစွာ ဆွမ်းလောင်းအသင်း၏ နေရာဌာနကို ကုက္ကိုတန်းရပ် ဦးပေါ်သင်း-ဒေါ်လှကြွယ်တို့၏ တိုက်ထောင့်တွင် ယာယီဆွမ်းလောင်းအသင်းဌာန' အဖြစ် သတ်မှတ်ကြကာ ၁၂၈၈-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့မှ အစပြု၍ အရပ်လေးမျက်နှာမှ ကြွရောက်လာကြသော သံဃာတော် အရှင်မြတ်တို့အား ၁-တင်းချက် ဆွမ်းမှစ၍ နေ့စဉ်မပြတ် ပိဏ္ဍပါတ်အရဏ်ဆွမ်းကို ချက်ပြုတ်လောင်းလှူကြလေသည်။

## ဆွမ်းဆန်တော်အလှူခံထွက်ခြင်း

အသင်းသူ, အသင်းသားများသည် ကောင်းမြတ်သော သမ္မာဆန္ဒဖြင့် မြို့ပေါ်နှင့် ခရိုင်အတွင်းရှိ ကုသိုလ်ရှင်များထံမှ အလှူခံ၍ လောင်းလှူခဲ့ကြရ



သာသနာ့နုဂ္ဂဟဆွမ်းလောင်းအသင်း

ဆွမ်းဆန်များ တနှစ်ထက်တနှစ် တိုးတက်၍ရရှိသဖြင့် နေ့စဉ်ဝါပြဲ ၃-တင်းခွဲ, ဝါတွင်း၌ ၄-တင်းခွဲအထိ ချက်ပြုတ် လောင်းလှူရုံမျှမက ဝါတွင်း အဖိတ်နေ့များတွင် ဟင်းလျာများဖြင့်ပင် လောင်းလှူ၍ ကိုးကြားကိုးကြား ဟင်းနှင့် လောင်းလှူလိုသူများ ပေါ်ပေါက်သောအခါ အသင်းဝင် ဥပါသကာ, ဥပါသိကာတို့က ဆောင်ရွက်ပေးကြ၍ လွယ်ကူစွာ လောင်းလှူနိုင်ကြလေသည်။

## အသင်းရုံတော်

၁၃၁၁-ခုနှစ်တွင် အသင်းဥက္ကဋ္ဌကြီး ဘုရားဒကာ, ကျောင်းဒကာ, ရဟန်းဒကာကြီး ဦးဘိုးထင် နှင့် ဒေါ်နန်း-တို့ လှူဒါန်းသော မြေကွက်လပ်တွင် ဆွမ်းလောင်းအသင်း ရုံပုံငွေတချို့နှင့် ဥက္ကဋ္ဌကြီး ဦးဘိုးထင်, ငွေထိန်းလူကြီး ဘုရားဒကာ, ကျောင်းဒကာ, ရဟန်းဒကာ ပွဲစားကြီး ဦးဘိုးထူး, အမှုဆောင် လူကြီး ဦးဘိုးဝေတို့၏ ထက်သန်လှသော စေတနာဖြင့် ၈၀၀၀ိ - ကျော်တန် ဆွမ်းလောင်းအသင်းရုံကို ဆောက်လုပ်လှူဒါန်းကြသည်၊ အသင်းကြီး၏ အစဆုံး ဥက္ကဋ္ဌမှာ ကုက္ကိုတန်းရပ် ပွဲစားကြီး ဦးဘိုးထူး ဖြစ်၍ ယခုလက်ရှိ ဥက္ကဋ္ဌမှာ ထန်းမကောက်ရပ် ကျောင်းအုပ်ဆရာကြီး ဦးဘညွန့် ဖြစ်လေသည်၊ သာသနာနုဂ္ဂဟဆွမ်းလောင်း အသင်းကြီး၌ အမှုဆောင်လူကြီး ၃၅-ဦးရှိပြီး အသင်းဝင် ဥပါသကာ, ဥပါသိကာပေါင်းမှာ ၁၅၀-ရှိလေသည်။

## ဆွမ်းအကျိုးဆယ်ပါး

ဒီဃာယုက၊ သုဝဏ္ဏနှင့်၊ ဗလကြီးမား၊ ချမ်းသာများလျက်၊
လျှင်လျားပညာ၊ ငါးဖြာမယုတ်၊ ဆွမ်းကျိုးထုတ်၍၊ အင်္ဂုတ္တရ၊ ပဥ္စကနိပါတ်၊ မိန့်လတ်တဝ၊ မိလိန္ဒဟု၊ ဝတ္ထုပဒါန်၊ အလိုပြန်သော်၊ နှစ်တန်ပါန၊ ဆွမ်းလှူရမူ၊ ပုဗ္ဗနိသင်၊ ကျိုးငါးအင်ဝယ်၊ ဖြူစင်သန့်ရှင်း၊ ထမင်းအဖျော်၊ ပူဇော်များလှ၊ လှုံလရုံခြေ၊ ဇလန္ဓေနှင့်၊ ငါးထွေထည့်ငြား၊ ကျိုးဆယ်ပါးဟု၊ ပိုင်းခြားမိန့်ဆို လေသတည်း။

(သမ္ဗန္ဓဒေါသာဒိဒီပနီကျမ်း မှ)

သာသနေ သောဏ္ဏသေလမှိ၊ ဟေမဟံသာဝ မောဒရေ။
ဘိက္ခဝေါ သီလသမ္ပန္နာ၊ ဒါယကာ စ မဟပ္ဖလာ။

သောဏ္ဏသေလမှိ၊ ရွှေတောင်ကြီးနှင့်တူသော။ သာသနေ၊ သာသနာတော်မြတ်၌။ သီလသမ္ပန္နာ၊ သီလနှင့်ပြည့်စုံတော်မူကြကုန်သော။ ဘိက္ခဝေါ၊ ရဟန်း

တော်အများ ဘုရားသားတော်တို့သည်။ ဟေမဟံသာဝ၊ ရွှေဟသ်ာတို့ကဲ့သို့။ မောဒရေ=မောဒန္တိ၊ ရွှင်လန်းမွေ့လျော်တော်မူကြကုန်၏၊ဒါယကာစ၊သာသနာ တော်တည်းဟူသော ရွှေတောင်၌ ရွှေရောင်အဆင်း ရွှေဟသ်ာနှင့်တူသော ရဟန်းတော် အရှင်မြတ်တို့အား ဆက်ကပ်ကြည်ဖြူ လှူဒါန်းသူ အပေါင်း သူတော်ကောင်း တို့သည်လည်း။ မဟာဖ္ဖလာ၊ ကြီးမားသောအကျိုး ရှိကြလေ ကုန်၏။

(လယ်တီဆရာတော်)

# ပခုက္ကူမြို့
# သံဃဆေးရုံကြီး

ပခုက္ကူ ပိဋကတ်အတတ်မြို့တော်၌ နိကာယ်ငါးရပ် ပိဋကတ်ကို သင်ယူလေ့လာရန် ရောက်ရှိလာကြသော စာသင်သား ရဟန်းတော်များ နေမကောင်း ထိုင်မသာ ရှိခဲ့သော် လွယ်လင့်တကူ တက်ရောက်ကုသနိုင်ရန် ဘုရားလောင်း ပမာ ကရုဏာတရား ကြီးမားတော်မူသော ကျေးဇူးရှင် အဘိဓဇမဟာရဋ္ဌဂုရု, အဂ္ဂမဟာပဏ္ဍိတ, ဂဏမဟာဝိနာယက, ဓမ္မသေနာပတိ အရှင်သုန္ဒရ ဆရာတော်ဘုရားကြီးသည် ခုတင် ၁၂-လုံးဆံ့ သံဃဆေးရုံကို သက်ဆိုင်ရာ ဒကာ, ဒကာမတို့၏ အကူအညီဖြင့် ငွေ - ၃၄၆၄၀ိ ကျခံ၍ ဆောက်လုပ်စေခဲ့ပြီး အစိုးရ အား အပ်နှင်းခဲ့သည်၊ ပခုက္ကူမျော် သံဃာတော်တို့အား ဤသံဃဆေးရုံက သက်တော်စောင့်ပမာ ရောက်ရှိလာသမျှ သံဃာတော်တို့၏ ဝေဒနာကို ပျောက်ကင်းအောင် ကုသစောင့်ရှောက်ပေးလေသည်၊ ပခုက္ကူသာသနာဝင်တွင် ဥဒါန်းတွင်ရစ်မည့် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး၏ တန်ဖိုးကြီးလှသည့် ဆေးရုံဖွင့်ပွဲ မိန့်ခွန်းတော်ကို ထုတ်ပြအပ်ပါသည်။

### အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရ ဆရာတော်ဘုရားကြီး၏ သံဃဆေးရုံဖွင့်ပွဲ မိန့်ခွန်းတော်

မဟာကရုဏာတော်အရှင် ဖြစ်တော်မူတဲ့ သဗ္ဗညုဘုရားရှင် ကိုယ်တော်မြတ်ကြီးဟာ မိမိသာသနာတော်သို့ ခိုဝင်လာရောက်ပြီး သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူကြတဲ့ သာသနာ့ဝန်ထမ်း ရဟန်းတော်များအတွက် မကျန်းမမာ ဖျားနာတဲ့အခါ မှီဝဲသုံးဆောင်ရန်, ကုစားနိုင်ရန်—

"ပူတိမုတ္တဘေသဇ္ဇံ နိဿာယ ပဗ္ဗဇ္ဇာ" စသည်ဖြင့် နွားကျင်ပုတ်၌ စိမ်ထုံအပ်တဲ့ သျှိသျှားသီး, ဖန်ခါးသီးများကို အစပြုပြီး ထောပတ်,ဆီဦး, ပျား, တင်လဲများတိုင်အောင် သပ္ပါယဖြစ်လောက်သည့် ဆေးအမျိုးမျိုးတို့ကို အဆွေမတော်သူ မဖိတ်ကြားသူများ အထံ၌ပင် ဝိညတ်,ပရိကထာ,နိမိတ်,ဩဘာ ဆိုတဲ့ ပကတိရဟန်းတို့ မပြုကောင်း မလုပ်ကောင်းတဲ့ အမှုအရာတို့ဖြင့် တောင်းခံသုံးဆောင်ကြရန် ဂိလာနအတွက် အထူးငဲ့ကွက်တော်မူပြီး ခွင့်ပြုတော်မူခဲ့တယ်။

ထို့ပြင် ဂိလာနရဟန်းတော်များအား ပြုစုလုပ်ကျွေးသူများဟာ ငါဘုရားကို ပြုစုလုပ်ကျွေးရာရောက်တယ်သို့ ဂိလာနပုဂ္ဂိုလ်ကို ကိုယ်တော်မြတ်နှင့် ထပ်တူထပ်မျှ ထားတော်မူ၍ အခွင့်အရေး အထူးပေးခဲ့, သနား ချီးမြှောက်တော်မူခဲ့

တယ်၊ ငွင်းနည်းတူ ပကတိရဟန်းတို့ သုံးဆောင်ခွင့်မရတဲ့ ဂဏဘောဇဉ်ကို သုံးဆောင်ခွင့်ပြုတော်မူခြင်းစတဲ့ အခြားအကြောင်းအရာ သနားငဲ့ညှာတော်မူချက်များဟာလဲ ထိုထိုဒေသနာတော်တို့မှာ အများအပြားပင် ရှိနေပါတယ်။

အဲဒီ အကြောင်းအရာတွေကို ထောက်ထားပြီး ဆရာတော်တို့ရဲ့ မဟာဝိသုတာရာမကျောင်းတိုက်ကြီးအတွင်းမှာ သံဃဆေးရုံအဖြစ်ဖြင့် သီးသန့်ကျောင်းတကျောင်း ထားရှိ၍ ပခုက္ကူမြို့ ကောင်းမှုရှင် ဒါယကာတို့၏ ထာဝရထောက်ပံ့မှုနှင့် တကွ ၁၉၅၅-ခုနှစ်မှ စ၍ ရန်ကုန်မြို့ မြင်းတပ်ကလပ်မှ လှူဒါန်းသည့် အထောက်အပံ့များဖြင့် ဂိလာနစာသင်သားများအား တတ်အားသလောက် စောင့်ရှောက်လာခဲ့တာ နှစ်ပေါင်း ၂၀-ကျော်လောက် ရှိခဲ့ပါတယ်။

သို့ရာတွင် မိမိတို့ကျောင်းတိုက်တွင်းရှိ သံဃဆေးရုံမှာ အစိုးရ၏ ပြည်သူ့ဆေးရုံကြီးများလောက် အစစမှာ ပြည့်စုံလုံလောက်မှု မရှိသဖြင့် ပြင်းထန်သည့် ရောဂါသည်များနှင့် အခြား နယ်ရှိ ကျောင်းနေ ဂိလာနပုဂ္ဂိုလ်များကို လက်ခံ၍ ကုသပေးနိုင်လောက်တဲ့ အင်အားမရှိခဲ့ပါ။

သို့အတွက် ရောဂါကြီးသူများကို ပြည်သူ့ဆေးရုံကြီးသို့ မပို့ချင်ဘဲ တင်ပို့ ကုသစေရတယ်၊ မပို့ချင်တဲ့အကြောင်းဟာ အခြားမဟုတ်ပါဘူး၊ ပြည်သူ့ဆေးရုံကြီးမှာ ရဟန်းတော်များအတွက် သဟသေယျအာပတ် လွတ်နိုင်လောက်တဲ့ သံဃဆေးခန်း သီးခြားမရှိဘဲ လူယောကျ်ား လူမိန်းမတို့နှင့် တမိုးတရုံတည်း ညဥ့်အိပ်ညဥ့်နေ နေထိုင်ကြရသဖြင့် နေ့စဉ်နေ့တိုင်း သဟသေယျအာပတ်များ အထပ်ထပ် သင့်ရောက်ကြရပါတယ်၊ ပဌမ သဟသေယျ သိက္ခာပုဒ်အလို "တမိုးတရုံတည်းဖြစ်တဲ့ အဆောက်အဦများအတွင်း၌ လူယောကျ်ား၊ တိရစ္ဆာန်ယောကျ်ားများနှင့်အတူ မိုးသောက်အောင် သုံးညဥ့်ထက် အလွန် အိပ်မိလျှင် ပါစိတ်အာပတ် သင့်ရောက်ရတယ်၊" ဒုတိယသိက္ခာပုဒ်အလို "လူမိန်းမများနှင့် အတူတကွ အဆိုပါ အဆောက်အဦများ၌ တညဥ့်မျှ ဦးခေါင်းချ၍ အိပ်ခွင့်မရှိ၊ အိပ်မိလျှင် အစိတ္တကဖြင့်၍ ကျူးလွန်လိုစိတ်မရှိသော်လည်း ပါစိတ်အာပတ် သင့်ရောက်ရတယ်"၊ အဲသလို အာပတ်သင့်ရောက်နေတဲ့ ဂိလာနပုဂ္ဂိုလ်ဟာ ရောဂါပျောက်ကင်းပြီး ကျန်းမာလာလျှင် ဆေးရုံတက်နေစဉ် သင့်ရောက်တဲ့ အာပတ်တွေကို ကုစားနိုင်ခွင့်ရပါသေးတယ်၊ ရောဂါကြီးလို့ ဆေးရုံမှာဘဲ စုတေ ပျံလွန်ရတဲ့ ရဟန်းတော်များမှာ အာပတ်တွေ တင်းကျမ်းပြည့်ရှိပြီး ကုစားနိုင်ခွင့်မရတော့သဖြင့် ငရဲဘုံနှင့် တိရစ္ဆာန်ဘုံ တဘုံဘုံသို့ လားရောက်နိုင်တယ်လို့ ကျမ်းဂန်များမှာ အဆိုရှိတယ်။

"သာပတ္တိကဿ ဘိက္ခဝေ နိရယံ ဝါ ဝဒါမိ တိရစ္ဆာနယောနိံ ဝါ"လို့ စူဠဝဂ္ဂ သမထက္ခန္ဓက သာရတ္ထဒီပနီဋီကာ ဆောင်ပြအပ်တဲ့ ပါဠိတော်အရ အာပတ်နှင့်

တကွ စုတေရတဲ့ ရဟန်းရဲ့ တမလွန်ဘဝဟာ ငရဲဖြစ်စေ၊ တိရစ္ဆာန်ဖြစ်စေ တခုခု သောဘဝ ဖြစ်ရမယ်လို့ အဓိပ္ပါယ်ရရှိတယ်၊ ထို့ကြောင့် သေလောက်နီးပါး ကြီးမားတဲ့ ဝေဒနာရှင် သိက္ခာကာမ ပေသလ ရဟန်းတော်များဟာ—

"အပ္ပေဝ ဇီဝိတံ ဇဟေ၊ န ဘိန္ဒေ သီလသံဝရံ"—

ဟူသော ဘုရားရှင်၏ ဩဝါဒအရ အသက်ကိုပင် စွန့်ရစေကာမူ သီလသံဝရကို မပျက်စီးစေလိုကြသဖြင့် သီးသန့်ခန်း မရှိပဲ အမိုးအကာ တပြင်တည်းဖြစ်နေတဲ့ ပြည်သူ့ဆေးရုံများသို့ တက်ရောက်ကုစားရန် အလိုဆန္ဒ မရှိကြပေကုန်။

ထို့ကြောင့် ဆရာတော်ဟာ ယခု ပခုက္ကူပြည်သူ့ဆေးရုံသစ်ကြီး ဆောက်လုပ်စဉ်က သံဃာတော်တို့အတွက် သဟသေယျအာပတ် လွတ်လောက်အောင် သီးသန့်ဆေးခန်းတခု တပါတည်း ဖြစ်မြောက်အောင် ပူးတွဲဆောက်လုပ်ရန် ဆိုင်ရာတို့နှင့် တိုင်ပင်ဆွေးနွေး၍ နှိုးဆော်တိုက်တွန်းခဲ့ပါသေးတယ်၊ သို့သော်လဲ အကြောင်းမညီညွတ်သဖြင့် မအောင်မြင်ခဲ့ပါ၊ သို့အတွက် ဆရာတော်၏စိတ်မှာ သီးသန့် သံဃဆေးရုံတခု ဖြစ်မြောက်ရန် အာသာဆန္ဒ ပြင်းပြလျက် ရှိနေခဲ့ပါတယ်၊ ထိုအခိုက်အတန့်မှာ မည်သူမျှ မတိုက်တွန်းရပဲ ဆရာတော်၏ အလိုဆန္ဒ ပြည့်ဝရလေအောင် သံဃဆေးရုံ ဆောက်လုပ်ရန် ကုသိုလ်ရှင်တို့ အသီးအသီး အလိုအလျောက် ပေါ်ပေါက် လျှောက်ထားကြသဖြင့် မဟာဝိသုတာရာမ ဂေါပကအဖွဲ့အား လွှဲအပ်ပြီးလျှင် အငြိမ်းစားအင်ဂျင်နီယာ လမ်းဝန်ထောက်မင်း **ဦးဘဟန်**၏ စီမံဆောင်ရွက်မှုဖြင့် ဆိုင်ရာကျန်းမာရေးဌာနနှင့် တိုင်ပင်လျက် ဤသံဃဆေးရုံသစ်ကို ဆောက်လုပ်စေသဖြင့် အပြီးတိုင်ခဲ့ပါတယ်။

အခင်း, ခြင်ထောင်, ခေါင်းအုံးနှင့်တကွ သံခုတင်များအတွက်လည်း အသီးအသီး ကုသိုလ်ရှင်များ ပေါ်ပေါက်လာပါတယ်၊ ယနေ့ ဤသံဃဆေးရုံသစ် ဖွင့်လှစ်သည့် အခမ်းအနားမှာ မိမိတို့က နိုင်ငံတော်ဝန်ကြီးချုပ်၏ ရှေ့မှောက်တွင် ဤသံဃဆေးရုံသစ်ကို ဆိုင်ရာဌာနသို့ လွှဲအပ်လိုပါတယ်၊ ဆေးရုံအတွက် လိုအပ်သည့် ဆေးဝါးကိရိယာစသော အသုံးအဆောင်များကို ပြည့်စုံလုံလောက်အောင် ထားရှိ၍ ဂိလာနရဟန်းတော်များကို လက်ခံကုသရာ၌ ချို့ငဲ့မှုမရှိအောင် နိုင်ငံတော်အစိုးရ၏ ကျန်းမာရေးဝန်ကြီးဌာနမှ လုံလောက်သည့်အကူအညီများရအောင် နိုင်ငံတော်ဝန်ကြီးချုပ်က ညွှန်ကြားပေးစေလိုပါတယ်၊ ဆရာတော်ကလဲ ကြောင့်ကြမဲ့မနေဘဲ အသက်ရှည်သ၍ တတ်အားသလောက် စောင့်ရှောက်ကူညီရန် သန္နိဋ္ဌာန်ချမှတ်ပြီး ဖြစ်ပါတယ်၊ အသီးအသီး ကုသိုလ် ပါဝင်ပြီး, ပါဝင်ဆဲ, ပါဝင်လတ္တံ့ဖြစ်ကြတဲ့ ဒါယကာများဟာလဲ မိမိတို့ ထာဝရကုသိုလ်ကြီးကို အာရုံမြဲမြဲ စွဲကိုင်ထားကြသဖြင့် ပသန္နစေတနာ ဆက်ကာ

ဆက်ကာ တိုးပွါးစေကြပြီးလျှင် ဘုရားရှင် ကိုယ်တော်မြတ်ကြီး ကိုယ်တော်တိုင်ကို ပြုစုလုပ်ကျွေးရသည်နှင့် တူပြီး အလွန် မွန်မြတ်တဲ့ ကုသိုလ်ထူးကြီးကို အောင်မြင်စွာ ကြိုးစားအားထုတ်ကြရသဖြင့်—

“အာရောဂျပရမာ လာဘာ’ ဟူသော ဓမ္မပဒဒေသနာတော်နှင့် လျော်စွာ သံသရာတခွင် ကျင်လည်ရသမျှကာလပတ်လုံး ဗဟိဒ္ဓရောဂါဝေဒနာအပေါင်းမှ အခါခပ်သိမ်း ကင်းရှင်း၍ ကိုယ်၏ကျန်းမာမှုနှင့်တကွ အစမထင် သံသရာမှစ၍ အမြဲမပြတ် စွဲကပ်ပါလာခဲ့တဲ့ ကိလေသာရောဂါ အနာခပ်သိမ်း ကင်းငြိမ်းလွင့်ပျောက်လျက် စိတ်၏ကျန်းမာမှု စိတ်ရောဂါမရှိမှု စိတ်ချမ်းသာမှု တည်းဟူသော ရောမ ဆုလာဘ်ကြီးကို ဤသံဃဆေးရုံနှင့် စပ်လျဉ်းသည့် ကုသိုလ်စေတနာတည်းဟူသော လက်ဆောင်ကောင်းဖြင့် ကေန်မုချ အရယူနိုင်ကြမည်ဖြစ်ကြောင်းကို ဤနေရာမှနေ၍ ဤမျှသော စကားအစဉ်ဖြင့် ဥယျောဇနသြဝါဒကထာ အဆုံးသတ်၍ နိဂုံးအုပ်လိုက်ပါ၏။

# ဗုဒ္ဓဘာသာ မျက်မမြင်ကျောင်းကြီး

ပခုက္ကူမြို့သို့ ရောက်ရှိလာသော ဧည့်သည် အာဂန္တုများသည် ပခုက္ကူမြို့၏ ကျက်သရေဆောင်တခုဖြစ်သည့် မျက်မမြင်ကျောင်းကြီးသို့ အရောက်သွားပြီး မျက်စိနှစ်ကွင်း အလင်းမရသူ မျက်မမြင် ကလေးသူငယ် ကျောင်းသားတို့၏ အဖြစ်မှန်နှင့် စံနစ်တကျ ကျွေးမွေးစောင့်ရှောက် ပညာသင်ပေးပုံ စသည်တို့ကို လေ့လာကြည့်ရှု၍ ကရုဏာတရား ပွါးများသင့်ပေသည်။

## တည်ရာဌာနနှင့် မြင်ကွင်း

တည်ရာဌာနကား ပခုက္ကူမြို့ ပေါက်လမ်းရပ် အမှတ်-၂ ကျောင်းကြီးအနီး တွင် တည်ရှိ၍ ပခုက္ကူမြို့သို့ အဝင် အထွက် ပေါက်လမ်း ကားဆိပ်နှင့်လည်း ကပ်လျက်တည်ရှိသည်၊ ၂-ကေခွဲလောက် ကျယ်ဝန်းသော ကွက်လပ်ကြီးပေါ် တွင် မျက်မမြင်ကျောင်းသားများ ပညာသင်ရာ ကျောင်းကြီး, မျက်မမြင်များ အိပ်ရာ နေထိုင်ရာ ဘော်ဒါကျောင်းရှည်ကြီး, ကျောင်းသားများ အစား အသောက် စားသောက်ရာ အဆောင်, ဗုဒ္ဓဘာသာ မျက်မမြင်ကျောင်းကြီးကို စတင်ဖန်တီးသူ နာယကဆရာတော် အရှင်ပညာဝံသ သီတင်းသုံးတော်မူရာ ကျောင်းဆောင်သေးကြီး ပေါင်း ၁၀-ခု ရှိလေသည်။

## ဘုရားခန်းမနှင့် ဓာတ်တော် မွေတော်များ

မျက်မမြင်များ၏ နာယကဆရာတော်သည် ကိုယ်တိုင် သာသနာ့ဝန်ထမ်း ရဟန်းတော်ဖြစ်သည့်အားလျော်စွာ လွန်ကဲသော သဒ္ဓါတရားနှင့်ပြည့်စုံသော သဒ္ဓါဓိကပုဂ္ဂိုလ်ဖြစ်သည့်အတိုင်း အလိုရှိသည့်အချိန်တွင် ကိုးကွယ် ဆည်းကပ် ဝတ်တက် ဝတ်ပြုနိုင်ရန် မိမိ သီတင်းသုံးရာ ကျောင်းဆောင်အတွင်း ဘုရား ဆင်းတုတော်များ, ဓာတ်တော်များကို သီတင်းသုံးစေလျက်ရှိရာ အလွန်တရာ ကြည်ညိုဘွယ် ကောင်းလှပါသည်၊ နေ့စဉ် ကျောင်းသားများဝတ်ပြုရာ ဘုရား ခန်းမသည်လည်း သန့်ရှင်း စင်ကြယ် ကောင်းမွန်လှ၍ ဖူးမြင်ရသူတို့၏ နှလုံး ဓာတ် ပီတိအိမ်ကို ဆီထည့်ကာစိမ်သကဲ့သို့ ဖြစ်စေလေသည်။

## မဟာဗောဓိပင်

မျက်မမြင်ကျောင်းသားတို့အား ဂေါတမဘုရားလက်ထက်တွင် ဗောဓိပူဇာ ကုသိုလ်ထူးဖြင့် နိဗ္ဗာန်အောင်မြို့သို့ ဝင်စံကူးသွားကြသူ အရှင်သန္တိတထေရ်, အရှင်မ သေလာထေရီတို့ နည်းတူ ဗောဓိပူဇာ ကုသိုလ်ပညာကို ရစေလိုသော

ဇောစိတ်ဖြင့် သီဟိုဠ်ကျွန်း သံဃမိတ္တာ ဗောဓိပင်၏ မြေးတော် ဗောဓိပင်ကို ရဟန်းတော် အရှင်ကေသဝ၏လုံ့လဖြင့် မန္တလေးမြို့မှတဆင့် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် သာသနဇောတိပါလ အရှင်ဂန္ဓသာရ စံကျောင်းတော်၌ ၁၃၂၉-ခု ကဆုန်လပြည့်နေ့တွင် ပူဇော်ဖွယ်အမျိုးမျိုးတို့ဖြင့် ပူဇော်ကာ အခမ်းအနားဖြင့် ပင့်ယူ၍ စိုက်ပျိုးခဲ့ရာ အငွေပလ္လင်အထက် ဝရံတာ ကာရန်လျက် ဖူးချင့်စဖွယ် တင့်တင့်တယ်တယ် ကျက်သရေရှိလှပါသည်၊ ထို့ကြောင့် ဒက္ခိဏာသာခါ မဟာဗောဓိဖြင့် တန်ဆာဆင်ထားသည့် သီဟိုဠ်ကျွန်း မဟာဝိဟာရ ကျောင်းတိုက်ကြီးပမာ မဟာဗောဓိဖြင့် တန်ဆာဆင်ထားသည့် ဗုဒ္ဓဘာသာ မျက်မမြင်ကျောင်းဟူသော သုတိသညာလည်း ပေါ်လာလေသည်။

## သမိုင်းအကျဉ်း

ပခုက္ကူမြို့တွင် မျက်မမြင်ဆရာတော် အရှင်ပညာဝံသမည်သော မဟာထေရ်တပါးသည် မျက်မမြင်ဒုက္ခိတတို့ အကျိုးငှါ ပေါ်ပေါက်ခဲ့သည်၊ အရှင်ပညာဝံသသည် ကိုယ်တိုင် မျက်စိနှစ်ကွင်းအလင်းမရသဖြင့် မျက်မမြင်ဒုက္ခကို ကောင်းစွာသိခဲ့သည်၊ နေ့နှင့်ည တသားတည်းဘဝကို စွန့်ပစ်ချင်သော်လည်း မျက်မမြင်ဘဝ စီမံရန် အကုသိုလ်ကံက နောက်မဆုတ်ခဲ့သဖြင့် မစွန့်နိုင်ခဲ့၊ ဗုဒ္ဓမြတ်စွာ သာသနာ ထွန်းကားသည့် တိုင်းပြည်ဖြစ်သည့်အတွက် တလက်လက်တထိန်ထိန်နှင့် တင့်တင့် တယ်တယ် ကျက်သရေရှိနေသည့် စေတီ, ပုထိုး, ဘုရား, ကျောင်းကန်တို့ကို မဖူးမြင် မတွေ့ရ ဦးတော်မတင်နိုင်ရုံမျှမက လူ့လောက တတ်သိဘွယ်ရာတို့မှ အပ-ဖြစ်ခဲ့ရသည့်အရေးကို တွေးမိတိုင်း ရင်ပူခဲ့သည်၊ သို့ဖြစ်၍ မျက်မမြင်ဒုက္ခသည်တို့အား ပညာတတ်မြောက်ရေး, ရတနာသုံးပါး ယုံကြည်ဆည်းကပ်ကိုးကွယ်သော ဗုဒ္ဓဘာသာ သူတော်ကောင်း ဖြစ်မြောက်ရေးတို့ကို တွေးကြံ၍ ၁၂၉၉-ခုနှစ် ပြာသိုလ်လဆန်း ၈-ရက်နေ့တွင် ကြီးစွာသော လုံ့လဥဿာဟဖြင့် မေတ္တာ, ကရုဏာ ရှေ့သွားပြုကာ ဗုဒ္ဓဘာသာမျက်မမြင်ကျောင်းကြီးကို တည်ဆောက်ခဲ့သည်၊ ရှေးဦးပဌမ စ, တည်စတွင် ကိုယ်ပိုင်ပစ္စည်းများကို အသုံးချလျက် တပါးတည်း ဦးဆောင်ပြီး မျက်မမြင် ကျောင်းသား ၁၀-ယောက်ဖြင့် အစပျိုးခဲ့သည်၊ ၁၃၀၀-ပြည့်နှစ်တွင် ကျောင်းသားဦးရေ တိုးတက်များပြားသဖြင့် လုပ်သားပြည်သူတို့ထံမှ ရံပုံငွေ အလှူခံ၍ စွမ်းစွမ်းတမန် ဆောင်ရွက်ခဲ့ရာ ၁၃၀၇-နှစ်မှ စ၍ ယခုအထိ နိုင်ငံတော်အစိုးရနှင့်ပြည်သူလူထု၏ အကူအညီ လှူဒါန်းအားပေးမှုကြောင့် ကြီးကျယ်သော မျက်မမြင်အတတ်သင်ကျောင်းကြီးအဖြစ် မြန်မာပြည်တွင် ထင်ရှားလာလေသည်။

## အုပ်ချုပ်ရေးအဖွဲ့

ယခုအခါ ဆရာတော်ဦးပညာဝံသ ကြီးမှူးသော အုပ်ချုပ်ရေးအမှုဆောင် အဖွဲ့ ဖွဲ့လျက် မျက်မမြင်ကျောင်းကြီးကို အုပ်ချုပ်လျက်ရှိရာ ပိုမို၍ စနစ်ကျ ကောင်းမွန်လေသည်။

## ပြုစုစောင့်ရှောက်ခြင်း

ကျောင်းတိုက်ရှိ ရဟန်းသံဃာတော်များနှင့် မျက်မမြင်ကျောင်းသားတို့၏ ကျန်းမာရေးအတွက် အင်္ဂလိပ်ဆေး, မြန်မာဆေးတို့ဖြင့် ကုသပေးသည့်ပြင် ကျောင်းသားများအား ခဲပေးတမ်း, တွတ်ထိုးတမ်း, ကြိုးခုန်တမ်းစသည့် ကစားနည်းမျိုးတို့ကို ပြုလုပ်စေပါသည်။

## ပညာရပ်များ

ဤဗုဒ္ဓဘာသာမျက်မမြင်ကျောင်းကြီးက မျက်စိမမြင်သည့် ကျောင်းသား တို့အား ကြိမ်ထိုးပညာ, လက်နှိပ်ပညာ, ဗေဒင်ပညာ, ဘိသိက်ပညာ, ဗမာ့ တီးဝိုင်း ဂီတ အနုသုခုမပညာ အမျိုးမျိုးတို့အပြင် မူလတန်းပညာနှင့်ညီမျှသော ဂဏန်းသင်္ချာ, ဖတ်စာတို့ကိုလည်း သင်ကြားပို့ချပေးလေသည်။

## အကျင့်စာရိတ္တ ကောင်းမွန်ရန်

လူဖြစ်ရကျိုးနပ်ကာ ကလျာဏပုထုဇဉ် ဖြစ်မြောက်ရေးအတွက် အဘိဓမ္မာ ကျမ်းစာများ သင်ကြားပို့ချပေးခြင်း, အဖိုးတန် ဗုဒ္ဓဘာသာဝင်ဖြစ်ရေး, ဘုရားအား ဂါရဝရှိသူဖြစ်ရေးနှင့် ဗုဒ္ဓါရမ္မဏပီတိ ရရှိရေးအတွက် တနေ့ ၃-ကြိမ် ဘုရားဝတ်တက်ခြင်း, ပရိတ်တော်များ ရွတ်ဖတ်သရဇ္ဈာယ်ခြင်းတို့ကို လည်း ပြုလုပ်စေသည်။

## စားဝတ်နေရေး

မျက်မမြင်ကျောင်းသားများ၏ စားဝတ်နေရေးကိုလည်း ဖြေရှင်းပေးရ သည်၊ ၆-လတကြိမ် တယောက်လျှင် ၁ဝ-တန် ဝတ်စုံများ ဆင်မြန်းပေးခြင်း, တလ ၁၂-ကြိမ် အသားဟင်းများ ကျွေးမွေးခြင်း, ဗီတာမင်အာဟာရဓာတ် များနှင့် ပြည့်ဝသည့် ဟင်းသီးဟင်းရွက်များကို ရှာကြံစီစဉ်၍ ကျွေးမွေး ပြုစုရသည်။

## မျက်မမြင်ကျောင်း ကထိကများ

မျက်မမြင် ကျောင်းကြီးသည် မျက်မမြင်ဒုက္ခိတတို့၏ မှီခိုအားထားရာ ကျောင်းကြီးဖြစ်သည်နှင့်အမျှ အမှီခိုခံနိုင်လောက်အောင် နာယကဆရာတော်

အမှူးရှိသော အုပ်ချုပ်ရေးအဖွဲ့က ဘာသာရေးသင်တန်းပြဆရာ, ဂဏန်းသင်္ချာပြဆရာ, လက်စမ်းစူးဖောက်အက္ခရာ ပညာသင်ဆရာ ၅-ဦး, ဗေဒင်ပညာသင်ဆရာ, တူရိယာဂီတပညာသင်ဆရာ, လက်နှိပ်ပညာသင်ဆရာတို့ကိုလည်း စီစဉ်ပေးရလေသည်။

## အခါတော်နေ့များ

ဗုဒ္ဓဘာသာ မျက်မမြင်ကျောင်း ဖြစ်သည့်အတိုင်း နာယကဆရာတော်အမှူးရှိသော အုပ်ချုပ်ရေးအဖွဲ့ကြီးသည် မင်္ဂလာအခါတော်နေ့ကဆုန်လပြည့်ဗုဒ္ဓနေ့, မဟာသမယအခါတော်နေ့, ဓမ္မစကြာအခါတော်နေ့, အဘိဓမ္မာအခါတော်နေ့တို့ကိုလည်း ဗုဒ္ဓသာသနာအဖွဲ့မှ စီစဉ်သည့်အတိုင်း ကျင်းပပေးကာ မျက်မမြင်ကျောင်းသားတို့အား ကုသိုလ်တရား တိုးပွါးရန် စီမံရလေသည်။

## တိုက်တွန်းချက် ဥယျောဇဉ်

ဗုဒ္ဓဘာသာ သူတော်စင်အပေါင်းတို့သည် မျက်မမြင် သူငယ်တို့၏ ဒုက္ခအဖုံဖုံကိုစုံစုံလင်လင် သိမြင်ကြပြီး သဒ္ဓါတတ်အား နည်းများမဆို ပေးလှူကာ တရံတဆစ်မျှ ဤဒုက္ခမျိုးနှင့် ရင်မဆိုင်ကြရအောင် ဆုတောင်းပတ္ထနာ ပြုကြရာသည်။

လောစနေဟိ ဝိဟီနာနံ၊ ဒုက္ခံ ဉတွာန ပဏ္ဍိတော။
ဒတွာ တေသံ ယထာသတ္တိံ၊ ပတ္ထေယျ ရုစိရံ သုခံ။

ပဏ္ဍိတော၊ အမှန်သိမြင် ပညာရှင်သည်။ လောစနေဟိ၊ ရှုမြင်ဘွယ်ရာ ရူပါရုံအပေါင်း ရှုမြင်ကြောင်းဖြစ်သော မျက်စိနှစ်ကွင်းတို့မှ။ ဝိဟီနာနံ၊အလင်းမရ ယုတ်လျော့နေကြရရှာသော မျက်မမြင်ဒုက္ခသည်တို့၏။ ဒုက္ခံ၊ အမြဲမှောင်ကျ တွေ့ကြုံနေရသော ဒုက္ခကို။ ဉတွာန၊ ကိုယ်တိုင်ဒိဋ္ဌ မြင်သိရ၍။ တေသံ၊ မျက်စိနှစ်သွယ် ကွယ်ပရရှာသော ထိုမျက်မမြင် ဒုက္ခသည်တို့အား။ ယထာသတ္တိံ၊ တတ်အားသမျှ စွမ်းနိုင်သလောက်။ ဒတွာ၊ ချီးမြှောက်ပေးကမ်းစွန့်လှူဒါန်း၍။ ရုစိရံ သုခံ၊ ယခုနောင်ခါ တင့်တယ်လှစွာသော ချမ်းသာသုခကို။ ပတ္ထေယျ၊ မွန်မြတ်စွာလှ စိတ်ဆန္ဒဖြင့် တောင့်တ ရယူရာ၏။

# ဒေါ်ဦးဇွန်း ဘိုးဘွားဂေဟာ

ခိုကိုးရာမဲ့သူ အဘိုးအဘွားတို့အား လက်ခံလျက် ကျွေးမွေး ပြုစု စောင့်ရှောက်ထားရာ "ဘိုးဘွားဂေဟာ" ခေါ်သည့် သူအိုရုံလည်း ပခုက္ကူမြို့ အရှေ့မြောက်ပိုင်း သံခိပ်ရပ်ကွက်၌ တည်ရှိသည်၊ ဤဘိုးဘွားဂေဟာ၌ အဘွားဆောင်, အဘိုးဆောင်,အဘိုးအဘွားတို့ ကမ္မဋ္ဌာန်းတရားအားထုတ်ရန် တဲအိမ်ငယ်များ, အဘိုး အဘွားတို့ ဝတ်ပြုရာ ဓမ္မာရုံ, ရေစက်ရုံ, ရေလှောင်ကန်, စည်းဝေးခန်းမဆောင် စသည့် အဆောက်အဦတို့ဖြင့် သာယာလှပပေသည်၊ ဖော်ပြပါ ဘိုးဘွားဂေဟာ၌—

၁။ အသက် ၆၀-ပြည့်ခြင်း

၂။ သားသမီးဆွေမျိုးဉာတိ မရှိခြင်း

၃။ သားသမီးဆွေမျိုးဉာတိ ရှိလင့်ကစား မစောင့်ရှောက်နိုင်ခြင်း

၄။ ကျန်းမာသန့်စွမ်းခြင်း—

စသည့် အင်္ဂါရပ်များနှင့် ပြည့်စုံသော မြန်မာနိုင်ငံ အရပ်ရပ်မှ အဘိုး အဘွားတိုင်း နေနိုင်ခွင့်ရှိလေသည်၊ ဘိုးဘွားများ၏ စားဝတ် နေရေး, ကျန်းမာရေး, တရားဘာဝနာ ပွါးရေးတို့အတွက် မတောင့်တ မကြောင့်ကြရပဲ ကိုယ်စိတ်နှစ်ဖြာ ချမ်းမြေ့စွာ နေထိုင်နိုင်သည်။

## ဘိုးဘွားတို့ကုသိုလ်ရေး

ဘိုးဘွားတို့သည် နေ့စဉ် နံနက် တကြိမ်, ညနေ တကြိမ်, ဂေဟာဓမ္မာရုံ၌ ဘုရားဝတ်တက်ကြရသည်၊ နေ့ခင်းပိုင်း တချိန်တွင် ကမ္မဋ္ဌာန်းဆောင်များ၌ တရားအားထုတ်ခြင်း, ပုတီးစိပ်ခြင်းများ ပြုလုပ်ကြရသည်၊ ဥပုသ်နေ့တိုင်း ရဟန်းတော်တပါးကို ပင့်၍ ၈-ပါးသီလ ခံယူကြရသည်။

## သမိုင်းအကျဉ်း

ဖော်ပြပါ ဘိုးဘွားဂေဟာကို ၁၃၀၀-ပြည့်နှစ်တွင် ကျောင်းအမကြီး **ဒေါ်ဦးဇွန်း** စတင်၍ တည်ထောင်ခဲ့သည်၊ တော်လှန်ရေးအစိုးရ လူမှုဝန်ထမ်းဌာန၏ ထောက်ပံ့မှု, ဂေဟာအုပ်ချုပ်ရေးအဖွဲ့၏ စေတနာထက်သန်စွာ ဆောင်ရွက်မှု စသည်တို့ကြောင့် ယခုအခါ တိုးတက်ကောင်းမွန်လျက် ရှိလေသည်၊ ယခုအချိန်တွင် ဘိုးဘွားဂေဟာ၌ အဘိုး ၂၀, အဘွား ၁၇-ယောက် နေထိုင်လျက်ရှိလေသည်၊ ၁၉၆၅-၆၆-ခုနှစ်တွင် ဘိုးဘွားပေါင်း ၅၂-ယောက်ရှိကြောင်း နှစ်ချုပ်အစီရင်ခံစာ၌ တွေ့ရသည်။

## စောင့်ရှောက်ရေးအဖွဲ့

ဘိုးဘွားဂေဟာကို စောင့်ရှောက်ရေးအဖွဲ့ဖြင့် အုပ်ချုပ်လျက်ရှိသည်၊ ခရိုင်ဝန်သည် ဥက္ကဋ္ဌဖြစ်၍ တွဲဘက်ခရိုင်ဝန်သည် တွဲဘက်ဥက္ကဋ္ဌဖြစ်သည်၊ ၁၉၅၈-၅၉-ခုနှစ်မှစ၍ ဂေဟာအကျိုးဆောင်အဖြစ် ၇-နှစ်တိုင် ဦးဘိုးလှက ဆောင်ရွက်သည်၊ ဦးဘိုးလှ အသက်ကြီး၍ နုတ်ထွက်သွားပြီးနောက် ဦးဉာဏ်ထူးက ဆောင်ရွက်၍ သာသနာရေးရုံး စာရေး ဦးစန်းမောင်က စေတနာဝန်ထမ်း ဂေဟာမှူးအဖြစ် ဆောင်ရွက်လျက် ရှိလေသည်၊ ဘိုးဘွားဂေဟာသို့ အမြဲတမ်း လစဉ် လှူဒါန်းနေသူဦးရေမှာ ၁၇ဝ-ရှိလေသည်၊ ဂေဟာရှိ အဘိုးအဘွားတို့အတွက် ကုန်ကျငွေမှာ တနှစ်လျှင် ၃ဝဝဝဝိ-ကျော် ၄ဝဝဝဝိ-ခန့် ဖြစ်လေသည်။

## တိုက်တွန်းချက်

ရခဲလှစွာသော လူအဖြစ်ကို ရ၍ ဗုဒ္ဓဘာသာဝင် သူတော်စင်ဖြစ်ခိုက် ဘိုးဘွား ဂေဟာရှိ အဘိုးအို အဘွားအို တို့အား လှူဒါန်းပေးကမ်း၍ မအိုရာ ဖြစ်သော နိဗ္ဗာန်သို့ ရောက်ရန် ကျင့်ကြံနိုင်ကြပါစေသတည်း။

ယထာ ဒဏ္ဍေန ဂေါပါလော၊ ဂါဝေါ ပါဇေတိ ဂေါစရံ။
ဧဝံ ဇရာ စ မစ္စု စ၊ အာယုံ ပါဇေန္တိ ပါဏိနံ။

"နွားကျောင်းသား သူငယ်သည် နှင်တံဖြင့် နွားတို့ကို နွားစားကျက်သို့ မောင်းနှင်သည့်နည်းတူ အိုခြင်းတရားနှင့် သေခြင်းတရားတို့သည် သတ္တဝါတို့၏အသက်ကို မောင်းနှင်ကုန်၏"။

(ဓမ္မပဒ၊ ဥပေါသထိကဏ္ဍီနီ ဝတ္ထု၊ ၃၃)

ပရိဇိဏ္ဏမိဒံ ရူပံ၊ ရောဂနိဋ္ဌံ ပဘင်္ဂုရံ။

"ဤရုပကာယသည် ဆွေးမြေ့အိုမင်းတတ်၏၊ အနာရောဂါတို့၏ တည်ရာလည်း ဖြစ်၏"။

(ဓမ္မပဒ၊ ဥတ္တရာထေရီ ဝတ္ထု၊ ၃၅)

ဇီရန္တိ ဝေ ရာဇရထာ သုစိတ္တာ၊
အထော သရီရမ္ပိ ဇရံ ဥပေတိ။

"ရတနာတို့ဖြင့် ကောင်းစွာဆန်းကြယ်သော မင်း၏ရထားတို့သည် ဆွေးမြေ့အိုမင်းခြင်းသို့ ရောက်ရသေး၏။ ခန္ဓာကိုယ်သည်လည်း ထို့အတူ ဆွေးမြေ့အိုမင်းခြင်းသို့ ရောက်ရသေး၏"။

(ဓမ္မပဒ၊ မလ္လိကာဒေဝီ ဝတ္ထု၊ ၃၆)

ဆဋ္ဌသံဂါယနာ

# ဝိသောဓကနှင့် ဘာဏကအဖွဲ့များ

## မဟာဝိသုတာရာမ မူလဝိသောဓကအဖွဲ့

၁၃၁၆-ခု ကဆုန်လပြည့်နေ့မှစ၍ ကျင်းပအပ်သော ဆဋ္ဌသံဂါယနာ မဟာပါသာဏဂူ မဟာသိမ်တော်ကြီးတွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်မှ ဣတိဝုတ္တကပါဠိတော်, အဋ္ဌကထာနှင့် သုတ္တနိပါတ်ပါဠိတော်, အဋ္ဌကထာတို့ကို ရှေးဦးစွာ သုတ်သင်ခြင်း (မူလဝိသောဓန) ကိစ္စတာဝန်ကို ထမ်းဆောင်တော်မူသည်၊ ဣတိဝုတ္တကပါဠိတော်နှင့် အဋ္ဌကထာ ပြင်ဆင်ကြသောအဖွဲ့၏ ခေါင်းဆောင်ဆရာတော်မှာ တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ မဟာထေရ် ဖြစ်သည်၊ သုတ္တနိပါတ်ပါဠိတော်နှင့် အဋ္ဌကထာ ပြင်ဆင်ရသောအဖွဲ့၏ ခေါင်းဆောင်ဆရာတော်မှာ မဟာဝိသုတာရာမတိုက် ဂဏဝါစကစာချဆရာတော် အရှင်နာယက မဟာထေရ် ဖြစ်လေသည်။

## မဟာဝိဇယာရာမ မူလဝိသောဓကအဖွဲ့

ဆဋ္ဌသံဂါယနာ မဟာပါသာဏဂူ မဟာသိမ်တော်ကြီးတွင် ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်မှ နေတ္တိပါဠိတော် အဋ္ဌကထာတို့ကို ရှေးဦးစွာ သုတ်သင် ပြင်ဆင်ခြင်း (မူလဝိသောဓန) ကိစ္စ တာဝန်ကို ထမ်းဆောင်တော်မူသည်၊ အဖွဲ့၏ခေါင်းဆောင် ဆရာတော်မှာ ဆရာတော် အရှင်ဉာဏိန္ဒမဟာထေရ် ဖြစ်လေသည်။

## ဣတိဝုတ္တကဘာဏကအဖွဲ့

ဆဋ္ဌသံဂါယနာ မဟာပါသာဏဂူ မဟာသိမ်တော်ကြီးတွင် ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်မှ ဘာဏကအဖွဲ့ဝင် ဆရာတော်များသည် စာမျက်နှာ ၈၃-မျက်နှာရှိ ခုဒ္ဒကနိကာယ် ဣတိဝုတ္တကပါဠိတော်ကို အလွတ်ပြန်ဆို သံဂါယနာတင်တော်မူကြသည်၊ အဖွဲ့ဝင် ဆရာတော်များမှာ သီဟိုဠ်ရှင်ဘုရားကြီးတိုက် ဆရာတော် အရှင်နန္ဒဝံသထေရ် အမှူးရှိသော သံဃာတော် ၁၀-ပါး ဖြစ်လေသည်။

## နေတ္တိဘာဏကအဖွဲ့

ဆဋ္ဌသံဂါယနာ မဟာပါသာဏဂူ မဟာသိမ်တော်ကြီးတွင် ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်မှ ဘာဏကအဖွဲ့ဝင် ဆရာတော်များသည် စာမျက်နှာ ၁၆၆ မျက်နှာရှိ ခုဒ္ဒကနိကာယ်အဝင်အပါ နေတ္တိပါဠိတော်ကို အလွတ်ပြန်ဆို သံဂါယနာတင်တော်မူခဲ့ကြသည်၊ အဖွဲ့ဝင်ဆရာတော်များမှာ မဟာဝိဇယာရာမတိုက်မှ တိုက်အုပ်ဆရာတော် အရှင်ဇနိန္ဒထေရ် ကြီးမှူးသောသံဃာတော် ၁၀-ပါး ဖြစ်လေသည်။

## အဋ္ဌကထာသံဂါယနာနှင့် ပခုက္ကူဆရာတော်များ

၁၃၁၈-ခုနှစ် နတ်တော်လပြည့်ကျော် ၉-ရက်နေ့မှစ၍ ၄-နှစ်တိုင်တိုင် ကျင်းပသော အဋ္ဌကထာသံဂါယနာတွင် ပခုက္ကူမြို့မှ ဇာတကဝဏ္ဏနာအဋ္ဌကထာ, သုတ္တနိပါတအဋ္ဌကထာ, နေတ္တိအဋ္ဌကထာ မူလဝိသောဓကဆရာတော်များ သန္နိပါတအလိုက် အလှည့်ကျ ပါဝင်ကြသည်၊ အဋ္ဌကထာသံဂါယနာတွင် မဟာဝိသုတာရာမတိုက်မှ တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ မဟာထေရ်သည် မူလဝိသောဓကဆရာတော်များ ပြင်ဆင်ပြီးမှုကို တဖန် ပြင်ဆင်သုတ်သင်ရသော ပဋိဝိသောဓကဆရာတော်လည်း ဖြစ်တော်မူသည်။

## ပဋိဝိသောဓကနှင့် သြဿနသောဓကဆရာတော်များ

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်မှ အမြဲတမ်း သြဿနသောဓကနှင့် ပဋိဝိသောဓက ရဟန်းတော်တို့ကား အရှင်ပဏ္ဍိတ ပဌမကျော်, သိရောမဏိ, ဂဏဝါစကနှင့် အရှင်ကေလာသ(ငယ်) ဓမ္မာစရိယ, ဂဏဝါစက-တို့ ဖြစ်ကြသည်။

ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်မှ တိုက်အုပ်ဆရာတော် အရှင်ဉာဏိန္ဒ မဟာထေရ်မှာ ပဋိဝိသောဓက ဖြစ်တော်မူသည်၊ မဟာဝိဇယာရာမတိုက်မှ အမြဲတမ်း သြဿနသောဓက, ပဋိဝိသောဓက ဆရာတော်မှာ ဓမ္မာစရိယ, ဂဏဝါစက အရှင်ဣန္ဒဝံသထေရ် ဖြစ်လေသည်။

## ဋီကာသံဂီတိကာရကဆရာတော်များ

၁၃၂၂-ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၃-ရက်(၅-၁၁-၆၀)နေ့မှ စ၍ ဋီကာသံဂါယနာပွဲကြီးကို နိုင်ငံတော်အစိုးရသည် ၂-နှစ်တိုင်တိုင် ကျင်းပသည်၊ ၁၃၂၃-ခုနှစ် တပို့တွဲလတွင် ပြီးဆုံးလေသည်၊ ထို ဋီကာသံဂါယနာ မဟာဓမ္မသဘင်တွင်—

ပခုက္ကူခရိုင် ရေစကြိုမြို့ အောင်မြေသာယာကျောင်းတိုက်မှ အဂ္ဂမဟာပဏ္ဍိတ (သိက္ခာတော် ၆၈)နှင့် ပတ္တပိုဏ်တိုက်မှ အရှင်ဓမ္မနန္ဒတို့ ပါဝင်ကြသည်။

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက် မဟာနာယက အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရမဟာထေရ်(သိက္ခာတော် ၆၃), မဟာဝိသုတာရာမတိုက်မှပင် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယ (သိက္ခာတော် ၃၉), တိုက်အုပ်ဆရာတော် အရှင်မာဃိန္ဒ (သိက္ခာတော် ၃၉), မဟာဝိသုတာရာမတိုက်မှပင် ဂဏဝါစက အရှင်ကေလာသ (သိက္ခာတော် ၁၁)တို့ ပါဝင် ဆောင်ရွက်တော်မူခဲ့ကြသည်။

ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်မှ တိုက်အုပ်ဆရာတော် အရှင်ဉာဏိန္ဒ မဟာထေရ် (သိက္ခာတော် ၄၇)နှင့် ဆရာတော် အရှင်ဣန္ဒဝံသ ဂဏဝါစက (သိက္ခာတော်-၂၄)တို့ ပါဝင်ဆောင်ရွက်တော်မူခဲ့ကြသည်။

ဖော်ပြပါ ဆရာတော်များသည် ဋီကာသံဂီတိကာရက ဘွဲ့လက်မှတ်တော်ကို လည်း ဆက်ကပ်ခြင်း ခံရသည်၊ ထို့ဋီကာသံဂါယနာပူဇော်ပွဲတွင် ပြည်တွင်း ပြည်ပမှ သံဃာတော်များ ၁၄၅-ပါး ပါဝင်ကြောင်း ဋီကာသံဂါယနာမှတ်တမ်း များအရ သိရသည်။

ဋီကာသံဂီတိကာလေပိ၊ ဝိစက္ခဏာ ဝိသာရဒါ။
ပခုက္ကူပုရတော ထေရာ၊ သံဂီတိဗျာဝဋာ ဗဟူ။

## တိပိဋက ပါဠိ-မြန်မာ အဘိဓာန်အဖွဲ့

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏ လျှောက်ထားချက်အရ မဟာဝိသုတာရာမ တိုက်မှ ဂဏဝါစကစာချဆရာတော်များနှင့် ဥပတ္ထမ္ဘကရဟန်းတော်များ ပါဝင် သော တိပိဋက ပါဠိ-မြန်မာ အဘိဓာန်ကျမ်းပြုအဖွဲ့ကို ၁၃၂၈-ခုနှစ် ဝါခေါင် လတွင် စတင် ဖွဲ့စည်း၍ တိပိဋက ပါဠိ-မြန်မာ အဘိဓာန်ကျမ်းကြီးကို တ-ဝဂ် အစ,အဆုံး ရေးသားပြုစုတော်မူခဲ့ကြသည်၊ အဖွဲ့၏တာဝန်ခံမှာ မဟာဝိသုတာ-ရာမတိုက် တိုက်အုပ်ဆရာတော် အရှင်နန္ဒိယမဟာထေရ်မြတ် ဖြစ်လေသည်၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ အဖွဲ့၏ နဝကမ္မအတွက် တလလျှင် ဝတ္ထုငွေ ၁၃၀၀-ကျပ်ကို ကျောင်းဒကာကြီး ဦးစောဦးအား အပ်နှင်းသည်၊ သင်္ကန်း, ဆေးပစ္စည်းများကိုလည်း အခါအားလျော်စွာ လှူဒါန်းသည်။

# ပခုက္ကူ ဓမ္မကထိကများ

သီဟိုဠ်သာသနာ များစွာခေတ်ကောင်းစဉ်က သီဟိုဠ်ကျွန်း၌ ဓမ္မကထိက အဖွဲ့များ များစွာ ရှိခဲ့ကြောင်း သီဟိုဠ်သာသနာ့သမိုင်းများအရ သိရသည်၊ ထို ဓမ္မကထိက ရဟန်းတော်များ၏ ကြိုးပမ်းမှုကြောင့် သီဟိုဠ်သာသနာသည် များစွာ ပွင့်လင်း စည်ပင်ခဲ့သည်။

## ဓမ္မကထိကအဖွဲ့များ

ပခုက္ကူ၌လည်း ဓမ္မကထိကအဖွဲ့များ တရားဟော၍ သာသနာပြုလျက်ရှိရာ ဝမ်းမြောက်စရာ ကောင်းလှသည်၊ တရားကိုလေးမြတ်သူတို့ ဖော်ပြပါ ဓမ္မကထိကအဖွဲ့ကို အားပေးသင့်ကြသည်၊ ဓမ္မကထိကအဖွဲ့ဝင်များသည် ပင့်ဖိတ်သည့် နေရာဌာနများ, တရားမဏ္ဍပ်များ, စရပ်များ, ဓမ္မာရုံများ, ကျောင်းများတို့သို့ အလှည့်ကျ ကြွရောက် တရားဟောတော်မူကြရသည်၊ ဓမ္မကထိက ရဟန်းတော်တို့၏ ရည်ရွယ်ချက်မှာ ဘုရားရှင်၏ တရားဒေသနာ ပြန့်ပွါးရေး, အဖိုးတန်ဗုဒ္ဓဘာသာဝင်တို့ ပေါ်ထွန်းရေးစသည်တို့ ဖြစ်သည်၊ ဓမ္မကထိကအဖွဲ့များမှာ **လေသာဓမ္မကထိကအဖွဲ့နှင့် ကိန္နရာတောင်ဓမ္မကထိကအဖွဲ့**တို့ ဖြစ်ကြလေသည်။

လေသာဓမ္မကထိက အဖွဲ့မှာ ၁၃၂၂-ခုနှစ်တွင် စတင် တည်ထောင်ခဲ့သည်၊ နာယကဆရာတော်မှာ လေသာတိုက်ဟောင်း ဆရာတော် အရှင်မေဓာ ဖြစ်၍ ယခု အဖွဲ့၏ အကျိုးဆောင်မှာ အရှင်ပညိန္ဒိယ(ဓမ္မာစရိယ အင်္ဂုတ္တရနိကာယ ပါဠိပါရဂူ)ဖြစ်သည်၊ ကိန္နရာတောင်ဓမ္မကထိကအဖွဲ့၏ ဥက္ကဋ္ဌမှာ ကိန္နရာတောင် ဆရာတော် ဦးရေဝတ ဖြစ်၍ အကျိုးဆောင်မှာ ဦးသီရိန္ဒ ဖြစ်လေသည်။

## နိုင်ငံကျော်ဓမ္မကထိက

ဇင်းပြင် သီဟိုဠ်ရှင်ဘုရားကြီး ကျောင်းတိုက် ဆရာတော် အရှင်နန္ဒဝံသ မဟာထေရ်သည် နိုင်ငံကျော် ဓမ္မကထိက ဖြစ်သည်၊ နှစ်စဉ် ရန်ကုန်, ဟသ်ာတ စသည့် မြို့များသို့ ကြွ၍ တရားဟောရသည်၊ ပခုက္ကူရှိ ဆရာတော်၏ သီဟိုဠ်ရှင် ဘုရားကြီးကျောင်းတိုက်၌လည်း ဝါတွင်း,ဝါပ ဥပုသ်နေ့တိုင်း တရားပွဲကျင်းပ၍ တရားဟောရသည်၊ ပရိသတ်မှာ အခါအားလျော်စွာ ရာထောင်မက များပြားတတ်လေသည်။

## ဝိပဿနာဓမ္မကထိက

ၡင်းပြင် သံခိပ် သာယာကုန်းကျောင်းဆရာတော် အရှင်တိလောကသည်လည်း ပခုက္ကူမြို့၌ ကျေးဇူးများလှသော ဝိပဿနာ ဓမ္မကထိက ဆရာတော်ဖြစ်လေသည်။

## တိုက်တွန်းချက်

ကမ္ဘာလောက၌ ရှိသော အမျိုးမျိုး အစားစားသော ဆေးဝါး ဓာတ်စာများအနက် ဘုရားရှင်၏ တရားဆေးတော်နှင့်တူသော ဆေးကောင်း ဆေးမွန် မရှိပါချေ၊ သင်သူတော်ကောင်းတို့သည် ဘုရားဇိနေ၁်၏ တရားဆေးတော်ကို သောက်သုံး မှီဝဲကြပါကုန်။

ယေ ကေစိ ဩသဓာ လောကေ၊ ဝိဇ္ဇန္တိ ဝိဝိဓာ ဗဟူ။
ဓမ္မောသဓသမံ နတ္ထိ၊ ဧတံ ပိဝထ ဘိက္ခဝေါ။

(မိလိန္ဒပဥှာပါဠိတော်၊ ၃၁၉။)

## လူပညာရှိကြီးများ

ပခုက္ကူခရိုင်သည် ရှေးကမှစ၍ ပညာရှိလူပုဂ္ဂိုလ် များစွာလည်း ပေါ်ထွန်းခဲ့ဘူးသည်၊ အင်းဝခေတ်တွင် ထင်ရှားသောစာဆိုတော်ပညာရှိ **ရှင်ကရဝိက** သည် ပခုက္ကူခရိုင် ပခန်းကြီးမြို့ ပိုက်သင်ရွာသား ဖြစ်သည်၊ သက္ကရာဇ် ၁၁၀၀-ခန့်က ဆင်ဖြူရှင်မင်းတရားကြီး လက်ထက်တွင် ထွန်းကားခဲ့သည်၊ စာဆိုတော်ပညာရှိ **ဝဏ္ဏဓမ္မကျော်ထင်**သည် ပခုက္ကူခရိုင် ပခန်းကြီးမြို့ ဖျားသီးရွာဇာတိဖြစ်သည်၊ ဤသို့ စသည်ဖြင့် လူပညာရှိပုဂ္ဂိုလ်တို့ ပေါ်ထွန်းရာဖြစ်ကြောင်း သမိုင်းဟောင်းများအရ သိသာသည်။

## ဓမ္မကထိကဆရာကြီး ဦးကြင်ရွှေ

**ယခု** မျက်မှောက်ခေတ်တွင် ပခုက္ကူမြို့၌ တရားဟောဓမ္မကထိက ဆရာကြီးဦးကြင်ရွှေ ပေါ်ပေါက်၍ အနယ်နယ်အစိုးစိုး အမြို့မြို့အရွာရွာတို့၌ တရားဟောကာ သာသနာဖြန့်ချိ ဓမ္မဒါနပြုလျက်ရှိရာ များစွာ ဝမ်းမြောက်စရာကောင်းလှသည်၊ ဆရာကြီးသည် ဘုရားရှင်လက်ထက်က ဓမ္မကထိက ဒါယကာလူပုဂ္ဂိုလ်များ**အနက်** အမြတ်ဆုံး တေဒဂ်ဘွဲ့ရ စိတ္တသူကြွယ်ကဲ့သို့ မှတ်တမ်းတင်ထိုက်သော ဥပါသကာ လူပုဂ္ဂိုလ်ထူး တဦး ဖြစ်လေသည်။

ဆရာကြီးသည် ၁၃၀၉-ခုနှစ် တန်ဆောင်မုန်းလမှ စတင်၍ ဝိပဿနာသင်တန်းကြီးကို တည်ထောင်၍ ကြွရောက်လာသမျှသော ပရိသတ်အား

ဝိပဿနာတရားများကို ဟောပြောခဲ့သည်၊ ဟောပြောစတွင် ပရိသတ်အနည်းငယ်မှ စတင်ခဲ့ရာ မကြာမီပင် သင်တန်းသား တရားနာပရိသတ် ၄-ထောင်ကျော်အထိ များပြားလာလေသည်။

**ဟောစဉ်များ**

ဆရာကြီးသည် လူပုဂ္ဂိုလ်တို့အား အနည်းဆုံးအားဖြင့် ကလျာဏပုထုဇဉ်ဖြစ်ရေးနှင့် မဂ်ဖိုလ်အခြေဖြစ်ရေးကို ရှေးရှုကာ ဝိပဿနာတရား ဟောပြရာ ဟောစဉ်မှာ ရုပ်,နာမ်,ခန္ဓာ, အာယတန, ဓာတ်, မဂ္ဂင်, ဝိထိစဉ်, လက္ခဏာယာဉ် ၃-ပါး, ဝိပဿနာဉာဏ် ၁၀-ပါး, ပဋိစ္စသမုပ္ပါဒ်,သစ္စာ ၄-ပါး,နိဗ္ဗာန်-တို့ ဖြစ်သည်၊ ဆရာကြီးသည် ဝိပဿနာသင်တန်းခွဲများကို မြိုင်မြို့,ရေနံချောင်းမြို့,ရန်ကုန်မြို့, လှည်းကူးမြို့, ထီးလင်းမြို့, ခန္တီးမြို့, ချောက်မြို့, ဆင်ဖြူကျွန်းမြို့, တောင်တွင်းကြီးမြို့စသည်တို့၌လည်း တည်ထောင်ဖွင့်လှစ်ကာ ဆရာကြီးကိုယ်တိုင် အခါအားလျော်စွာ ကြွရောက်၍ ဟောပြောရသည်၊ ဆရာကြီးသည် ရဟန်းဘဝမှာ သိက္ခာဝါ ၂၀-အထိ စာချ,ဓမ္မကထိက လုပ်ငန်းဖြင့် ပျော်မွေ့ခဲ့ဘူးသဖြင့်လည်း ပရိယတ်အခြေ ခိုင်ခံ့လှသည့် ပညာရှိ ပုဂ္ဂိုလ်လည်း ဖြစ်ပေသည်။

"တရားအလှူသည် အလှူအားလုံးကို အောင်နိုင်၏၊ တရားအရသာသည် အရသာအားလုံးကို အောင်နိုင်၏၊ တရား၌ မွေ့လျော်ခြင်းသည် မွေ့လျော်ခြင်း အားလုံးကို အောင်နိုင်၏။"

"သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ၊
သဗ္ဗရသံ ဓမ္မရသော ဇိနာတိ။
သဗ္ဗရတိံ ဓမ္မရတိ ဇိနာတိ။"

(ဓမ္မပဒ၊ သဏှပဋ္ဌဝတ္ထု၊ ၆၄)

"တရားစာပေ ချပို့သင်ပြပေးသူ, တရားဟောသူ, တရားနာသူတို့သည် နိဗ္ဗာန်အလှူဒါနကို ပြုသူမည်၏။"

"အမတံဒဒေါ စ သော ဟောတိ၊
ယော ဓမ္မမနုသာသတိ၊"

(သံယုတ္တပါဠိ၊ ကိံဒဒသုတ်၊သံ၊၁၊ ၂၉။)

# ပဌမကျော်ဘွဲ့ရ ပုဂ္ဂိုလ်များ

ပခုက္ကူခရိုင်သည် စာပေပိဋကတ် ထူးချွန်စွာတတ်မြောက်သော ရှင်ရဟန်းများစွာ ပေါ်ထွန်းရာဖြစ်သည့်အလျောက် ပဌမကျော်ဘွဲ့ရပုဂ္ဂိုလ် မြားမြောက်စွာလည်း ပေါ်ထွန်းခဲ့ဘူးသည်၊ ထိုပုဂ္ဂိုလ်များအနက် ပဌမ-ကျော်အောင်စံထားဆရာတော်မှာ ကျော်စောထင်ရှားသော ဆရာတော်ဖြစ်သည်၊ ဆရာတော်သည် ရဟန်းမဖြစ်မီ ၁၀၈၆-ခုနှစ် အသက် ၁၉-နှစ်အရွယ်တွင် သုဓမ္မာစရပ်သို့ တက်၍ စာပြန်ဆိုရာတွင် ပဌမကျော်အောင်ပန်းကို ဆွတ်လှမ်းခဲ့သည်။

## ပဌမကျော် ပဋ္ဌင်းတက်ပွဲ

ထိုခေတ် မြန်မာဘုရင်များလက်ထက်တွင် ကဆုန်လတိုင်ရောက်လျှင် ဘုရင်မင်းမြတ်က ဆရာတော်တို့ကို လျှောက်ထား၍ ပဋ္ဌင်းလောင်းတော်,ရှင်လောင်းတော်တို့အား မာရ်အောင်ရတနာ သုဓမ္မာစရပ်၌ စာမေးတော်မူကြရသည်၊ သဒ္ဒါ, သင်္ဂြိုဟ်, ယမိုက်, ပဋ္ဌာန်း, ဉာသ်, ဋီကာ-တိုင်အောင် ပြန်ဆိုနိုင်သော ပဋ္ဌင်းလောင်းတို့ကို သိမ်ဝင်သောအခါ စလွယ်, သင်းကျစ်, ကျိုင်း,ထမ်းစင်, စည်တော်စုံနှင့် ပဌမကျော် ဂုဏ်ထူး ဘွဲ့ထူး ချီးမြှောက်၍ သိမ်ဝင်စေရလေသည်၊ (ကျော်အောင်စံထား ဆရာတော်၏အဖြစ်တော်စဉ်အကျဉ်း (ပဌမ-ကျော်အောင်စံထား ဆရာတော် ၁၇၄ ရှု)။

## ပဌမကျော် လယ်တီ အရှင်ကောဝိဒ

၁၂၆၉-ခုနှစ်တွင် ပုပ္ပါးရှာ၌ ဖွားမြင်ခဲ့သော လယ်တီ အရှင်ကောဝိဒဟု ကျော်ကြားသော ရဟန်းတော်သည် မုံရွာမြို့မှ ကြွလာ၍ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၌ သီတင်းသုံးကာ အဂ္ဂမဟာပဏ္ဍိတ ဆရာတော်အရှင်ပညာ မဟာထေရ်ထံ ဆိုဝါဖြင့် ပိဋကတ်ကို သင်ယူစဉ် ၁၂၈၄-ခုနှစ်တွင် ပဌမကြီးတန်းစာမေးပွဲကို ပခုက္ကူစာဖြေဌာနမှ ဝင်ရောက်ဖြေဆိုရာ အမှတ်အများဆုံးဖြင့် ပဌမကျော်ဘွဲ့ထူးကို ဆွတ်ခူးခဲ့သည်၊ လယ်တီ အရှင်ကောဝိဒသည် မိမိ ပဌမကျော်ဘွဲ့ရပုဂ္ဂိုလ် ဖြစ်ကြောင်း—

"လယ်တီ**ကောဝိဒ**ထေရေန၊ ပဌမကျော် ဉပါဓိနာ။
ဆန္ဒောကာမိနမတ္ထာယ၊ ကတာယံ ဆန္ဒောဘာရတီ"—

ဟူသော ဂါထာဖြင့် ဆန္ဒောဘာရတီကျမ်း နိဂုံးတွင် ဖော်ပြခဲ့သည်။

## ပဌမကျော် အရှင်ပဏ္ဍိတ

၁၂၇၉-ခုနှစ် ပခုက္ကူခရိုင် မြိုင်မြို့နယ် ညှင်းလယ်ရွာ၌ ဖွားမြင်ခဲ့သော အရှင်ပဏ္ဍိတသည် ၁၃၁၂-နှစ်တွင် ပဌမကြီးတန်း စာမေးပွဲကို ပခုက္ကူမြို့ မဟာ-ဝိသုတာရာမတိုက် အဘိဓဇမဟာရဋ္ဌဂုရု အရှင်သုန္ဒရဆရာတော်ဘုရားကြီးထံမှ ဝင်ရောက်ဖြေဆိုရာ ပဌမကျော်အောင်ပန်းကို ဆွတ်လှမ်းခဲ့သည်၊ အရှင်ပဏ္ဍိတ သည် လွန်စွာ ဉာဏ်ထက်မြက်သည်၊ ၁၃၀၉-ခုနှစ် ပဌမလတ်တန်း စာမေးပွဲ၌ လည်း နံပါတ်-၂-မှ စကောလားရှစ် အထောက်အပံ့ဖြင့် အောင်မြင်ခဲ့သည့်ပြင် ၁၃၁၃-ခုနှစ် စာချတန်းတွင် ၉-ကျမ်းလုံး အောင်မြင်သဖြင့် **ဓမ္မာစရိယ-သိရောမဏိ**ဘွဲ့ကိုလည်း တပါးတည်း ဆွတ်ခူးခဲ့သည်၊ ဆင္ဃသံဂါယနာတွင် ပဋိဝိသောဓက, ဩသာနသောဓက တာဝန်တို့ကို ထမ်းဆောင်ခဲ့သည်။

## ပဌမကျော် ရှင်သုစာရိန္ဒ

၁၃၀၉-ခုနှစ် ပခုက္ကူခရိုင် မြိုင်မြို့နယ် ကုန်းစင်ရွာ၌ ဖွားမြင်ခဲ့သော ရှင်သုစာရိန္ဒသည် ၁၃၂၆-ခုနှစ်တွင် ပဌမကျော်ဘွဲ့ထူးကို ဆွတ်ခူးခဲ့သည်၊ ရှင်သုစာရိန္ဒသည် သကျသီဟ သာသနာလက်ာရ သာမဏေကျော်ဘွဲ့ကိုလည်း ၁၃၂၇-ခုနှစ်တွင် ရရှိ၍ ၁၃၂၈-ခုနှစ်တွင် အစိုးရဓမ္မာစရိယဘွဲ့, ဓမ္မာစရိယပါဠိ-ပါရဂူဘွဲ့တို့ကိုလည်း ရရှိပြန်သည်။

ဤသို့ စသည်ဖြင့် ပခုက္ကူခရိုင်သည် ပဌမကျော်ပုဂ္ဂိုလ်ထူး သာသနာ့ အာဇာနည်တို့ ပေါက်ဖွားရာ ခရိုင်နယ်ပယ်လည်း ဖြစ်လေသည်။

ပခုက္ကူသေဋ္ဌဒေသမှိ၊ ဇာတာ ဟိ ကဝိကေသရာ။
ပရိက္ခာဏဂ္ဂလဒ္ဓါ စ၊ အာဇညာ သာသနေ ဝိဒူ။

## ပိဋကတ်ဆောင်

# သာသနာ့အာဇာနည်များ

သာသနာခေတ်ကောင်းစဉ်က ဇမ္ဗူဒီပ၊ သီဟိုဠ်နိုင်ငံတို့တွင် ပိဋကတ်အာဂုံဆောင် ပုဂ္ဂိုလ်များ အများအပြား ပေါ်ထွန်းခဲ့သကဲ့သို့ မြန်မာနိုင်ငံ၌လည်း ပိဋကတ်အာဂုံဆောင်ပုဂ္ဂိုလ်တို့ ပေါ်ထွန်းခဲ့လေရာ ပခုက္ကူခရိုင်မှ အများအပြား ပါဝင်ခဲ့သည်။

### ပိဋကတ် ၃-ပုံဆောင်ပုဂ္ဂိုလ်

ပခုက္ကူခရိုင်မှ ပိဋကတ်သုံးပုံဆောင် ပုဂ္ဂိုလ်ထူး ပေါ်ထွန်းခဲ့သည်။ (တိပိဋက-ဓရ ဓမ္မဘဏ္ဍာဂါရိက အရှင်နေမိန္ဒထေရ် ၈၄-ရှု။)

### ပိဋက ၂-ပုံဆောင်ပုဂ္ဂိုလ်

ပိဋက ၂-ပုံဆောင် ပုဂ္ဂိုလ်မှာ **အရှင်ပညာသာမိထေရ်** ဖြစ်သည်၊ အရှင်ပညာသာမိသည် ၁၂၉၅-ခုနှစ်တွင် ပခုက္ကူခရိုင် မြိုင်မြို့နယ် ခေါင်းကွဲအလယ်ရွာ **ဦးဖိုးမြ- ဒေါ်ကြွယ်ရုံ**တို့မှ ဖွားမြင်သည်၊ ၁၃၁၆-ခုနှစ်တွင် "ဗုဒ္ဓသာသနဝိသိဋ္ဌ-ဒီဃဘာဏက" ဘွဲ့ကို ရရှိ၍ ၁၃၂၀-ခုနှစ်တွင် "ဗုဒ္ဓသာသန ဒီဃနိကာယကောဝိဒ" ဘွဲ့ကို ရရှိသည့်ပြင် ၁၃၂၂-ခုနှစ်တွင် "ဗုဒ္ဓသာသန ဝိသိဋ္ဌ ဝိနယဓရ" ဘွဲ့ကိုလည်း ရရှိခဲ့သည်။

### ပိဋက ၁-ပုံခွဲဆောင်ပုဂ္ဂိုလ်

ဝိနည်း ပိဋကနှင့်တကွ အဘိဓမ္မာပိဋက အောက် ၅-ကျမ်းကို အာဂုံဆောင်နိုင်သည့် ပိဋက ၁-ပုံခွဲဆောင် ပုဂ္ဂိုလ်လည်း ပခုက္ကူမှ ပေါ်ထွန်းခဲ့သည်၊ ၎င်းပုဂ္ဂိုလ်မှာ ပခုက္ကူမြို့ **သာသနဝိပုလာရာမ** မန္တလေးကျောင်းတိုက်မှ ဆရာတော် **အရှင်ကောဝိဒ** ဖြစ်လေသည်၊ ၎င်းဆရာတော်သည် ၁၃၁၃-ခုနှစ်တွင် "ဗုဒ္ဓသာသန ဝိနယဓရ မဟာဝိနယကောဝိဒ" ဘွဲ့ကို ရရှိ၍ ၁၃၁၄-ခုနှစ်တွင် **အဘိဓမ္မာ** အောက် ၅-ကျမ်းကို အာဂုံ ပြန်ဆို အောင်မြင်ခဲ့သည်။

### အင်္ဂုတ္တရနိကာယ်ဆောင်ပုဂ္ဂိုလ်

ပခုက္ကူခရိုင် မြိုင်မြို့အပိုင် သံဘိုရွာ၌ ၁၂၇၆-ခုနှစ် ကဆုန်လဆုတ် ၇-ရက်နေ့တွင် အဘ **ဦးဖိုးခင်- အမိဒေါ်သ**တို့မှ ဖွားမြင်သော **အရှင်သောဘိတာဘိဝံသ** (သက္ကသီဟဓမ္မာစရိယနှင့် **အစိုးရဓမ္မာစရိယ**)သည် ၁၃၁၅-ခုနှစ်တွင်

၆-ကြိမ်မြောက် ကျင်းပသော တိပိဋကဓရ စာမေးပွဲတွင် အင်္ဂုတ္တရနိကာယ်ကို အာဂုံနှင့် ရေးဖြေ ၂-ရပ်လုံးတွင် အောင်မြင်သဖြင့် "ဗုဒ္ဓသာသန အင်္ဂုတ္တရ-ဘာဏက အင်္ဂုတ္တရနိကာယကောဝိဒ"ဘွဲ့ကို ရရှိသည်။

## ပိဋက ၁-ပုံဆောင်ပုဂ္ဂိုလ်များ

ပခုက္ကူမှ ပိဋက ၁-ပုံဆောင် (ဒီဃနိကာယဘာဏက) ရဟန်းတော်များလည်း များစွာ ပေါ်ထွန်းခဲ့သည်၊ ၎င်းပုဂ္ဂိုလ်ကျော်များအနက်—

### အရှင်နန္ဒ

ပခုက္ကူမြို့ မဟာဝိဇယာရာမတိုက်မှ အရှင်နန္ဒသည် ၁၃၂၁-ခုနှစ်တွင် "ဗုဒ္ဓ-သာသန ဒီဃဘာဏက"ဘွဲ့ကို ရရှိသည်။

### အရှင်ဝိသုဒ္ဓ

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်မှ အရှင်ဝိသုဒ္ဓသည် ၁၃၂၂-ခုနှစ်တွင် "ဗုဒ္ဓ-သာသနဝိသိဋ္ဌ ဒီဃဘာဏက"ဘွဲ့ကို ရရှိသည်၊ အရှင်ဝိသုဒ္ဓသည် ၁၂၉၇-ခုနှစ်တွင် ပခုက္ကူခရိုင် ကန်သစ်ရွာ၌ ဖွားမြင်သည်၊ "သာသနဓဇ သိရီပဝရဓမ္မာစရိယ" ဘွဲ့ကိုလည်း ၁၃၂၀-ခုနှစ်တွင် ရရှိခဲ့သည်။

### အရှင်မေဓာဝံသ

ပခုက္ကူမြို့ မဟာဝိသုတာ ရာမတိုက်မှ အရှင်မေဓာဝံသသည်လည်း ၁၃၂၂-ခုနှစ်တွင် "ဗုဒ္ဓသာသန ဒီဃဘာဏက" ဘွဲ့ကို ရရှိသည်။ အရှင်မေဓာဝံသသည် ၁၂၉၉-ခုနှစ်တွင် ပခုက္ကူခရိုင် ကန်သစ်ရွာ၌ ဖွားမြင်သည်၊ "သာသနဓဇသိရီ-ပဝရဓမ္မာစရိယ"ဘွဲ့ကို ရရှိသည့်ပြင် "ဝိဘင်္ဂဒီပါဠိပါရဂူ"ဘွဲ့ကိုလည်း ၁၃၂၇-ခုနှစ်တွင် ရရှိလေသည်။

### ရှင်ကေသဝ (သာမဏေ)

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်မှ သာမဏေ ရှင်ကေသဝသည် ၁၃၂၂-ခုနှစ်တွင် "ဗုဒ္ဓသာသန ဝိသိဋ္ဌ ဒီဃဘာဏက"ဘွဲ့ကို ရရှိသည်၊ ရှင်ကေသဝသည် ၁၃၀၃ ခုနှစ်တွင် ဖွားမြင်ခဲ့သည်။

### အရှင်ဉာဏုတ္တရ

ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်မှ အရှင်ဉာဏုတ္တရသည် ၁၃၂၂ ခုနှစ်တွင် "ဗုဒ္ဓသာသန ဒီဃဘာဏက"ဘွဲ့ကို ရရှိသည်၊ အရှင်ဉာဏုတ္တရသည် ၁၃၀၃-ခုနှစ်တွင် ပခုက္ကူခရိုင် ကန်နီရွာ၌ ဖွားမြင်ခဲ့သည်။

**အရှင်တေဇနိယ**

အရှင်တေဇနိယသည် ၁၂၇၅ ခုနှစ် နယုန်လဆုတ် ၅-ရက်နေ့တွင် ပခုက္ကူခရိုင် မြစ်ခြေမြို့နယ် ရွှေကုံးရပ်တွင် ဖွားမြင်သည်၊ ၁၃၂၂-ခုနှစ်တွင် "ဗုဒ္ဓသာသန ဒီဃဘာဏက" ဘွဲ့ကို ရရှိလေသည်။

**အရှင်သုဒဿန**

အရှင်သုဒဿနသည် ၁၂၈၀-ပြည့်နှစ်တွင် ပခုက္ကူခရိုင် ဂန့်ဂေါမြို့၌ ဖွားမြင်သည်၊ ၁၃၂၂-ခုနှစ်တွင် "ဗုဒ္ဓသာသနဒီဃဘာဏက" ဘွဲ့ကို ရရှိခဲ့သည်။

**အရှင်တေဇောဘာသ**

အရှင်တေဇောဘာသသည် ၁၂၈၈-ခုနှစ်တွင် ပခုက္ကူခရိုင် အရှေ့ချောက်ကန်ရွာ၌ ဖွားမြင်၍ ၁၃၂၇-ခုနှစ်တွင် "ဗုဒ္ဓသာသနဒီဃဘာဏက" ဘွဲ့ကို ရရှိသည့်ပြင် "သာသနဓဇ သိရီပဝရ ဓမ္မာစရိယ" ဘွဲ့ကိုလည်း ၁၃၂၁-ခုနှစ်တွင် ရရှိခဲ့သည်။

ဤသို့ စသည်ဖြင့် ပခုက္ကူမြို့နှင့် ပခုက္ကူခရိုင်သည် သာသနာ့အာဇာနည် ပညာရှင်တို့၏ ပေါ်ထွန်းရာ, ပျော်ရွှင်နေထိုင်ရာ ဖြစ်ကြောင်း အောက်ပါဂါထာဖြင့် မှတ်တမ်းတင်အပ်ပါသည်။

> ပခုက္ကူသေဠဒေသမှိ၊ ထေရာ ဟိ ကဝိပုင်္ဂဝါ။
> ဇာတာ စေဝ နိဝုတ္ထာ စ၊ ပေဠကာ ပိဋကေ ဝိဒူ။

ပဒုက္ကမ

# အဂ္ဂမဟာပဏ္ဍိတဆရာတော်များ

သီဟိုဠ်ကျွန်း မလယဇနပုဒ်(ယခု မာဘာရမြို့နယ်) သည် သီဟိုဠ်မင်း၏ဆက်ကပ် အပ်သည့် ပဏ္ဍိတ်ဘွဲ့ရ ရဟန်းပညာရှိတို့ မြားမြောက်စွာပေါ် ထွန်းရာဖြစ်သကဲ့သို့ ပခုက္ကူခရိုင်သည်လည်း မြန်မာနိုင်ငံ အစိုးရတို့ ဆက်ကပ်အပ်သော အဂ္ဂမဟာ-ပဏ္ဍိတဘွဲ့ရ ဆရာတော်တို့၏ ဓူရနှစ်ပါး အားသစ်ရာ, ပေါ်ထွန်းရာ ဌာနလည်း ဖြစ်ခဲ့သည်။

**ဆရာတော်အရှင်ဇဝန မဟာဝိဇယာရာမတိုက်**

ဆရာတော်သည် ၁၂၉၀-ပြည့်နှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်၊ (ဆရာတော် အရှင်ဇဝနမဟာထေရ် ဂ၉-ရှု)။

**ဆရာတော်အရှင်ပညာ မဟာဝိသုတာရာမတိုက်**

ဆရာတော်သည် ၁၂၉၇-ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်၊ (ဆရာတော် အရှင်ပညာမဟာထေရ် ၅၇-ရှု)။

**ဆရာတော်အရှင်သုန္ဒရ မဟာဝိသုတာရာမတိုက်**

အဘိဓဇမဟာရဋ္ဌဂုရု ကျေးဇူးတော်ရှင် အရှင်သုန္ဒရ ဆရာတော်ဘုရားကြီး သည် ၁၃၁၃-ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်၊ (ဆရာတော် အရှင်သုန္ဒရမဟာထေရ် ၇၂-ရှု)။

**ဆရာတော်အရှင်နန္ဒဝံသ မဟာဝိသုတာရာမတိုက်**

ဆရာတော် အရှင်နန္ဒဝံသမဟာထေရ်သည်လည်း ၁၃၁၃-ခုနှစ်၌ပင် "အဂ္ဂ-မဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်၊ (ဆရာတော် အရှင်နန္ဒဝံသ မဟာထေရ် ၆၁-ရှု)။

**ဆရာတော်အရှင်ဇောတိက မဟာဝိဇယာရာမတိုက်**

ဆရာတော်သည် ၁၃၂၁-ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့ကို အလှူခံရရှိ သည်၊(ဆရာတော် အရှင်ဇောတိကမဟာထေရ် ၉၁-ရှု)။

## ဆရာတော် အရှင်သာသန သာသနဝိပုလာရာမတိုက်

ဆရာတော် အရှင်သာသနသည် ၁၃၂၂-ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်၊ (ဆရာတော် အရှင်သာသနမဟာထေရ် ၁၀၂-ရှု)။

## ဆရာတော် အရှင်ဥတ္တမမဟာထေရ်

ပခုက္ကူခရိုင် မြိုင်မြို့နယ် ယာကြီးပြင်ရွာ၌ ဖွားမြင်ကြီးပွါးခဲ့သော ဆရာတော် အရှင်ဥတ္တမမဟာထေရ်သည် ၁၃၀၂-ခုနှစ်တွင် အင်္ဂလိပ်အစိုးရတို့ လှူဒါန်းသော "အဂ္ဂမဟာပဏ္ဍိတ" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်၊ ဆရာတော်သည် စစ်ကိုင်းတောင်ရိုး တောလေးထပ်ချောင်၌ သီတင်းသုံးတော်မူသည်။

## ဆရာတော် အရှင်သူရိယမဟာထေရ်

ပခုက္ကူခရိုင် မြိုင်မြို့နယ် ခေါင်းကွဲရွာ၌ ဖွားမြင်ကြီးပွားခဲ့သော ဆရာတော် အရှင်သူရိယမဟာထေရ်မြတ်သည် ၁၃၁၅-ခုနှစ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရတို့ လှူဒါန်းသော "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်၊ ဆရာတော်သည် သထုံမြို့ ဓမ္မမေဒနီကျောင်းတိုက်၌ သက်ဆုံးတိုင် သီတင်းသုံးတော်မူခဲ့သည်။

## ဆရာတော် အရှင်ကောသလ္လာဘိဝံသ

ပခုက္ကူခရိုင် မြိုင်မြို့နယ် မြို့သာ ငွေးပင်ရွာ၌ ဖွားမြင်ခဲ့သော ဆရာတော် အရှင်ကောသလ္လာဘိဝံသသည် ၁၃၁၅-ခုနှစ်တွင် နိုင်ငံတော်အစိုးရတို့ လှူဒါန်းဆက်ကပ်အပ်သော "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိသည်၊ ဆရာတော်သည် မန္တလေးမြို့ အနောက်ပြင် မစိုးရိမ် ကျောင်းတိုက်ကြီး၏ မဟာနာယက ဖြစ်တော်မူသည်၊ ၁၂၈၆-ခုနှစ်တွင် သကျသီဟ ပရိယတ္တိသာသနဟိတ မူလ်ဓမ္မာစရိယ-ဘွဲ့ကိုလည်း ရရှိတော်မူသည်၊ ဆရာတော်သည် မာတိကာနယပဒေသ, ဓာတုကထာနယပဒေသ-စသည့် ကျမ်းများစွာကိုလည်း ရေသား စီရင်တော်မူခဲ့သည်။

## ဆရာတော် အရှင်ဉာဏိကမဟာထေရ်

ပခုက္ကူခရိုင် မြိုင်မြို့နယ် ဘင်းကံရွာ၌ ဖွားမြင်ခဲ့သော ဆရာတော် အရှင်ဉာဏိကသည် ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရတို့ လှူဒါန်းသော "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို ၁၃၁၇-ခုနှစ်တွင် အလှူခံရရှိသည်၊ ဆရာတော်သည်

ရန်ကုန်မြို့ သရက်တောကျောင်းတိုက် နှစ်ကျိပ်ရှစ်ဆူကျောင်း၌ သက်ဆုံးတိုင် သီတင်းသုံးတော်မူ၍ သာသနာ့တာဝန်ကို ထမ်းဆောင်တော်မူခဲ့သည်။

### ဆရာတော် အရှင်အရိန္ဒမမဟာထေရ်

ပခုက္ကူခရိုင် မြိုင်မြို့နယ် ခေါင်းကွဲရွာ၌ ဖွားမြင်ခဲ့သော အရှင်အရိန္ဒမမဟာထေရ်သည် ၁၃၁၈-ခုနှစ် ဆဋ္ဌသံဂါယနာအောင်ပွဲတွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့ တံဆိပ်တော်ကို အလှူခံရရှိသည်၊ ဆရာတော်သည် မင်းကွန်းအရိယာမဂ္ဂင်ချောင်၌ သီတင်းသုံးလျက် ဓမ္မရနှစ်ပါးကို ပွါးများအားသစ်တော်မူသည်။

### ဆရာတော် အရှင်စာရိန္ဒာသဘမဟာထေရ်

ဆရာတော်သည် ၁၃၂၀-ခုနှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့ကို အလှူခံရရှိတော်မူသည်၊ (ရေစကြိုမြို့မှ အောင်မြေသာယာကျောင်းတိုက်ကြီးနှင့် ဆရာတော်များ ၁၅၀-ရှု)။

### ဆရာတော် အရှင်နန္ဒမဥ္ဇူမဟာထေရ်

ပခုက္ကူခရိုင် မြိုင်မြို့နယ် အိုရင့်ရွာ၌ ဖွားမြင်ခဲ့သော အရှင်နန္ဒမဥ္ဇူမဟာထေရ်သည် ၁၃၂၀-ပြည့်နှစ်တွင် "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်၊ ဆရာတော်သည် မန္တလေးမြို့ အနောက်ပြင် ချမ်းသာကြီးတိုက် ရတနာဗိမာန်ကျောင်း၌ သီတင်းသုံးတော်မူကာ ဂန္ထန္တရ အဝဝကို ချပို့တော်မူသည်၊ သကျသီဟ ပရိယတ္တိသာသနဟိတ မူလဓမ္မာစရိယ-ဘွဲ့ကိုလည်း ခံယူရရှိတော်မူသည်၊ ဆရာတော်သည် ဆန္ဒမေဒနီ, အလင်္ကာရမေဒနီ စသော ကျမ်းများကို ပြုစီရင်တော်မူသည့် ဂန္ထကာရက ပုဂ္ဂိုလ်တဆူလည်း ဖြစ်တော်မူသည်။

### ဆရာတော် အရှင်ဣန္ဒာသနိမဟာထေရ်

ပခုက္ကူခရိုင် ဘဲကြီးရွာတွင် ဖွားမြင်တော်မူသော ဆရာတော် အရှင် ဣန္ဒာသနိမဟာထေရ်မြတ်သည် ၁၃၂၃-ခုနှစ် ဋီကာသံဂါယနာအပြီးတွင် ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရတို့ လှူဒါန်းသော "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်၊ ဆရာတော်သည် မင်းကွန်းရတနာ့ဂူချောင်၌ သီတင်းသုံးတော်မူ၍ ဓူရ ၂-ပါးကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူသည်၊ ဆရာတော်သည် ရွှေကျင်ဂိုဏ်းကြီး၏ ဝန်ဆောင်ဆရာတော်လည်း ဖြစ်တော်မူသည်။

ဤသို့စသည်ဖြင့် ပခုက္ကူခရိုင်သည် "အဂ္ဂမဟာပဏ္ဍိတ"တံဆိပ်တော်သခင် ဆရာတော်အရှင်သူမြတ်တို့၏ သီတင်းသုံးရာ, ဖွားမြင်ပေါ်ထွန်းရာ ဖြစ်ကြောင်း သိသာလေသည်၊ ဖော်ပြပါ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တော်ရ ပညာရှင်ဆရာတော် တို့၏ သီတင်းသုံး, ဖွားမြင်ရာဖြစ်ပေသော ပခုက္ကူခရိုင်သည် စင်စစ် စိတ်နှလုံး၏ ရွှင်ပြုံးမွေ့လျော် ပျော်ဖွယ်ရာဌာန မှန်လှတော့သည်။

ယာယ ဘူမျာ မဟာထေရာ၊ ပဏ္ဍိတာ သတ္ထကောဝိဒါ။
ဇာတာ စေဝ နိဝုတ္ထာ စ၊ သာ ဘူမိ ရာမဏေယျကာ။

## ပခုက္ကူထွက်

# အဂ္ဂမဟာပဏ္ဍိတ ဆရာတော်များ

ပခုက္ကူ၌ သီတင်းသုံးဘူးသော“အဂ္ဂမဟာပဏ္ဍိတ”ဘွဲ့ရဆရာတော်များမှာ –

အဘိဓာန်နိသျသစ်, မောဂ္ဂလ္လာန်နိသျ, မောဂ္ဂလ္လာန်ပဉ္စိကာနိသျ, အမရကောသနိသျ, မုဒ္ဓဗောဓ နိသျ-စသော မာဂဓ သက္ကတ နိသျ ကျမ်းပြု, ရွှေကျင်နိကာယ ဓမ္မသေနာပတိ, “အဂ္ဂမဟာပဏ္ဍိတ” အဘယာရာမ ဆရာတော် **အရှင်အဂ္ဂဓမ္မာဘိဝံသ** အဘယာရာမတိုက် အနောက်ပြင် မန္တလေး။

အရှင်ရာဇိန္ဒ“အဂ္ဂမဟာပဏ္ဍိတ”ဘုရားဖြူကျောင်းတိုက်ပုဇွန်တောင်ရန်ကုန်။

အရှင်ဉာဏ“အဂ္ဂမဟာပဏ္ဍိတ”မစိုးရိမ်ကျောင်းတိုက် မန္တလေး (၎င်းဆရာတော်သည် ၁၂၆၈-ခုနှစ်တွင် ပခုက္ကူမြို့ ရေစကြိုဆရာတော် အရှင် ဂန္ဓသာရထံရောက်ရှိ ပညာသင်ကြားဘူးသည်။

အရှင် ကောဏ္ဍည“အဂ္ဂမဟာပဏ္ဍိတ”ဘုရားကြီးတိုက် ဆရာတော် ခြောက်ထပ်ကြီး ဘုရားကြီးတိုက် ရန်ကုန်မြို့။

**အရှင် ဇနကာဘိဝံသ** “အဂ္ဂမဟာပဏ္ဍိတ”( အခြေပြုကျမ်းများနှင့် ဘာသာဋီကာ စသည့် မြားမြောက်စွာသော ကျမ်းဂန်တို့ကို ပြုစုရေးသားသူ ) မဟာဂန္ဓာရုံကျောင်းတိုက် အမရပူရမြို့။

ဆရာတော် **အရှင်ပဏ္ဍိတ** “အဂ္ဂမဟာပဏ္ဍိတ” အနီးစခန်းဆရာတော် နိုင်ငံကျော် ဓမ္မကထိက အနီးစခန်းချောင် စစ်ကိုင်းမြို့။

အရှင် နန္ဒိယ “အဂ္ဂမဟာပဏ္ဍိတ” ဆဋ္ဌသံဂါယနာ မြန်မာပြန် ဩဿာနသောကေ ငါးဖယ်တူတောင်ကျောင်း ဟင်္သာတမြို့ (၁၂၅၇-ခုနှစ် ဖွား)။

အရှင် ဥတ္တရာဇီဝ “အဂ္ဂမဟာပဏ္ဍိတ” (ဒွါရနိကာယဝင်) ဒီပါရုံ ဘုရားကြီးကျောင်းတိုက် ရေကြည်မြို့ ပုသိမ်ခရိုင်။

အရှင် အာစိဏ္ဏ“အဂ္ဂမဟာပဏ္ဍိတ”ဒုတိယ ဘုရားကြီး ဆရာတော် ခြောက်ထပ်ကြီး ဘုရားကြီးတိုက် ရန်ကုန်မြို့ (၁၂၅၈-ခုနှစ် ဖွား)။

အရှင် ဝိသုဒ္ဓါဘိဝံသ“အဂ္ဂမဟာပဏ္ဍိတ” ပဋ္ဌာန်းဆရာတော် ပါဠိနယ်ပူပဒေသကျောင်း အနောက်ပြင် မစိုးရိမ်တိုက် မန္တလေးမြို့ (၁၂၆၀-ပြည့်နှစ် ဖွား)။

**အရှင် ရေဝတဓမ္မ** “အဂ္ဂမဟာပဏ္ဍိတ” ဓမ္မိကာရုံကျောင်းတိုက် ဒေဝသာဂရ သိမ်ကုန်း ရန်ကုန်မြို့ (၁၂၄၅-ခုနှစ် ဖွား)။

**အရှင် ကလျာဏာဘိဝံသ** "အဂ္ဂမဟာပဏ္ဍိတ" မဟာဝေယံ ဘုံသာကျောင်း တိုက် အနောက်ပြင် မန္တလေးမြို့ (၁၂၆၅-ခုနှစ် ဖွား)။

**အရှင်အာလောက မဟာထေရ်** "အဂ္ဂမဟာပဏ္ဍိတ" သိန္နီဂိုဏ်းချုပ်ဆရာတော် မင်္ဂလာရုံ မြို့လယ်ကျောင်းတိုက် သိန္နီမြို့ ရှမ်းပြည်မြောက်ပိုင်း (၁၂၅၉-ခု ဖွား)။

**အရှင်နန္ဒမဥ္ဇူ** "အဂ္ဂမဟာပဏ္ဍိတ" ချမ်းသာကြီးတိုက် အနောက်ပြင် မန္တလေး။

**အရှင်ပညာဝံသ** "အဂ္ဂမဟာပဏ္ဍိတ" ဘုရားဖြူဆရာတော် ဘုရားဖြူ ကျောင်း တိုက် ပုဇွန်တောင် ရန်ကုန်မြို့။

ဆရာတော် **အရှင်သောဘိတ** "အဂ္ဂမဟာပဏ္ဍိတ" မဟာဝိသုတာရာမ်က ပခုက္ကူကျောင်းသစ် ကိုးဆောင်တိုက် မြင်းခြံမြို့။

ဆရာတော် အရှင်မိရက္ကဋ္ဌ "အဂ္ဂမဟာပဏ္ဍိတ" (ဒွါရနိကာယဝင်) မဟာရာဇ်-ကာရုံကျောင်းတိုက် ကြည့်မြင်တိုင် ရန်ကုန်မြို့ (၁၂၅၆-ခုနှစ် ဖွား)။

ဆရာတော် အရှင်ဥတ္တမ "အဂ္ဂမဟာပဏ္ဍိတ" ဇောတိကာရာမတိုက် မုံရွာမြို့။

ဆရာတော် **အရှင်ဝိသုဒ္ဓါဘိဝံသ** "အဂ္ဂမဟာပဏ္ဍိတ" ဆဋ္ဌသံဂါယနာ အကျိုး တော်ဆောင် ဝိဇ္ဇာလင်္ကာရတိုက် အနောက်ပြင် မန္တလေးမြို့ (၁၂၆၆-ခုနှစ် ဖွား)

**ဆရာတော် အရှင်ဝိမလ** "အဂ္ဂမဟာပဏ္ဍိတ" (ရွှေကျင် နိကာယ ဝင်) ရွှေဟင်္သာတောရတိုက် ညောင်တုန်းမြို့ စသည်တို့ ဖြစ်လေသည်။

ဤသို့လျှင် ရှေးက ဂန္ဓာရတိုင်း၏ နန်းမြို့တော် တက္ကသိုလ်အတတ်မြို့ တမျှ ပိဋကတ်အတတ် စုံလင်ပြည့်ဝသည့် ပခုက္ကူ ပိဋကတ်အတတ်မြို့တော်၌ နိကာယ် ငါးရပ် ပိဋကတ်ကမ်းကူး လင်းယဉ်မှူး ဖြစ်တော်မူကြသည့် "အဂ္ဂမဟာပဏ္ဍိတ" ဆရာတော်ဘုရားကြီးတို့ထံ ပညာသင်ကြားဆည်းပူး၍ "အဂ္ဂမဟာပဏ္ဍိတ" ဖြစ်ရ ခြင်း, ပညာရှိကြီးများဖြစ်ကြရခြင်းတို့သည် ရွှေပင်၌နားကြသည့် များစွာသော ရွှေကျေး (ရွှေကြက်တူရွေး) တို့ပမာ နှိုင်းခိုင်းစရာ ဖြစ်လှပါတော့သည်။

နိဿာယ ပဏ္ဍိတေ ထေရေ၊ အနေကေ ပဏ္ဍိတာ ဘဝူ။
ယထာ ကဉ္စနရုက္ခမှိ၊ သဏ္ဍိတာ သုဝကာ ဗဟူ။

# ရေစကြိုမြို့
# ကျောင်းတိုက်ကြီးနှင့် ဆရာတော်

## အောင်မြေသာယာ ကျောင်းတိုက်

ပခုက္ကူခရိုင်အတွင်းရှိ ကျောင်းတိုက်များအနက် ရေစကြိုမြို့ ရေစကြိုဝန်မင်းကြီး တည်ဆောက်ခဲ့သော အောင်မြေသာယာ ကျောင်းတိုက်သည် အကြီးဆုံးနှင့် အကောင်းဆုံးဖြစ်သည့်ပြင် ပခုက္ကူ စာသင်တိုက်ကြီးများမှ လွဲလျှင် ခရိုင်အတွင်း သံဃာအများဆုံး ကျောင်းတိုက်ဖြစ်သည်၊ ဆရာတော်အရှင်ဂန္ထသာရ မဟာထေရ်၏ ဆရာသခင်ကျေးဇူးရှင် ဓမ္မပဒမဟာဋီကာစသော ကျမ်းများစွာကိုပြုစုခဲ့သော အရှင်ဝရသမ္ဘောဓိ သီတင်းသုံးတော်မူရာလည်း ဖြစ်သည်၊ ၁၂၄၁-ခုနှစ်မှ စ၍ ဆရာတော် အရှင်ဂန္ထသာရ (တိပိဋက ဘုရင် ဆရာတော် ဘုရားကြီး) လည်း ၁၂၅၈-ခုနှစ်အထိ သီတင်းသုံး၍ စာပေဖြင့် မွေ့လျော်တော်မူခဲ့ဘူးသည်၊ ၁၂၅၈-ခုနှစ်တွင် ပခုက္ကူသို့ နိကာယဏ္ဏဝပါရဂူ အရှင် ဂန္ထသာရ ကြွတော်မူပြီးနောက် **အရှင်စာရိန္ဒာသဘ** "အဂ္ဂမဟာပဏ္ဍိတ" ထေရ်သည် **အောင်မြေသာယာ** သူဌေးတိုက်ကြီး၏ ဦးစီးနာယက ပဓာနမုရန္ဓရ ဖြစ်လာ **တော်မူလေသည်**။

## ရေစကြိုကျောင်းကြီး

အရှင်စာရိန္ဒာသဘ လက်ထက်တွင် မော်လမြိုင်ကျွန်းမြို့ သင်္ဘောပိုင်,မြေပိုင်ရှင်, စက်သူဌေး **ဦးချင်း - ဒေါ်လှဝင်း**တို့က လေးထပ်တိုက်, သုံးထပ်တိုက်, နှစ်ထပ်တိုက်,ဆွမ်းစားတိုက်,စောင်းတန်းသုံးသွယ် မဟာရံတံတိုင်း ပတ်ပတ်ဝိုင်း စေကာ သိန်းပေါင်းများစွာသော ငွေအသပြာကို စွန့်လွှတ်၍ သံဃိကလှူဒါန်း လေသည်။

## ဆရာတော် အရှင်စာရိန္ဒာသဘ

အရှင်စာရိန္ဒာသဘ ဆရာတော်သည် ဘုန်းကံကြီးမားသည်၊ မြောင်မြို့နယ် ငါးပါယ်ရွာ၌ **ဦးစံဝိုင်း-ဒေါ်ရွှေမယ်**တို့မှ ဖွားမြင်၍ ၁၃၂၈-ခု တပေါင်းလဆန်း ၅ရ-က်နေ့ ည ၁၀-နာရီကျော်အချိန် သက်တော် ၉၃-နှစ် ဝါတော် ၇၃-ဝါတွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်၊ ဆရာတော်သည် မိုင်းခိုင်း သာသနာပိုင် ဆရာတော်၏ ကိုးမြို့ ဂိုဏ်းချုပ်အဖြစ် ခန့်အပ်ခြင်းကို ခံရသည့်ပြင် ဆဋ္ဌ-သံဂါယနာ ဩဝါဒါစရိယနှင့် ဆဋ္ဌသံဂါယနာ သံဃနာယကလည်း ဖြစ်တော်မူ

သည်၊ နိုင်ငံတော်အစိုးရ၏ "အဂ္ဂမဟာပဏ္ဍိတ"ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းကို
လည်း ခံရတော်မူသည်။

**စာရိန္ဒော** သီလဝါ မိရော၊ **ပခုက္ကူ**ဝံသပါလကော။
**အောင်မြေသာယာ**ဝိဟာရေပိ၊ အဓိပတိ ဓုရန္ဓရော။

ဆဋ္ဌသံဂီတိကာလေပိ၊ **မရမ္မရဋ္ဌေ** ပဝတ္တိတေ။
သြဝါဒါစရိယဘူတော စ၊ နာယကတ္တံ မုပါဂတော။

သောပိ နာမ မဟာထေရော၊ နာတိတော လောကမမ္မတံ။
သိဿေ ဟိတွာ ပလုဇ္ဇိတ္ထ၊ ဟာ နိစ္စာ လောကဓမ္မတာ။

# မအူဆရာတော်ဘုရားကြီး

## ( အရှင်နာရဒမဟာထေရ် )

မအူဆရာတော်ဘုရားကြီးသည် သာသနာတွင်ရနိုင်ခဲ့သည့် သီလဝန္တ သိက္ခာကာမ ဝိနယဂရုက-ပုဂ္ဂိုလ်ကြီး ဖြစ်ပါပေသည်။

ဆရာတော်သည် ပခုက္ကူခရိုင် ရေစကြိုမြို့နယ် ကျောက်ဖူးရွာ အဘ **ဦးခ-အမိဒေါ်သ**တို့မှ ၁၂၂၉-ခုနှစ် နယုန်လဆန်း ၁၄-ရက် စနေနေ့ နံနက် ၃-နာရီကျော်တွင် ဖွားမြင်တော်မူသည်၊ မိဘတို့က **မောင်ထွန်း**ဟု မှည့်ခေါ်ကြသည်၊ မွေးခါစ ကလေးဘဝကပင် အနာဂတ်တွင်ရဟန်းဖြစ်၍ ဝိနယဂရုကပုဂ္ဂိုလ်ဖြစ်မည်ကို အမျိုးသမီးတို့ ချီပိုးယုယမှုမကြိုက်မနှစ်သက်ခြင်းဖြင့် ပြသခဲ့လေသည်၊ ဆရာတော် လောင်းလျာသည် ၇-နှစ်သားအရွယ်လောက်တွင် ကျောက်ဖူးရွာဘုရားကြီးတိုက်သို့ မိဘတို့အပ်နှံကြသဖြင့် သင်ပုန်းကြီး, မင်္ဂလသုတ်, နမက္ကာရ, ပရိတ်ကြီး, အောင်ခြင်းဂါထာ, ရတနာရွှေချိုင့်, လောကနီတိ, ဇာတ်ကြီးဆယ်ဘွဲ့ စသော ထိုခေတ်က သင်ကြားရိုးရှိသည့် ကျမ်းစာများကို သင်ကြားခဲ့သည်၊ အသက် ၁၃-နှစ်သားအရွယ်တွင် ကျောက်ဖူးဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ သာမဏေဝတ်ခဲ့သည်၊ ကျောက်ဖူးဆရာတော်ထံ၌ သဒ္ဒါ, သင်္ဂြိုဟ်, အဘိဓာန်, အလင်္ကာ, မာတိကာ ဓာတုကထာအရကောက်, ညဝါ ပုဒ်စစ် စသည်တို့ကို ၃-နှစ်တိုင်ရုံမျှဖြင့် နှုတ်တက်အာဂုံရ သင်ယူခဲ့သည်၊ ၎င်းနောက် ကျက်ဆူကျင်းရွာ သုံးတောင်ပိုင်ဆရာတော်ထံတွင် ကိုးကြောင်းခရိုင် ဗေဒင်လက်ရိုးတို့ကို ကြိုးစားသင်ခဲ့၍ ဗေဒပါရဂူ ဖြစ်ခဲ့သော်လည်း ရှင်လူ မသိရပေ၊ ထို့ပြင်ရွာထောင်ရွာ ဆပ်သခင်း ပစ္ဆိမာရုံတိုက် ဆရာတော်ကြီးထံတွင် ဝိနည်းငယ်လေးစောင်, ကင်္ခါအဋ္ဌကထာတို့ကို အထွက်, အတက်, အနက်, အဓိပ္ပါယ်နှင့်တကွ သာမဏေဘဝဖြင့် ပေါက်မြောက်အောင် သင်ကြားခဲ့သည်။

ဆရာတော် လောင်းလျာသည် ၁၂၄၈-ခုနှစ်တွင် ပစ္ဆိမာရုံ ဆရာတော်ဘုရားကြီးကိုပင် ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်လေသည်၊ ပဉ္စင်းသစ် **အရှင်နာဒ**ရသည် ဥပဇ္ဈာယ်ဆရာတော်ထံ၌ ၂-နှစ်ကျော် ဆက်လက်ပညာသင်ကြားပြီး ကိုင်းရွာ ဘုံသာတိုက်ဆရာတော် ဦးပုည, ချောင်း ဦးရွှေတောင်ကျောင်း ဆရာတော်, မန္တလေးမြို့ အရှေ့ပြင် တိုက်တော် ဆရာတော်, ကျက်ဆူကျင်းဆရာတော်တို့ထံ၌လည်း နေ့ဝါ ညဝါ အဖြာဖြာကို အာစရိယမုဋ္ဌိ ရရှိအောင် သင်ယူခဲ့သည်။

ရဟန်းသိက္ခာ ၅-ဝါအရတွင် ကျေးဇူးတော်ရှင် ဒီဃဒဿီ ရေစကြိုဆရာတော်ဘုရားကြီး အရှင် ဂန္ထသာရထံမှောက် ရောက်၍ ပိဋကသုံးသွယ် နိကာယ် ၅-ရပ်ကို ကြီးမြတ်သည့် လုံ့လ ဝီရိယတို့ဖြင့် သင်ယူတော်မူခဲ့သည်၊ စဏ္ဍဝဇ္ဇီထေရ်သည် မောဂ္ဂလိပုတ္တတိဿထေရ် လောင်းလျာအား ကျနစွာ ပိဋကတ်ကို လက်ထပ်သင်ပေးသကဲ့သို့၎င်း၊ အရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်သည် အရှင်မဟိန္ဒထေရ်အား ငါး နိကာယ်ကို လက်ဝယ်အပ်နှင်း သင်ကြားပေးသကဲ့သို့၎င်း၊ အရှင်ဓမ္မရက္ခိတ ထေရ်သည် အရှင်နာဂသိန်အား ၃-လအတွင်း တိပိဋက ပါရဂူအဖြစ်ရောက်အောင် ချီးမြှောက် သင်ကြားပေးသကဲ့သို့၎င်း၊ အရှင်ဂန္ထသာရ မဟာထေရ်သည် နှစ်အနည်းငယ်အတွင်း ပိဋကတ် သုံးသွယ်ကို ရဟန်းငယ် အရှင်နာရဒ၏ နှလုံးအိမ်သို့ အရောက် အပ်နှင်း သင်ကြားပေးတော်မူသည်။

ဆရာတော်သည် ရေစကြိုမြို့ ကျောင်းဒါယကာကြီး ဦးစိန်နှင့် အခြား ဒကာ၊ ဒကာမတို့၏ လျှောက်ထားချက်အရ ရေစကြိုမြို့ မင်းအိုတိုက်၌လည်း ၅-ဝါ သီတင်းသုံးကာ စာပေပို့ချတော် မူသေးသည်၊ အင်းစိန်မြို့၌ ၁-ဝါသီတင်းသုံးတော်မူ၍ ဆန်းကျမ်း၊ ကလာပ်ကျမ်းတို့ကိုလည်း လေ့လာသုံးသပ်တော်မူခဲ့သည်၊ ဆရာတော်သည် ရွာငယ်ရွာ မြင်းတန်းကုန်း တောကျောင်း၌ ၁-ဝါဆို၍ ကမ္မဋ္ဌာန်းဘာဝနာကို ပွါးများ အားသစ်တော်မူသည်၊ မအူအလယ်ရွာ သူကြီးမင်း ဦးငွေရောင်-စသော ဒကာ၊ ဒကာမတို့က တောင်းပန်သဖြင့် ဆုတောင်းပြည့်ကျောင်းတိုက်သို့ ရွှေ့ပြောင်းကာ စာပေပို့ချတော်မူသည်၊ တဖန် ရွှေချုံမှော်တိုက်သို့ ပြောင်းရွှေ့၍ ဂန္ထဓူရဝန်ကို ဂ-နှစ်ကြာမျှ ကြိုးပမ်းထမ်းဆောင်တော်မူသည်၊ ၎င်းပြင် ဦးရွှေခန်း၊ ဦးရွှေဆိုင်-စသော ဒါယကာတို့၏ လျှောက်ထားချက်အရ မအူအလယ်ရွာ၌ပင် မဟာဝိဇိတာရာမ ကျောင်းတိုက်ကြီးကို အလှူခံတော်မူ၍ ယင်းကျောင်းတိုက်ကြီး၌ ၁၆-နှစ်တိုင်တိုင် ရေစကြိုဆရာတော်ဘုရားကြီးထံမှ ရအပ်၊ ဆည်းပူးအပ်ခဲ့သော ဥပဒေသ၊ ပရမ္ပရာဘတဝိနိစ္ဆယ အဝဝတို့ကို စာသင်သားတို့အား အဆန်းတကြယ် ချပို့နည်းပေးတော်မူခဲ့သည်။

## ကျမ်းဂန်ပြုစုတော်မူခြင်း

ဆရာတော်သည် ဝိနိစ္ဆယ အမျိုးမျိုး၊ ဝါကျသွား အဖြာဖြာ၊ နိယံအဖုံဖုံတို့ဖြင့် စုံလင်စွာ တန်ဆာဆင်လျက်—

၁။ ပါရာဇိကဏ်ပါဠိတော်နိဿျ

၂။ ပါစိတ်ပါဠိတော်နိဿျ

၃။ မဟာဝါပါဠိတော်နိဿျ

၄။ စူဠဝါပါဠိတော် နိဿျ

၅။ ပရိဝါပါဠိတော်နိဿျ

၆။ ပါရာဇိကဏ်အဋ္ဌကထာနိဿျ

၇။ ပါစိတျာဒိအဋ္ဌကထာနိဿျ—

ဟူသော ကျမ်းဂန်တို့ကိုလည်း ရေးသား စီရင်တော်မူခဲ့သည်။

**ဝိနယဂရုကတာဂုဏ်**

ဆရာတော်သည် ဝိနည်းသိက္ခာပုဒ်တော်၌ အလွန်အလေးဂရုပြုတော်မူသည်၊ စာသင်သွားသောအခါ ရဟန်းငယ်ဘဝကပင် အနာမာသဝတ္ထုကို ကိုင်ခံတော်မမူသဖြင့် ဆိုင်ရာ ဒကာ၊ ဒကာမတို့က သီတင်းသုံးမည့်ဌာနသို့အရောက် လိုက်ပို့ကြ၍ ကပ္ပိယကာရက သင့်လျော်ရာ၌ အပ်ခဲ့ကြရသည်၊ ဘဝနတ်ထံ စံလွန်တော်မူသည်အထိ ထိုခေတ်ကသုံးခဲ့သည့် မူးစေ့ မတ်စေ့ -စသည်များကို သိသွားတော်မမူခဲ့၊ ဆရာတော်သည် မလွဲသာ၍ ရေကြောင်းသင်္ဘောခရီး သွားရသော်လည်း ကျိန်းစက်တော်မမူပဲ မှီရာထိုင်ခုံ၌ မှေးရုံသာ မှေးတော်မူသည်၊ ဆရာတော်သည် စက္ခုန္ဒြေဖြင့် အထွေထွေ အဖုံဖုံ အာရုံတို့ကို ယူရိုး ရှိတော်မမူရုံမျှမက ဝတ်ပြုလာသော ဒကာ၊ ဒကာမတို့အား ကိုယ်တော်က စတင် နှုတ်ဆက်ပြီး ရက်ရက်ရောရော ပြောပြောဆိုဆို အလိုအကြိုက် သူ့စရိုက်သို့ လိုက်ရိုးအစဉ်အလာလည်း ရှိတော်မမူခဲ့ပေ၊ ဆရာတော်သည် လေးတောင်ထက်လွန်၍ ကြည့်ရှုတော်မမူဟု အဆိုရှိသည်၊ ရေစကြိုဆရာတော်ဘုရားကြီး သက်တော်ထင်ရှားရှိစဉ်က **မအူကျောက်ရုပ်**ဟုလည်း သုတိသညာ ပေးခဲ့ဘူးသည်၊ မအူဆရာတော် ဘုရားကြီးသည် ၁၂၉၃-ခုနှစ်တွင် ပခုက္ကူမြို့ မဟာဝိသုတာရာမ ကျောင်းတိုက်ကြီးသို့လည်း ဆရာတော် အရှင်ပညာထေရ် ပင့်လျှောက်၍ ဓမ္မပူဇာ ပြုအံ့သောငှါ . ကြွလာတော်မူပြီး ၁-နှစ်တိတိ သီတင်း သုံးတော်မူဘူးသည်၊ ကျောင်းကြီးပေါ်၌ သီတင်းသုံး၍ **ဇေယျသုခတိုက်ကျောင်း** ဆိုင်းဘုတ်အောက်မှ ဖြတ်ကာ နေ့စဉ်ရေချိုးအိမ်သို့ကြွပြီး ရေချိုးသော်လည်း မော့၍ တခါမျှ ကြည့်တော်မမူဘူးပေ၊ ဖက်ပင်အိုင်ဆရာတော်ကြွလာ၍ ဇေယျသုခတိုက်ကျောင်း၌ သီတင်းသုံးနေစဉ် မအူဆရာတော်အား ဇေယျသုခတိုက်သို့ ကြွရန်ပင့်ရာ ဇေယျသုခတိုက်ကျောင်းကို ဆရာတော်က မသိဟု မိန့်တော်မူသည်၊ ဝိသုဒ္ဓိမဂ် သီလနိဒ္ဒေသလာ စိတ္တဂုတ္တမဟာထေရ်ကြီးကဲ့သို့ စက္ခုန္ဒြေစောင့်စည်းမှု၌ တူလှပါပေသည်။

ဤသို့စသည်ဖြင့် ရေး၍မကုန် ဂုဏ်တော်အသခေ်ျတို့နှင့် ပြည့်စုံတော်မူသော သီလမေရု, သမာဓိမြေအထု, ပညာစု သမုဒ္ဒရာပင်လယ်ကြီး ဖြစ်တော်မူပါသော မအူဆရာတော်ဘုရားကြီးသည် သက်တော် ၇၁-နှစ် ၁၀-လ ဝါတော် ၅၂-ဝါ အရ ၁၃၀၀-ပြည့်နှစ် တပေါင်းလတွင် နတ်ပွဲသဘင် ဝင်တော်မူလေပြီ။

ဘဒ္ဒန္တနာရဒေါ ထေရော၊ ဝိဇိတာရာမဂ္ဂလာယော။
ဗဟုဿုတော ဝိဘာဝီ စ၊ ကောသာရက္ခော မဟောသိနော။

သောပိ နာမ မဟာထေရော၊ နာတီတော ဇာဂမမ္ဒတံ။
သိသော ဟိတွာ ပလုဇ္ဇိတ္တ၊ ဟာ’နိစ္စာ ဇာဂမမ္ဒတာ။

စသည်တို့ ကျင်းပမြဲ ဖြစ်သည်၊ ဝါဆိုလပြည့်နေ့တွင် ဗာရာဏသီမြို့တော် မိဂဒါဝုန်၌ ဘုရားရှင် ဓမ္မစကြာတရားဦး ဟောတော်မူရာ နတ်,ဗြဟ္မာ ၁၈-ကုဋေတို့ ကျွတ်တမ်းဝင်ကြသည်၊ သီဟိုဠ်ကျွန်း မဟာစေတီ ဓာတ်တော်ဌာပနာပွဲကိုလည်း ဝါဆိုလပြည့်နေ့၌ ကျင်းပကြသည်၊ ထို့ကြောင့် ဝါဆိုလသည်လည်း လ,ထူးလ,မြတ်ဖြစ်ပေသည်၊ ထို့အတူ ပခုက္ကူ၌ ထူးခြားသည့် ဝါဆိုလတွင် ပဍ္ဍင်းခံပွဲများ, ဝါဆိုသင်္ကန်းကပ်ပွဲများ, ငယ်သူက ကြီးသူကို ပူဇော်ကန်တော့ပွဲများ ပြုလုပ်လေ့ရှိကြသည်၊ ပခုက္ကူအနောက် ကမ္မရွာမှ ဂေါတမဘုရားပွဲတော်သည် ဝါဆိုလတွင် ကျင်းပမြဲ ဖြစ်လေသည်။

## ဝါခေါင်လ ပွဲတော်များ

ဝါခေါင်လ၌ ရှေးမြန်မာမင်းများ လက်ထက်မှ စ၍ ရဟန်းသံဃာတော်တို့အား ဆွမ်း ခဲဘွယ်နှင့် သင်္ကန်းစသော ပရိက္ခရာတို့ကို စာရေးတံမဲချ၍ လှူဒါန်းသည့် အလှူပွဲများ ကျင်းပလေ့ရှိကြသည်၊ ဘကြီးတော်မင်းလက်ထက် စာရေးတံချလှူပွဲကို ရာဇဝင်တော်ကြီးတွင် သုတေသီတို့ ကြည့်ရှုနိုင်ကြသည်၊ ပခုက္ကူ၌လည်း တောရေမြို့ပါ ဝါခေါင်လတွင် သီတင်းစဉ်ဘုရားပွဲများနှင့်ဓမ္မာရုံဘုရားပွဲများကို ဒေသအလိုက် ကျင်းပကြကာ ကုသိုလ်ကောင်းမှုဖြင့် ပျော်ကြပါးကြပေသည်၊ အထူးသဖြင့် ဝါခေါင်လတွင် တန့်ကြည့် စွယ်တော်ဘုရားပွဲမှာ လွန်စွာ စည်ကားလှသည့် တိုင်းသိပြည်သိ ဘုရားပွဲတော်ကြီး ဖြစ်လေသည်။

## တော်သလင်းလ ပွဲတော်များ

တော်သလင်းလ ကန်ရာသီတွင် မိုးလေရှင်း၍ လှိုင်းရေ ငြိမ်သက်သောကြောင့် ဧရာဝတီမြစ်တွင် လှေပြိုင်ပွဲများ ကျင်းပရိုးရှိကြသည်၊ ပခုက္ကူ၌ကား တောရေ မြို့ပါ ဝါတွင်းဖြစ်သည့်အတိုင်း ဒါန, သီလ, ဘာဝနာဖြင့် မွေ့လျော်ကြသည်၊ ရှစ်ပါးသီလ, ကိုးပါးသီလ ဆောက်တည်ကြသည့် ဥပါသကာ, ဥပါသိကာတို့မှာ တောရေ မြို့ပါ ဘုရားဝင်း, ကျောင်းဝင်းရှိ စရပ်, တန်ဆောင်းတို့၌ အပြည့် တွေ့မြင်နိုင်သည်၊ ဘုရားဆွမ်းချပွဲ, ဆွမ်းသပိတ်လှူပွဲတို့လည်း လွန်စွာ ပေါများလှသည်၊ ပခုက္ကူ ရွှေကူရပ်မှ ရှင်ပင်ရတနာ မြတ်ချမ်းသာ ပွဲတော်, စာတိုက်တန်းမှ ဓမ္မာရုံပွဲတော်တို့လည်း တော်သလင်းလ၌ ကျင်းပကြသည်၊ အထူးသဖြင့် အလောင်းစည်သူမင်းကြီး၏ ကုသိုလ်တော် ကွမ်းရွာမှ ရွှေတန့်တစ်ဘုရားပွဲသည် ထင်ရှားသော ဘုရားပွဲတော် ဖြစ်လေသည်။

## သီတင်းကျွတ်လ ပွဲတော်များ

သီတင်းကျွတ်လ တူရာသီတွင် ဘုရားရှင့်မယ်တော် နတ်သား အမှူးရှိသည့် ကုဋေ ၈၀-သော နတ်ဗြဟ္မာတို့အား အဘိဓမ္မာ တရားအမြိုက်ဆေး တိုက်ကျွေး

ပြီး နတ်ပြည်မှပြန်ကြ၍ ဆင်းသက်ခဲ့ဘူးသည်ကို အကြောင်းပြုလျက် မီးစောင်းတန်း, မီးမြင်းမိုရ်များ ထွန်းညှိကာ မီးပူဇော်မှုများကို မြန်မာပြည် အရပ်ရပ်၌ ပြုလုပ်လေ့ရှိကြသည်၊ ပခုက္ကူ၌လည်း တောရော မြို့ပါ မီးထွန်းပွဲကို ခမ်းနားစွာ ကျင်းပ ပြုလုပ်ကြသည်၊ ဝါကျွတ်ပြီဖြစ်၍ သံဃာတော်များလည်း အချင်းချင်း သိက္ခာ ဝါငယ်သည့် ရဟန်းတော်က သိက္ခာ ဝါကြီးသည့် အရှင်မြတ်အား ကန်တော့ကြသည်၊ ပခုက္ကူ မဟာဝိသုတာရာမတိုက်ကြီး၌ စာသင်, စာချ ရဟန်း သံဃာတော် ရာပေါင်း များစွာတို့က မဟာဝိနာယက ဆရာတော် ဘုရားကြီးနှင့် တိုက်အုပ်ဆရာတော် အရှင်မြတ်တို့အား သီတင်းကျွတ် လပြည့်နေ့တွင် ကန်တော့ကြသည်မှာ လွန်စွာ နည်းယူစရာ ကောင်းလှသည့် သာသနာ့ယဉ်ကျေးမှုကြီး ဖြစ်လေသည်၊ ပဝါရဏာပွဲများလည်း လွန်စွာ ပေါများလှ၍ ကထိန်ပွဲများကိုလည်း ပြောက်ကျား ပြောက်ကျား တွေ့ရှိရသည်၊ သီဟိုဠ်ရှင်ဘုရား မီးထွန်းပွဲနှင့် ရွှေကူ ဘုရားပွဲတော်, ရွှေကူဘုရားလှည့် ပွဲတော်ကြီးမှာ လွန်စွာ စည်ကားလှပေသည်။

## တန်ဆောင်မုန်းလ ပွဲတော်များ

တန်ဆောင်မုန်းလ ဗြိစ္ဆာရာသီတွင် ကထိန်သင်္ကန်း ကပ်လှူပွဲ, တန်ဆောင်တိုင်ပွဲ, မသိုးသင်္ကန်းရက်ပွဲတို့ကို မြန်မာနိုင်ငံ၌ ကျင်းပရိုးဖြစ်သည်၊ ပခုက္ကူ၌လည်း ကထိန်ပွဲများ လွန်စွာ ပေါများသဖြင့် ကျောင်းရှိလျှင် ကထိန်ရှိတော့သည်၊ ပခုက္ကူ ဈေးကထိန်ပွဲသည် တနိုင်ငံလုံးရှိ ကြီးကျယ်သော ကထိန်ပွဲများတွင် ပါဝင်နိုင်လေသည်၊ ဖောင်တော်ဦးဘုရားပွဲ, မသိုးသင်္ကန်းရက်ပွဲတို့မှာ ပခုက္ကူမြို့၌ နှစ်စဉ်ကျင်းပသော ပွဲတော်များ ဖြစ်လေသည်။

## နတ်တော်လ ပွဲတော်များ

နတ်တော်လ ဓနုရာသီတွင် မဟာပိန္နဲနတ် ပူဇော်ပွဲကျင်းပရိုးမှာ အင်းဝခေတ်က ရှိခဲ့ဘူးသည်၊ ပခုက္ကူ တောဖက်တွင် နတ်တော်လဘုရားပွဲများ ပို၍ များပြားသည်၊ ပခုက္ကူခရိုင် ယုန်ဆင်းရွာမှ ဒေဝေါသဓပွဲတော်သည် အသိများသော ဘုရားပွဲတော် ဖြစ်လေသည်။

## ပြာသိုလ ပွဲတော်များ

ပြာသိုလသည်လည်း ထူးခြားသော လ,ဖြစ်သည်၊ ဘုရားရှင် ဘုရားအဖြစ်သို့ ရောက်၍ ၉-လမြောက်တွင် သီဟိုဠ်ကျွန်းသို့ ပဌမအကြိမ်ကြွပြီး ဘီလူးတို့ကို တရား ဟောတော်မူသည်၊ ပြာသိုလ မကာရရာသီတွင် သေနင်္ဗျူဟာ အခမ်းအနားတရပ်နှင့် မြင်းခင်းပွဲ, ဆင်ခင်းပွဲများကို မြန်မာတို့ ရှေးက ကျင်းပရိုး

ရှိကြသည်၊ ပခုက္ကူမြို့ ဆုံကုန်းရွာ၌ မြလွန်းရန် ဘုရားပွဲ, ပေါက်မြို့ လောကဒီပ ဘုရားပွဲ စသည်ဘို့မှာ ပြာသိုလ၌ ကျင်းပကြလေသည်။

## တပို့တွဲလ ပွဲတော်များ

တပို့တွဲလ ကုံရာသီတွင် မီးပုန်းယာဂုလှူပွဲကို မြန်မာတို့ ကျင်းပလေ့ရှိကြသည်၊ ပခုက္ကူ၌ ကုသိနာရုံဘုရားပွဲ, ထမနဲပွဲ, ဆင်ကြီးရွှေဂူဘုရားပွဲ, ကျောက်တောင် ရွှေအုံးတောက်ဘုရားပွဲတို့ကိုလည်း တပို့တွဲလ၌ ကျင်းပကြသည်။

## တပေါင်းလ ပွဲတော်များ

တပေါင်းလတွင် ဘုရားရှင် ရာဇဂြိုဟ်မှ ကပိလဝတ်ပြည်သို့ ကြွတော်မူသည်၊ တပေါင်းလ၏ သာယာပုံအမျိုးမျိုးကို ဗုဒ္ဓဝံသအဋ္ဌကထာ ၂၈၊ ၃၇-နှင့် အပဒါန-အဋ္ဌကထာ ဒုတိယအုပ် ၂၅၈၊၂၆၁-တို့၌ တွေ့ရသည်၊ ရှင်အုန်းညို၏ ဂါထာခြောက်ဆယ်ပျို့, ရှင်ဥတ္တမကျော်၏ တောလားကြီးများသည်လည်း ဖော်ပြပါ ဂါထာခြောက်ဆယ်ကို မှီ၍ ရေးစီခဲ့ကြသည်၊ တပေါင်းလ မိန်ရာသီတွင် သဲပုံစေတီပွဲကို မြန်မာတို့ ကျင်းပရိုး ရှိကြသည်၊ ပခုက္ကူ၌ ပေါက်မြို့နယ် ရွှေပေါင်လောင်ဘုရားပွဲတော်, ဂန့်ဂေါမြို့ စွယ်တော်ရှင်ဘုရားပွဲတော်, ထီးလင်းမြို့ အလောင်းစည်သူဘုရင် တည်ခဲ့သည့် ရွှေကွန်အုပ်ဘုရားပွဲတော်, အုန်းကွဲရွာ မာရ်အောင်ရတနာဘုရားပွဲတော် စသည်တို့သည် တပေါင်းလ၌ ကျင်းပရိုး ရှိကြလေသည်။

ဤသို့ဖြင့် ပခုက္ကူမြို့သူ မြို့သား နယ်သူနယ်သား တို့သည် ရတနာသုံးရပ်ကို မပြတ် ဆည်းကပ် ကိုးကွယ်ကြ, ကုသိုလ်ကောင်းမှုပြုကြဖြင့် ပျော်မွေ့ကြသူများ ဖြစ်ကြရာ ဘုရားရှင်လက်ထက်က သာဝတ္ထိ, ရာဇဂြိုဟ် မြို့သူ မြို့သားများ, သီရိဓမ္မာသောကမင်းလက်ထက်က ပါဋလိပုတ် မြို့သူ မြို့သားများ, ဒေဝါနံ ပိယတိဿမင်းလက်ထက်, ဒုဋ္ဌဂါမဏိမင်းလက်ထက်တို့က သီဟိုဠ်ကျွန်း အနုရာဓ မြို့သူ မြို့သားများနှင့်မခြား အလားတူကြသည် ဟု ဆိုထိုက်လေသည်။

ပခုက္ကူသေဋ္ဌဒေသမှိ၊ ပါယသော ဗဟဝေါ ဇနာ။
ဝတ္ထုတ္တယေ ပသန္နာ စ၊ ပုညကမ္မေ သဒါ ရတာ။

# ရွှေဥမင်ဆရာတော်

## (အရှင်ဇမ္ဗုဒီပဓဇမဟာထေရ်)

ရွှေဥမင်ဆရာတော် အရှင်ဇမ္ဗုဒီပဓဇသည် ဘွဲ့တော်အားလျော်စွာ ဇမ္ဗူဒိပ်တွင် တံခွန်ပမာ လွန်စွာ ကျော်စောထင်ရှားသည့် ဆရာတော် ဖြစ်လေသည်၊ ပင်းယ ကောင်းစားစဉ်ကပင် မင်းရဲသခ်ယာသည် ပခန်းကြီးမြို့ကို ပြုပြင်တည်ထောင်၍ စေတီပုထိုး ဂူကျောင်းစသည်တို့ကို တည်ဆောက်စေခဲ့သည်၊ အင်းဝမြို့ကို တည်ထောင်သည်မှစ၍ မင်း ၅-ဆက်တိုင် ပခန်းကြီးကို ပြုပြင်မွမ်းမံလေသည်၊ ရွှေဥမင်ကျောင်းတိုက် တည်ပြီးလျှင် "ပုဂံ ဇေဝ္ဗယ်ရှင်" တွင်သော သီလဗုဒ္ဓိ ပံသုကူကြီး၏ အဆက်အနွယ် အရှင်ဇောတိပုညကို ပင့်၍ ရွှေဥမင်ကျောင်းတိုက်ကို တင်လှူသည်-စသည်ဖြင့် သာသနာလင်္ကာရစာတမ်း၌ လာရှိသည်၊ ရွှေဥမင်အာစရိယပရမ္ပရစာတမ်း၌ အရိယဓမ္မ ဓမ္မရာသီ ဆရာတော် (ထိုလက်ထက်က သံဃာတော် ၅၀၀-လောက်ရှိသည်ဟု ဖော်ပြသည်။) အရှင်ဇောတိပုည, အရှင်ဓမ္မနန္ဒ, အရှင်ဇမ္ဗုဒီပဓဇရာဇဂုရု စသည်ဖြင့် ဆရာတော် ၂၁-ဆက်ကို ဖော်ပြသည်။

ထိုဆရာတော်များအနက် ဝိနည်း ပါဠိ,အဋ္ဌကထာနိဿယ-စသည့် ကျမ်းပေါင်းများစွာကို ပြုစီရင်တော်မူသော ရွှေဥမင်ဆရာတော်မှာ စတုတ္ထမြောက် ဆရာတော်ဖြစ်လေသည်၊ သက္ကရာဇ် ၉၉၁-ခုနှစ်တွင် အင်းဝနေပြည်တော်၌ နန်းတက်သော သာလွန်မင်းတရားကြီး လက်ထက်တွင် ထင်ရှား ကျော်ကြားသော ဆရာတော်ဖြစ်သည်၊ ဆရာတော်သည် အကျင့်သီလနှင့် လွန်စွာ ပြည့်စုံသည်၊ အဖော်မမှီး တပါးတည်း သီတင်းသုံး၍ ကေစာရီ ကျင့်တော်မူကာ ဝိနည်းငါးကျမ်းပါဠိတော်နိဿယ, ဝိနည်းငါးကျမ်းအဋ္ဌကထာနိဿယ-တို့ကိုလည်း ရေးစီရင်တော်မူခဲ့သော ဆရာတော်ဖြစ်သည်၊ ဆရာတော်၏ ကျေးဇူးရှင်ဆရာရင်းမှာ ရွှေဥမင်ဆရာတော် အရှင်ဇောတိပုည ဖြစ်ကြောင်း—

> • "ဇောတိပုညံ မဟာထေရံ၊ သဗ္ဗဂန္ထေသု ကောဝိဒံ။
> ဝိသုဒ္ဓါစာရသမ္ပန္နံ၊ ဂရုံ မေ ဂုဏပူဘာဝံ"—

ဟူသော ပါရာဇိကဏ်အဋ္ဌကထာနိဿယ အာစရိယပဏာမဂါထာဖြင့် သိသာပေသည်။

### ရွှေဥမင်ဆရာတော်နှင့် တောင်ဖီလာဆရာတော်

သာလွန်မင်းတရားကြီး၏ မင်းဆရာ ဖြစ်တော်မူသည့် "တိပိဋကာလင်္ကာရရာဇဂုရု"ဘွဲ့တံဆိပ်တော်ရ အရှင်မုနိန္ဒဃောသအမည်ရှိသော တောင်ဖီလာ

ဆရာတော်ကြီးသည် သက္ကရာဇ် ၁၀၀၀-ပြည့်နှစ်တွင် ရွှေစက်တော်မှ ဘုရားဖူး အပြန် ရွှေဥမင်ဆရာတော်ကို ဖူးမြော်ရန် လှူဒါန်းဖွယ်ရာ သက်န်းစသော ပရိက္ခရာတို့ကို ဆောင်ယူကာ နောက်ပါ တပည့်တပန်း ရဟန်းသံဃာတော်တို့ နှင့်အတူ ပခန်းကြီးမြို့သို့ ကြွလာတော်မူသည်၊ တောင်ဖီလာဆရာတော်သည် ရှေးဦးစွာ ပခန်းကြီးမြို့ စည်သူ့ရှင်ဘုရားသို့ ဖူးမြော်ရန် ဝင်ကြွတော်မူရာ ထို အချိန်တွင် ရွှေဥမင်ဆရာတော်သည်လည်း ဘုရားယင်ပြင်၌တံမြက်စည်းလှည်း၍ နေ၏၊ ရွှေဥမင်ဆရာတော်မှန်း မသိပဲ ကိုရင်ကြီး ထင်မှတ်သဖြင့် တောင်ဖီလာ ဆရာတော်က စတင် မေးမြန်းသည်မှာ— ''ကိုရင်ကြီး ရွှေဥမင်ကျောင်းတိုက် ဆိုတာ ဘယ်နေရာမှာပါလဲ''ဟု မေးရာ ''အရှင်ဘုရား ရွှေဥမင်ကျောင်းတိုက် ပခန်းကြီးမြို့မြောက်ဖက် မနီးမဝေးတွင် ရှိပါသည်''ဟု ဖြေဆိုလျှင် ''သာထက် ၎င်းကျောင်း၌ ဆရာတော် ဦးဇမ္ဗုဓဇဆိုသည့် ဆရာတော် ရှိပါသလား ကိုရင်ကြီး''ဟု တောင်ဖီလာဆရာတော်က မေးပြန်ရာ ''အရှင်ဘုရား ရှိပါသည်'' ဟု အဖြေပေး၍ ဘုရားဝတ်ပြုပြီး ကျောင်းသို့ ပြန်ကြွသွားလေသည်။

တောင်ဖီလာဆရာတော်သည်လည်း တပည့်တပန်းတို့နှင့် ဘုရားဝတ်ပြုပြီး ရွှေဥမင်တောရကျောင်းသို့ ကြွလေသည်၊ အရှင်ဇမ္ဗုဓဇဆရာတော်သည် ရှေးဦး စွာ ရောက်နှင့်၍ နေရာများ ခင်းထားကာ စောင့်မျှော်နေလေ၏၊ တောင်ဖီလာ ဆရာတော် ရောက်လာသောအခါ ''ကိုရင်ကြီး ရောက်နေနှင့် ပါပြီကော၊ စည်သူ့ရှင်ဘုရားပေါ် တွေ့ခဲ့တာ ကိုရင်ကြီး မဟုတ်လား''ဟု မေးသဖြင့် ''ဟုတ်မှန်ပါသည်''ဟု ရွှေဥမင်ဆရာတော်က အဖြေ ပေးလျှင် ''ကိုရင်ကြီး ရွှေဥမင်ဆရာတော် ဦးဇမ္ဗုဓဇထံသို့ ပို့ပေးစမ်းပါ''ဟု ပြောသဖြင့် ''ရွှေဥမင် ဆရာတော် ဦးဇမ္ဗုဓဇ ဆိုတာ တပည့်တော်ပင် ဖြစ်ပါသည်''ဟု အဖြေပေး လိုက်ရာ တောင်ဖီလာဆရာတော်မှာ လွန်စွာအံ့သြခြင်း ဖြစ်ကာ ''တပည့်တော် အထင်မှားမိသမျှ သည်းခံပါရန်''ဟု လျှောက်ထား တောင်းပန်လေသည်။

## ကြောက်လို့ တယောက်တည်းနေ

သာသနာတွင် လ-မင်းအသွင် ထင်ရှားတော်မူသော တောင်ဖီလာဆရာတော် နှင့် သာသနာတွင် နေမင်းအလား ကျော်ကြားထင်ရှားသည့် ရွှေဥမင်ဆရာ တော်တို့၏ အပြန်အလှန် စကားဆွေးနွေးကြသည်မှာ သာသနာဝင်တွင် မှတ် တမ်းတင်ထိုက်ပါပေသည်၊ တောင်ဖီလာဆရာတော်က ''အရှင်ဘုရား တောကြီး ထဲ တပါးတည်း နေရတာ မကြောက်ဘူးလား ဘုရား''ဟု မေးရာ ရွှေဥမင် ဆရာတော်က ''ကြောက်လို တယောက်တည်း နေပါသည်''ဟု အဖြေပေးသည် တွင် တောင်ဖီလာဆရာတော်အား 'ငါ့မှာ သံသရာဘေး မကြောက်၍ ပရိသတ် နှင့်နေရာ ရောက်နေပါပြီကော'ဟု တွေးတော စဉ်းစား သတိသံဝေ ရစေတော့ သည်။

ဤသို့စသည်ဖြင့် အချင်းချင်း အာလာပ,သလ္လာပ စကားများ ပြောဆိုပြီးသောအခါ တောင်ဖီလာဆရာတော်သည် ရွှေဥမင်ဆရာတော်ရေး ဝိနည်းနိသျကို တောင်းယူ၍ အသင့်ပါလာသည့် မိမိရေးသော ဝိနည်းနိသျနှင့် တိုက်ဆိုင်ကြည့်ရှုသောအခါ မိမိနိသျ ကျယ်လွန်းနေသဖြင့် နောင်လာ နောက်သားတို့သိရန် ခက်ခဲမည်ကို စိုးရိမ်တော်မူကာ မီးရှို့၍ စေတီတဆူ၌ မီးပူဇော်ခဲ့လေသည်၊ (စစ်ကိုင်းတောင်ရိုး တောင်ဖီလာချောင်၌ စေတီတည်၍ ဌာပနာထားခဲ့သည်ဟု ပိဋကတ်တော်သမိုင်းကျမ်း၌ ဆိုသည်)။

တောင်ဖီလာဆရာတော် ပြန်ကြွခါနီးသောအခါ မိမိယူလာသော သက်န်းကြီးကို "ဘုရင်မင်းမြတ်က လှူဒါန်းထားသော သက်န်းကြီးကို အရှင်ဘုရားအား လှူပါ၏"ဟု ဆို၍ လှူသွားလေ၏၊ ရွှေဥမင်ဆရာတော်သည် တောင်ဖီလာဆရာတော်၏ သက်န်းကြီးကို အလှူခံပြီး "ဤသက်န်းကြီးကို ရွှေစည်းခုံဘုရားအား လှူပါ၏"ဟု ဆို၍ ချထားလေ၏၊ ၎င်းနောက် တောင်ဖီလာဆရာတော်က သက်န်းဒွိစုံကို လှူပြန်၏၊ ရှေးနည်းအတိုင်း အလှူခံပြန်၍ "ရွှေစည်းခုံဘုရားအား လှူပါ၏"ဟု ဆို၍ ချထားပြန်၏၊ ၎င်းနောက် သပိတ်စသော ပရိက္ခရာတို့ကို လှူပြန်၏၊ ရှေးနည်းတူပင် "ရွှေစည်းခုံဘုရားအား လှူပါ၏"ဟု ဆို၍ ချထားပြန်၏၊ ဤကဲ့သို့သော အခြင်းအရာကို မြင်သိသော တောင်ဖီလာ ဆရာတော်သည် "ငါ့မှာ ပစ္စည်း၄-ပါး၌ မရောင့်ရဲပဲ ပရိသတ်နှင့်နေရခြင်းသည် အကျိုးမရှိပြီ၊ ပရိသတ်ကို ခွဲခွါ၍နေမှ သင့်တော်ချေမည်၊ အရှင်ဇမ္ဗုဓဇက ငါ့ကို ဆုံးမပါပြီကော"ဟု သဘောပိုက်ကာ ပရိသတ်နှင့်တကွ ပြန်ကြွတော်မူလေသည်။

ဆရာတော်နှစ်ပါးသည် သိက္ခာဝါ တူကြသဖြင့် ပြန်ကြွသောအခါ ရွှေဥမင်ဆရာတော်က အနည်းငယ်လိုက်ပို့သည်တွင် တောင်ဖီလာဆရာတော်က "တပည့်တော်က မင်းဆရာဖြစ်၍ အရှင်ဘုရား ရှေ့ကကြွပါ"ဟု လျှောက်၏၊ ထိုအခါ အရှင် ဇမ္ဗုဓဇ ဆရာတော်က "အရှင်ဘုရားက မင်းဆရာဖြစ်၍ ရှေ့ကကြွပါ"ဟု လျှောက်၏၊ ဆရာတော်နှစ်ပါးတို့၏ အာဘော်မှာ တောင်ဖီလာဆရာတော်က ရှေ့ကကြွလျှင် "မင်းစိုးရာဇာ၏ ဆရာဖြစ်၍ ရှေ့ကကြွသည်"ဟု ဆိုဖွယ်ရာဖြစ်လိမ့်မည်၊ ထို့ကြောင့် ရွှေဥမင်ဆရာတော်ကို ရှေ့ကကြွဘို့ လျှောက်သည်၊ ရွှေဥမင်ဆရာတော်က ရှေ့ကကြွလျှင် "ဘုရင့်ဆရာကိုပင် မလေးမစား ရှေ့ကကြွသည်"ဟု ဆိုစရာဖြစ်လိမ့်မည်၊ ထို့ကြောင့် မင်းဆရာသာ ရှေ့ကကြွပါဟု လျှောက်သည်၊ တောင်ဖီလာ ဆရာတော်သည် ပြန်ရောက်သောအခါ ပရိသတ်ကို မှိုတော်သို့စေလွှတ်၍ မိမိမူ တောင်ဖီလာတောရကျောင်း၌ အဖော်မမှီး တပါးတည်း ဧကစာရီအကျင့်ဖြင့် မွေ့လျော်လေတော့သည်။

သာလွန်မင်းတရားကြီးသည် တောင်ဖီလာဆရာတော်နှင့် သာသနာရေး အကြောင်းကိစ္စ ဆွေးနွေးတော်မူစဉ် တောင်ဖီလာဆရာတော်ထံမှ ရွှေဥမင်ဆရာ တော်၏ဂုဏ်ကျေးဇူးများကို သိရသည်တွင် အလွန်ကြည်ညိုလှသဖြင့် "ဇမ္ဗုဓဇ" ဟူသော ဘွဲ့တော်တွင် "ဒီပ" ဟူသောပုဒ်ကို ထပ်ဖြည့်၍ "ဇမ္ဗုဒီပဓဇရာဇဂုရု" ဟူသော ဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းလေသည်။

## ပြုစုသော ကျမ်းများ

ရွှေဥမင်ဆရာတော် ပြုစီရင်တော်မူခဲ့သော ကျမ်းများမှာ—

၁။ ပါရာဇိကဏ်ပါဠိတော် နိသျ

၂။ ပါရာဇိကဏ်အဋ္ဌကထာ နိသျ

၃။ ပါစိတ်ပါဠိတော် နိသျ

၄။ ပါစိတ်အဋ္ဌကထာ နိသျ

၅။ ဝိနည်း မဟာဝါပါဠိတော် နိသျ

၆။ ဝိနည်း မဟာဝါအဋ္ဌကထာ နိသျ

၇။ စူဠဝါပါဠိတော် နိသျ

၈။ စူဠဝါအဋ္ဌကထာ နိသျ

၉။ ပရိဝါပါဠိတော် နိသျ

၁၀။ ပရိဝါအဋ္ဌကထာ နိသျ-စသည်တို့ ဖြစ်လေသည်။

ထိုခေတ်က ရွှေဥမင်ဆရာတော်သည် သာသနာတွင် နေမင်းအသွင် ထင်ရှား၍ တောင်ဖီလာဆရာတော် အရှင်မုနိန္ဒသောသသည် လ-မင်းပမာ ထင်ရှားလျက် သာသနာတော်မြတ်ကြီး၌ တင့်တယ်ကြလေကုန်ပြီ။

ဇမ္ဗုဓဇော မယူရောဝ၊ မုနိန္ဒော စန္ဒိမာ ယထာ။
သမ္ဗုဒ္ဓသာသနာကာသံ၊ တေ သဒါ သောဘယုံ တဒါ။

# တိလောကဂုရုဆရာတော်

တိလောကဂုရုဆရာတော်သည် သာသနာ့ဝင်တွင် ထင်ရှားသော ဆရာတော် ဖြစ်သည်၊ ဆရာတော်သည် သက္ကရာဇ် ၁၀၃၄-ခုနှစ်တွင် နန်းတက်သည့် နရာဝရ မင်းလက်ထက်တွင် ထင်ရှားကျော်ကြားသည့် ဆရာတော်ဖြစ်သည်၊ ဆရာ တော်၏ ဇာတိချက်ကြွေ မွေးရပ်မြေမှာ ပခန်းကြီးမြို့ အနောက်လက် ခရီး ၆-တိုင်ကွာ ဆိတ်ဆင်း(ပခုက္ကူခရိုင် မြိုင်မြို့နယ် ဆိတ်ဆင်း)ရွာ ဖြစ်သည်၊ ရဟန်းပြု၍ ရွှေစည်းခုံစေတီအနီး ဇေတဝန်ကျောင်းတိုက်၌ ပညာများ ဆည်းပူးသင်ကြား တတ်မြောက်တော်မူလေသည်။

## ဘုန်းကြီးလူထွက်မယား မဖြစ်လို

ဆရာတော်လောင်းလျာသည် သာသနာ့ဘောင်၌ မပျော်မွေ့ပဲရှိသဖြင့် "လူ ထွက်တော့မည်၊ လူမထွက်ခင် သက်န်းဝတ်နှင့် ရွှေစည်းခုံဘုရားဝင်၍ ဦးတော် တင်အံ့"ဟု ကြံစည်တွေးဆပြီး စေတီတော်မြတ်ကြီးအား ဝပ်တွားဦးချလျက် နေ၏၊ ထိုအခိုက်တွင် အမျိုးသမီး အပျိုစင်တယောက်သည် ရွှေစည်းခုံဘုရား ယင်ပြင်ပေါ် ရောက်ရှိကာ ဘုရားကို ရှိခိုး ဦးချပြီး "ဤသို့ ဘုရားမြတ်စွာအား ဖူးမြော်ပါရ မြတ်ပုညကြောင့် ဖြစ်လေသမျှ ဘဝါဘဝ၌ ဘုန်းကြီးလူထွက် ဇနီး မယား မဖြစ်ရပါလို"ဟု တောင်းဆုဆိုသံကို ဆရာတော်လောင်းလျာပဉ္စင်းပျိုမှာ ကြားရပါသဖြင့် အကျိုးအကြောင်း မေးမြန်းကြည့်ရာ "သူတပါးလှူဒါန်းသော ပစ္စည်းဖြင့် ချမ်းသာစွာ နေရသည်ဖြစ်ပါလျက် သူ့ကျွန်ခံဦးမည်, မယား ကျွန်ခံဦးမည်, တဏှာကျွန်ခံဦးမည်-ဟု လူထွက်သော ရဟန်းထက် မိုက်သောလူ မြေအပြင်တွင် မရှိပြီဖြစ်ကြောင်း—

ဥပ္ပဗ္ဗဇိတဇာယာ ဟိ၊ န ဘဝါမိ ကုဒါစနံ။
• တတော မူဠတရော ပေါသော၊ နတ္ထိ ကောစိပိ ဘူတလေ"—

ဟူ၍ အတိအလင်း လျှောက်သည်တွင် လူထွက်ချင်စိတ် မရှိတော့ပဲ စစ်ကိုင်း ဖက်သို့ ကူးကြွ၍ ဂန္ထန္တရအဝဝကို သင်ကြားပြီးနောက် ပုညရှင်စေတီတောင် ကျောင်းတိုက်တွင် သီတင်းသုံး၍ စာပေပို့ချရာ စာလိုက်သံဃာ ကျောင်းမဆံ့ အောင်ပင် များပြားလေသည်။

## တိလောကဂုရု ဘွဲ့တံဆိပ်တော်

တနေ့တွင် နရာဝရဘုရင်သည် ပုညရှင်စေတီတော်ကို ဦးတော်တင် ဝတ်ပြုရန် ရောက်ရှိလာ၏၊ ဘုရားရှိခိုးပြီး ပုညရှင်ကျောင်းတိုက်သို့ ဝင်ရောက် ကြည့်ရှု

ကြည်ညိုရာ ကျောင်းမဆံ့သဖြင့် ထီးဆောင်း၍ စာလိုက်နေကြသော **သံဃာ** တော်တို့ကို တွေ့မြင်ရ၍ လိုဏ်နှင့်တကွ ကျောင်းဆောက်၍ လှူဒါန်းကိုးကွယ် လေသည်၊ "တိလောကဂုရု"ဟူသော ဘွဲ့တံဆိပ်တော်ကိုလည်း သဒ္ဓါကြည်ဖြူ ကပ်လှူလေသည်၊ တိလောကဂုရုဘွဲ့တော်ရ ဆရာတော် သီတင်းသုံးရာ ချောင် ဖြစ်သဖြင့် ၎င်းချောင်သည် **တိလောကဂုရုချောင်**ဟု ထင်ရှားလေသည်။

ဆရာတော်သည် ကျမ်းပြုပုဂ္ဂိုလ်တပါး ဖြစ်ပါသဖြင့် ရေးသားပြုစုတော်မူ ခဲ့သော ကျမ်းဂန်များမှာ—

၁။ ဓာတုကထာဋီကာဝဏ္ဏနာကျမ်း

၂။ ဓာတုကထာအနုဋီကာဝဏ္ဏနာကျမ်း

၃။ ယမကဝဏ္ဏနာဋီကာကျမ်း

၄။ ပဋ္ဌာနဝဏ္ဏနာဋီကာကျမ်း—စသည်တို့ ဖြစ်လေသည်။

ပရိတ်ကြီးဋီကာကျမ်းပြု အရှင်တေဇောဒီပသည် တိလောကဂုရု ဆရာ တော်၏ တပည့်ဖြစ်သည်ဟု ဆရာတို့ ပြောဆိုကြသည်။

# နေရင်း မဏိရတနာဆရာတော်

## ( အရှင်အရိယာလင်္ကာရ )

အရှင်အရိယာလင်္ကာရ ဆရာတော်သည် သက္ကရာဇ် ၁၀၇၀-ခန့် မာရ်အောင် ရတနာဒါယကာ စနေမင်းလက်ထက်တွင် ကျော်စော်ထင်ရှားသည့် ကျမ်းပြု စာဆိုတော်တပါး ဖြစ်လေသည်၊ ပခုက္ကူခရိုင် ပခန်းကြီးစီရင်စု နေရင်းရွာတွင် ဖွားမြင် ကြီးပြင်းခဲ့သည်၊ သီတင်းသုံးတော်မူရာ မဏိရတနာကျောင်းတိုက်ကို အစွဲပြု၍ မဏိရတနာဆရာတော်ဟု သုတိအမည်ထင်ရှားသည်၊ ဆရာတော်သည် စာချမှု၊ စာရေးမှု လုပ်ငန်း ၂-ခု၌ လွန်စွာ စိတ်ဝင်စားသည့် ဆရာတော်ဟု ကျော်ကြားသည်။

### လှေပေါ်တွင် ရေးခဲ့သည့် နိသျ

ဆရာတော်သည် ဘုရားရှင်ဆံတော်ဓာတ်မြတ် ကိန်းဝပ်ရာ ရွှေတိဂုံစေတီ တော်ကြီးအား ဖူးမြော်ရန် လေးလဖြင့် ကြွတော်မူစဉ် မူလဋီကာ, အနုဋီကာ-တို့ကို မှီငြမ်းပြု၍ သမ္မောဟဝိနောဒနီ အဋ္ဌကထာ နိသျကို ရေးတော်မူခဲ့သည်၊ ရေးသားရခြင်းမှာ အရှင်စန္ဒမဥ္ဇူမည်သော ရဟန်းတော် တောင်းပန်သဖြင့် မကျဉ်းမကျယ် ရေးသားရခြင်း ဖြစ်ကြောင်း—

> "နာတိသင်္ခေပဝိတ္ထာရံ၊ နိဿယံ မတိဝဍ္ဎနံ။
> သိက္ခာကာမေန ယတိနာ၊ ယာစိတော စန္ဒမဥ္ဇုနာ"—

ဟူသော နိသျဂန္ထာရမ္ဘ-ဖြင့် သိသာသည်၊ ဆရာတော်သည် ရံဖန်ရံခါ တော ကျောင်း၌ သီတင်းသုံးတော်မူသည်၊ ဆရာတော်သည်—

> "ပဝိဝိတ္တော အသံသဋ္ဌော၊ ပန္တသေနာသနေ ရတော။
> အာရာဓယန္တော နာထဿ၊ ဝနဝါသေန မာနသံ"—

စသော ဝိသုဒ္ဓိမဂ် ဓုတင်္ဂနိဒ္ဒေသ ၇၁-လာ ဂါထာအားလျော်စွာ လူသူတို့နှင့် မရောနှောဘဲ တောကျောင်း၌ မွေ့လျော်လျက် ဘုရားရှင်၏ ရွှေစိတ်တော်ကို နှစ်သက်စေလိုသော ဆန္ဒတော်ဖြင့် သီတင်းသုံးလေသည်၊ ဆရာတော်သည် ဒီဃနိကာယ် ပါဠိတော်နိသျနှင့် တချို့ ကျမ်းများကို နေရင်းရွာ အနောက် မြောက် မနောရမ္မတောရကျောင်း၌ သီတင်းသုံးစဉ် ရေးသားခဲ့သည်၊ ဆရာ တော်သည် နိသျရေးသောအခါ ပုရပိုက်တွင် တဆင့်မတင်ရဘဲ တိုက်ရိုက် ပေ၌ ကညစ်ဖြင့် အပြီးသတ်ရေးသားနိုင်ရကား ဆရာတော်၏အရည်အခြင်းကို အံ့ဩ

ခြင်း ဖြစ်ကြသည်၊ ထို့ကြောင့်ပင် ဆရာတော်၏ နိသျကျမ်းပေါင်း မြောက်မြား စွာ သာသနာတော်တွင် အဖိုးတန် အမွေအနှစ်အဖြစ် ကျန်ရစ်ခဲ့ခြင်းဖြစ်သည်၊ ဆရာတော် ပြုစုစီရင်ခဲ့သော ကျမ်းများမှာ--

၁။ သုတ်သီလက္ခန်ပါဠိတော်နိသျ

၂။ သုတ်မဟာဝါပါဠိတော်နိသျ

၃။ သုတ်ပါထေယျပါဠိတော်နိသျ

၄။ သုတ်သီလက္ခန်အဋ္ဌကထာနိသျ

၅။ သုတ်မဟာဝါအဋ္ဌကထာနိသျ

၆။ သုတ်ပါထေယျအဋ္ဌကထာနိသျ

၇။ အဋ္ဌသာလိနီအဋ္ဌကထာနိသျဟောင်း

၈။ သမ္မောဟဝိနောဒနီအဋ္ဌကထာနိသျ

၉။ ခုဒ္ဒသိက္ခာအဋ္ဌကထာနိသျ

၁၀။ ဋီကာကျော်နိသျ

၁၁။ သခေ်ပဝဏ္ဏနာနိသျ

၁၂။ မူလသိက္ခာအဋ္ဌကထာနိသျ

၁၃။ ကင်္ခါဝိတရဏီအဋ္ဌကထာနိသျ

၁၄။ ဇိနာလင်္ကာရစာကိုယ်နိသျ

၁၅။ ဇိနာလင်္ကာရဋီကာနိသျ

၁၆။ သဒ္ဒသာရတ္ထဇာလိနီနိသျ

၁၇။ သုတ္တနိဒ္ဒေသနိသျ -- စသည်တို့ ဖြစ်လေသည်။

ဆရာတော်သည် ဇမ္ဗူရာဇ်ရွှေ၏ ငါးသုဝဏ်ပမာဏ အတုံးအခဲကဲ့သို့ နတ်, လူ, ဗြဟ္မာတို့ ချီးမွမ်းခြင်းငှါထိုက်သော မဟာထေရ်မြတ်ကြီး မှန်လှပါပေသည်။

ဗဟုဿုတံ ဓမ္မဓရံ၊ သပ္ပညံ ဗုဒ္ဓသာဝကံ။
နေက္ခံ ဇမ္ဗောနဒဿေဝ၊ ကော တံ နိန္ဒိတုမရဟတိ။
ဒေဝါပိ နံ ပသံသန္တိ၊ ဗြဟ္မုနာပိ ပသံသိတော။

(အင်္ဂုတ္တရနိကာယပါဠိ၊ ပဉ္စမ၊ ၃၁၄)

# နေရင်း ပုဗ္ဗာရုံဆရာတော်

## ( အရှင်သာရဒဿီ )

ဆရာတော်အရှင်သာရဒဿီသည် အင်းဝမြို့တော်၌ သက္ကရာဇ် ၁၀၇၆-ခုနှစ်တွင် နန်းတက်သော လေးကျွန်းမာရ်အောင်၊ ဇေယမာရ်အောင်၊ မဟာမင်္ဂလာမာရ်အောင်၊လောကမာရ်အောင် စေတီဒါယကာ မှန်နန်း၊ဆင်ဖြူရှင် တနင်္ခွေမင်းလက်ထက်တွင် ထင်ရှားသော ဆရာတော်ဖြစ်သည်။

### ဖွားရာ အချိန်နှင့်ဌာန

ဆရာတော်သည် ၁၀၆၅-ခုနှစ်တွင် ပညာရှင်တို့ များစွာပေါ် ထွန်းရာ ပခုက္ကူခရိုင် ပခန်းကြီးမြို့ နေရင်းရွာ၌ ဖွားမြင်ကြီးပွါးခဲ့သည်၊ ဆရာတော်သည် ငမြာဆရာတော် အရှင်ပညာထေရ်၏ တပည့်ဖြစ်သည်၊ ဆရာတော်ရေးသားတော်မူသည့် နေတ္တိပါဠိတော်နိသျ၌ ကျေးဇူးရှင် ဆရာတော်တို့၏ သာသနာ၌ ကျော်ကြားပုံ၊ ပညာရှိကြီးများ ဖြစ်ကြပုံတို့ကို ဖော်ပြပါ ၄-ဂါထာတို့ဖြင့် အစွမ်းကုန် ထုတ်ဖော် ချီးကျူး ရှိခိုး ဦးတင်ခဲ့သည်။

ယေ နိဿာယ ဝသန္တော၀၊ ဝုဒ္ဓိပ္ပတ္တောသ္မိ သာသနေ။
သဗ္ဗဓိ တေသု တာ၀ မေ၊ မေရုရာဇံ၀ မာတုယံ။

နာနာဒေသိနိဝါသီနံ၊ သာရတ္ထိကာန သောတူနံ။
တာဏာ လေဏာ ပရာယဏာ၊ ပရိယတ္တိသဗ္ဗဓရာ။

သဒ္ဒသတ္ထေ ဥပစိဏ္ဏာ၊ ဉျာသေ ပရမကောဝိဒါ။
ဆန္ဒောဘေဒေ ကတညဏာ၊ အလင်္ကာရေ ဝိသာရဒါ။

ဝါစုဂ္ဂတာ အဘိဓာနေ၊ နေတ္တိယံ အတိကောဝိဒါ။
တေသဉ္စာစရိယသဗ္ဗာနံ၊ အဘိဝါဒိယ သိရသာ။

ဆရာတော်သည် နေရင်းရွာ အရှေ့ဖက်ရှိ ပုဗ္ဗာရုံကျောင်းတိုက်၌ သီတင်းသုံးကာ မြားမြောက်စွာသော တပည့်တပန်းတို့အား စာပေကျမ်းဂန် အတန်တန်ကို ချပို့တော်မူ၍ သီတင်းသုံးနေထိုင်တော်မူခဲ့သဖြင့် ပုဗ္ဗာရုံဆရာတော်ဟုလည်း အသိများခဲ့သည်။

### ပုဗ္ဗာရုံကျောင်းမြင်ကွင်း

ဆရာတော် သီတင်းသုံးစဉ်က နေရင်း ပုဗ္ဗာရုံကျောင်းတိုက်၏ သာယာစည်ပင်ပုံ စသည်ကို—

"ပုဗ္ဗာရာမောတိ နာမကော၊ ပုဗ္ဗာရုံအမည်ရှိသော။ သေယျော၊ ကျောင်းသည်။ သီတစ္ဆာယုဒကောပေတော၊ ချမ်းမြေ့သောအရိပ်ရေနှင့် ပြည့်စုံ၏။ ထူပါဒိလက်တော၊ ဘုရားစေတီအစရှိသည်တို့ဖြင့် တန်ဆာဆင်အပ်၏။"—

စသည်ဖြင့် နေတ္တိပါဠိတော်နိဿျနိဂုံး၌ ဖော်ပြခဲ့သည်။

ဆရာတော်သည် နေတ္တိနိဿျကို ရဟန်းတော် အရှင်မဏိမဥ္ဇူသာ တောင်းပန်သဖြင့် ရေးသားခဲ့ရာ ၁၁၂၁-ခုနှစ် တပို့တွဲလပြည့်နေ့တွင် ပြီးဆုံးသည်၊ ဆရာတော်သည် စာပေ၌ အလွန်ပျော်မွေ့တော်မူခဲ့သည်၊ အချိန်ရှိသရွေ့ကို စာပေလုပ်ငန်း, ကမ္မဋ္ဌာန်းဘာဝနာ လုပ်ငန်းတို့ဖြင့်သာ အသုံးပြုတော်မူသည်၊ အလောင်းမင်းတရားကြီး ပဲခူးသို့မချီတက်မီ ပုဗ္ဗာရုံဆရာတော် အရှင်သာရဒဿီကို ပင့်၍ တရားနာဘူးသည်၊ ဆရာတော် ပြုစုတော်မူခဲ့သည့် ကျမ်းစာများကို သိရှိသမျှ ဖော်ပြရသော်—

၁။ မဏိဒီပကျမ်း

၂။ ဒွါရကထာဋီကာ

၃။ ဂူဠတ္ထဒီပနီကျမ်း

၄။ ဝိသုဒ္ဓိမဂ်ဂဏ္ဌိကျမ်း

၅။ နေတ္တိပါဠိတော်နိဿျ

၆။ သုတ္တနိပါတ်ပါဠိတော်နိဿျ

၇။ သီလက္ခန်ဂဏ္ဌိကျမ်း

၈။ ဓာတုကထာမူလဋီကာ ယောဇနာကျမ်း-—

စသည်တို့ ဖြစ်လေသည်။

### ဘဝနတ်ထံ ပျံလွန်ပြီ

ဆရာတော်သည် ပရိယတ်, ပဋိပတ် နှစ်ရပ်သောရဟန်းလုပ်ငန်းကို ကြိုးပမ်းအားသစ်ကာ ဘုရားရှင်၏ ကျေးဇူးတော်အနန္တကို ဆပ်တော်မူ၍ ၁၁၂၉-ခုနှစ်တွင် ဘဝနတ်ထံ စံဝင်တော်မူသည်။

### သံဝေဂယူဘွယ်

သွားကျိုးဆံဖြူ ငယ်မူယိုယွင်း အိုမင်းရင့်ရော်မှု ဇရာတရား, ပင်ပန်းကြီးစွာ ရောဂါဘယ ခံစားရမှု ဗျာဓိတရား, သေမင်းအကြိုက် လိုက်ပါရခြင်း သေဆုံးရမှု

မရဏတရားတို့သည် ဤကမ္ဘာလောက၏ မဟာဘေးဘယကြီးများ ဖြစ်ကြပေသည်၊ ယင်း မဟာဘေးကြီးများနှင့် ရင်မဆိုင်ရသည့် အရပ်ဟူ၍ မရှိရိုး မှန်လှပေသည်။

ဇရာ ဗျာဓိ ၎ှ မဘျု ၎ှ၊ လောကသျာသျ မဟာဗ္ဘယမ်။
နာသ္တိ ဒေဂ သ ယတြာသျ-တဒ္ဘယံ နောပပဒျတေ။

(သုန္ဒရနန္ဒ၊ ၁၅၊ ၄၆။)

ဇရာ ဗျာဓိ စ မစ္စု စ၊ လောကဿာ'ဿ မဟာဘယံ။
နတ္ထိ ဒေသော သော ယတြာ'ဿ၊ တံ ဘယံ နောပပဇ္ဇတေ။

( ပါဠိဘာသာပြန် )

# အရှင်စန္ဒိမာဘိဝံသမဟာထေရ်

ဆရာတော်သည် ပဌမ ကျော်အောင်စံထား ဆရာတော်၏ ဆရာဖြစ်သဖြင့်လည်း အရှင်သာရိပုတြာ၏ဆရာ အရှင်အဿဇိထေရ်ပမာ သာသနာ့သမိုင်းတွင် ထင်ရှားသည်၊ ဆရာတော်သည် ပခုက္ကူခရိုင် ပခန်းနယ်၌ ၁၀၄၉-ခုနှစ်တွင် ဖွားမြင်ခဲ့သည်၊ နောင်ဘရွာငယ် နိဗ္ဗာန်ကျောင်းဆရာတော် အရှင်ဓမ္မနန္ဒာလင်္ကာရသည် အရှင်စန္ဒိမာဘိဝံသ၏ ဆရာရင်း ဖြစ်လေသည်။

## သင်ပြမှုနှင့် ပျို့ကဗျာ

ကျော်အောင်စံထား ဆရာတော်လောင်းလျာ မောင်ပန်းအောင်ကို ၆-နှစ်သားအရွယ်မှစပြီး မိဘတို့အပ်နှံသဖြင့် ကလေးတို့စာ သင်ပုန်းကြီး,မင်္ဂလသုတ်မှစ၍ ဇာတ်ကြီးဆယ်ဘွဲ့စသည်တို့ကို သင်ပေးသည်၊ နောက်တွင် သဒ္ဒါ,ဓာတ်ဂိုဟ်,ညဝါ,ဋီကာကျော်, ဆန်း,အလင်္ကာ-စသည်တို့ကို သင်ပေးသည်၊ အရှင်စန္ဒိမာဘိဝံသ၏ သင်ပြမှု နယပဒေသကြောင့် ကျော်အောင်စံထားဆရာတော်သည် အများအားပူလောက်သည့် ပညာရှိတဆူ ဖြစ်လာတော်မူသည်၊ ဆရာတော် အရှင်စန္ဒိမာဘိဝံသသည် ပိဋကတ်ကျမ်းဂန်တို့၌သာ မဟုတ်သေး နက္ခတ်, ဗေဒင်, ပျို့, ကဗျာ,လင်္ကာတို့၌လည်း ကျွမ်းကျင်စွာ တတ်မြောက်တော်မူသည်၊ ပျို့ ကဗျာ, လင်္ကာအတွက်မူ ဆရာတော်၏ **ယသောဓရာကန်တော့ခန်းပျို့** ဖြင့်ပင် ကဝိတဆူဖြစ်ကြောင်း သိသာနိုင်ပေသည်။

## သီတင်းသုံးတော်မူရာ

ဆရာတော်သည် ပခန်းကြီးမြို့တောင်ဖက် နောင်ဘရွာ နိဗ္ဗာန်ကျောင်းနှင့် ပိုက်သင်ရွာကျောင်းတို့၌ ကြာမြင့်စွာ သီတင်းသုံးတော်မူသည်၊ ဆရာတော်သည် ယသောဓရာ ကန်တော့ခန်းပျို့ကို ရေးသားခဲ့သည်၊ ဆရာတော်သည် ''စန္ဒိမာဘိဝံသာလင်္ကာရတိပိဋကဓမ္မရာဇာဓိရာဇဂုရု'' ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူသည်။

## ကမ္မဇရုပ် ချုပ်တော်မူပြီ

ကျော်အောင်စံထားဆရာတော်၏ ဆရာဖြစ်တော်မူသော သီလဝန္တ,သိက္ခာကာမ ဖြစ်တော်မူသည့် အရှင်စန္ဒိမာဘိဝံသာဆရာတော်သည် ၁၀၇၅-ခုနှစ် သီတင်းကျွတ်လဆန်း ၅-ရက်နေ့တွင် ကမ္မဇရုပ် ချုပ်တော်မူခဲ့သည်။

**သံဝေဂ**

"အသစ် ဖြစ်ပေါ်လာခြင်း, ထင်ရှား ဖြစ်ပေါ်လာခြင်းနှင့် ပြုပြင်ပေးရခြင်း သဘောရှိ၍ ပျက်စီးရခြင်း သဘောရှိသော တရားအားလုံးကို မပျက်ပြုန်းရန် လိုလားတောင့်တချက်သည် မဖြစ်နိုင်ရိုး မှန်လှတော့သတည်း"

ယံ တံ ဇာတံ ဘူတံ သင်္ခတံ ပလောကဓမ္မံ၊
တံ ဝတ မာ ပလုဇ္ဇီတိ နေတံ ဌာနံ ဝိဇ္ဇတိ။

(ဒီဃနိကာယ်၊ မဟာဝဂ္ဂပါဠိ၊ ၉၉)

## ပဥ္စမ

# ကျော်အောင်စံထားဆရာတော်

အဘိဓာန်ကျမ်းကို လေ့လာဘူးသူ့, ကျော်အောင်စံထား အဘိဓာန်နိသျကို ကြည့်ရှုဘူးသူတို့မှာ မဖူးမြင်ရဘူးပဲနှင့်ပင် ကျော်အောင်စံထားဆရာတော်ကို သတိရကြသည်၊ ဆရာတော်သည် သက္ကရာဇ် ၁၀၆၇-ခုနှစ်၌ ပခန်းကြီးစီရင်စု ပိုက်သင်ရွာ (ပခုက္ကူခရိုင် မြိုင်မြို့နယ် ပိုက်သင်ရွာ)တွင် အဘ **ဦးရွှေအောင်**– အမိ **ဒေါ်ကြုတ်**တို့မှ ဖွားမြင်တော်မူသည်၊ ငယ်နာမည်မှာ **မောင်ပန်းအောင်** ဖြစ်သည်၊ ၆-နှစ်သားအရွယ်တွင် နောင်ဘရွာ နိဗ္ဗာန်ကျောင်းဆရာတော် ဓမ္မနန္ဒာလင်္ကာရ မဟာထေရ်မြတ်၏တပည့် ပိဋကတ္တယဝိဒူ, ဗေဒပါရဂူ အရှင် စန္ဒမဥ္စူသာထံတွင် မိဘတို့အပ်နှံကြသဖြင့် ကျောင်းအိပ်ကျောင်းစား တပည့် အဖြစ်ဖြင့် သင်ပုန်းကြီး, မင်္ဂလသုတ်, ဇာတ်ကြီးဆယ်ဘွဲ့- စသည်တို့ကို သင်ယူခဲ့ပြီးနောက် **ရှင်ဉာဏဝရ** ဘွဲ့မည်ဖြင့် သာမဏေပြု၍ ပညာသင်ကြားရာ ၃-နှစ် အတွင်း သာမဏေသင်ရိုး ကုန်အောင် တတ်မြောက်သဖြင့် **သာမဏေကျော်**ဟု သတင်းပေါက်ခဲ့သည်။

### ပဥ္စမကျော် အောင်

ထို့နောက် သက္ကရာဇ် ၁၀၈၅-ခုနှစ်တွင် ဆရာရင်း အရှင်စန္ဒမဥ္စူသာ ပျံလွန်တော်မူသဖြင့် အင်းဝမြို့သို့ ကြွရောက်ကာ မင်းဆရာ အောင်မြေစံလွတ် မိုးထိ ဆရာတော်ထံ တပည့်ခံ၍ ပညာသင်ကြားခဲ့သည်၊ အသက် ၁၉-နှစ်အရောက် ၁၀၈၆-ခုနှစ် ကဆုန်လပြည့်နေ့၌ သုဓမ္မာစရပ်တွင် ကျင်းပသော စာမေးစာပြန် ပွဲသို့ ဝင်ရောက်ဆင်နွှဲရာ ပဥ္စမကျော်အောင်ပန်းကို ဆွတ်လှမ်းခဲ့သည်၊ ပဥ္စမ ကျော် အောင်မြင်ပြီးနောက် ဇာတိဌာနသို့ ပြန်ကြွပြီး ပခန်းစည်သူရှင်ဘုရား အနောက်မျက်နှာ **ဒကာတော် အောင်ဇေယျ** လှူဒါန်းသော ဘုံသုံးထပ်ရှိ **မတောင့်တကျောင်း**၌ သီတင်းသုံးကာ ဂန္ထန္တရ အဝဝကို ချပို့တော်မူသည်။

### ကျမ်းဂန်ပြုစုခဲ့ခြင်း

ဆရာတော်သည် ထိုကျောင်း၌ သီတင်းသုံးနေခိုက်တွင်—

၁။ ရာဇာဓိရာဇနာမတ္ထပကာသနီကျမ်း

၂။ ရာဇာလင်္ကာရကျမ်း

၃။ ကစ္စာယနသာရနိသျသစ် အကျယ်ကျမ်း

၄။ ကမ္မဝါစာဂဏ္ဌိကျမ်း

၅။ ဒုဋ္ဌက္ခရဂဏ္ဌိကျမ်း

၆။ စက္ကက်ဝိနိစ္ဆယကျမ်း

၇။ မဟာနမက္ကာရ ပါဌ်-နိသျ

၈။ အဋ္ဌသာလိနီဂဏ္ဌိကျမ်း

၉။ ပါတိမောက္ခလေခနကျမ်း

၁၀။ သင်္ဂြိုဟ်ဂဏ္ဌိကျမ်း

၁၁။ ဝုတ္တောဒယဆန်းနိသျ—တို့ကို ပြုစုစီရင်တော်မူခဲ့သည်။

## ကျော်အောင်စံထားကျောင်းတိုက်

၎င်းနောက် ဆရာတော်သည် အင်းဝမြို့သို့ ပြန်ကြွ၍ ဟံသာဝတီရောက်မင်းက လှူဒါန်းသည့် ကျောင်းတရာရှိသော ကျော်အောင်စံထားကျောင်းတိုက်ကြီးတွင် သီတင်းသုံးတော်မူလေသည်။

ထို့ကြောင့်ပင် ကျော်အောင်စံထားဆရာတော်ဟု ထင်ရှားသည်၊ ယင်းကျောင်းတိုက်၌ သီတင်းသုံးနေတော်မူခိုက်တွင်—

၁၂။ အဘိဓာန်နိသျ—

ကို ရေးသားတော်မူကြောင်း—

"ကာရိတေ တေနေဝ သေယျေ၊ နာနာဘဝနဘူသိတေ။
ကိတ္တိဇယဌပနမှိ၊ သတမန္ဒိရဝါရိတေ"—

ဟူသော အဘိဓာန်နိသျနိဂုံးဖြင့် သိသာသည်၊ ဆရာတော်သည် ဖော်ပြပါကျမ်းများအပြင်—

၁၃။ သုရာဝိနိစ္ဆယကျမ်း

၁၄။ အနုသုရာဝိနိစ္ဆယကျမ်း—

စသည်တို့ကိုလည်း ပြုစုစီရင်တော်မူခဲ့သည်။

ဆရာတော်သည် အဘိဓာန်ဋီကာ နိသျဟောင်း, ဝေါဟာရတ္ထပကာသနီကျမ်းပြုအဖြစ် စသည်ဖြင့် ထင်ရှားလှသော ဒုတိယကျော်အောင်စံထားဆရာတော်, ကဝိလက္ခဏာသတ်ပုံကျမ်းပြုအဖြစ်ဖြင့် ကျော်ကြားသည့် စိန္တကျော်သူဦးသြ-စသည့် ပုဂ္ဂိုလ်ကျော်တို့၏ ဆရာလည်း ဖြစ်တော်မူသည်။

## ဝါးကျောင်းနေ ဆရာတော်

ဆရာတော်သည် တပါးတည်းနေလိုသော ဆန္ဒတော်ပြင်းပြသဖြင့် ဘုရင်မင်းမြတ်ထံ စာဖြင့် အခွင့်တောင်းရာ ၃-ကြိမ်တိုင်မြောက်မှ အခွင့်ရသည်၊အခွင့်ရလျှင် ရချင်းပင် အလုံမြို့ ကျေးလက် ညောင်ကန်ရွာသို့ ကြွ၍ ညောင်ကန်ရွာ အနောက်တိုက်ခေါ် သည့် ကျောင်းတိုက်၏ တံတိုင်းအရှေ့ဖက်၌ ဝါးကျောင်း ဆောက်၍ သီတင်းသုံးတော်မူသည်။

## နတ်ပွဲသဘင် ဝင်ရပြီ

ဘာသာရေး သာသနာရေးကို အားပါးတကုတ် ကြိုးစားအားထုတ် ဆောင်ရွက်ခဲ့သည့် ကျော်အောင်စံထားဆရာတော်သည် သက္ကရာဇ် ၁၁၁၅-ခုနှစ် အလောင်းမင်းတရားကြီး မြန်မာနိုင်ငံတော်ကို အသစ်တည်ထောင်ကာ ကုန်းဘောင် ရွှေမြို့တော်ဝယ် ကြငှန်းဖွင့်သော သက္ကရာဇ်တွင် နတ်ပွဲသဘင် ဝင်စံတော်မူသည်။

## သံဝေဂယူဘွယ်

ဤသို့ဖြင့် ပညာဉာဏ်ရှိသူသည် ယုတ်မာလှသည့်ပြင် လွန်နိုင်ခဲလှပြီး မမြဲသော သဘောကို သိ၍ အရှည်အစွဲ အမြဲတည်နေ မသေရတော့သည့် နိဗ္ဗာန် အမြိုက်ခတ်သို့ ဆိုက်ကပ်ရန် အားထုတ်ရာသည်။

ဧဝံ အနိစ္စတံ ဇမ္မိံ၊ ဥတ္တာ ဒုရတိသမ္ဘဝံ။
တံ ပတ္တုံ ဝါယမေ မီဓေရာ၊ ယံ နိစ္စံ အမတံ ပဒံ။

(ပါရာဇိကကဏ်အဋ္ဌကထာ၊ ပဌမ၊ ၂၉)

# ဒုတိယ

# ကျော်အောင်စံထားဆရာတော်

မြန်မာစာပေကို လိုက်စားသူတိုင်း ဒုတိယ ကျော်အောင်စံထားဆရာတော်ဘုရားကြီးကို ကြည်ညိုကြ,အမှတ်ရကြမည်သာ ဖြစ်သည်၊ ဝေါဟာရတ္ထပကာသနီမည်သော မြန်မာ့ဂန္ထဝင် စာအုပ်ကြီးဖြင့် ဆရာတော်သည် မြန်မာ့ဝေါဟာရအရာ ကျွမ်းကျင်တတ်မြောက်မှုကို ပြတော်မူလေသည်။

## ဇာတိချက်ကြွေ မွေးရပ်မြေ

ဆရာတော်သည် သက္ကရာဇ် ၁၀၇၀ ခုပြည့်နှစ်တွင် ပခန်းကြီးနယ် စေရိုင်းရွာ (ပခုက္ကူခရိုင် ပခန်းကြီးနယ် စေရိုင်းရွာ)၌ မိး ရှူးသန့်စင် ဖွားမြင်ခဲ့သည်၊ အင်းဝမြို့ ဟံသာဝတီရောက်မင်းမြတ်၏ ကောင်းမှုတော် ကျောင်းတော်ကြီးတွင် ပဌမ ကျော်အောင်စံထားဆရာတော်ဘုရားကြီး ဂန္ထန္တရအာဝဝကိုပို့ချစဉ်ခေတ်ကောင်း ကြိုက်ကြုံဆဲတွင် ရှင်**ဂုဏာစာ**ရဘွဲ့ဖြင့် ရှင်ရဟန်းဖြစ်၍ သာသနာ့ရိပ်မြုံ ခိုလှုံတော်မူခဲ့သည်၊ ရဟန်းဖြစ်ပြီးနောက် စာပေတတ်မြောက်ကျွမ်းကျင်သောအခါ အလောင်းမင်းတရားကြီး၏ ဒုတိယသားတော် ရတနာပူရ **အင်းဝ**ကို တတိယ အကြိမ် တည်ထောင်သည့် ကုန်းဘောင် **ဆင်ဖြူ**ရှင်မင်းလက်ထက် သူတောင်းစား ကျွန်သီးတော်များကို အုပ်ချုပ်ရသူ အရှုပ်ဝန်အဖြစ်ဖြင့် သူကောင်းပြုခံရမည့် သူတော်စင် ဥပါသကာ တဦးက ရာထူးဌာနန္တရ မရမီကပင် အင်းဝမြို့ အရှေ့ဖက်တွင် ကြေးနီကျောင်းကိုဆောက်လုပ်၍ ကိုးကွယ်သဖြင့် ကြေးနီကျောင်း ဆရာတော်ဟု ကျော်ကြားလေသည်။

## ကြေးနီကျောင်း မည်ခြင်း

အင်းဝမြို့ အရှေ့ဖက် ကြေးနီချောင်းအနီးတွင် ဆောက်လုပ်သောကျောင်း ဖြစ်သောကြောင့် ကြေးနီကျောင်းဟု ဆိုကြ၏၊ တနည်းမှာ အင်းဝမြို့ အရှေ့ဖက်၌ ကြေးနီချောင်းဟု မရှိချေရကား ကျောင်းကိုဆောက်လုပ်ရာ၌ အမိုးကိုကြေးနီပြားများဖြင့် အုပ်မိုးထားသဖြင့် ကြေးနီကျောင်းဟု ခေါ်ဝေါ်ခြင်းဖြစ်သည်ဟု **ပုဂံဝန်ထောက်မင်း ဦးတင်**က ဆို၏၊ စာရေးသူ ထင်မိသည်မှာ သီဟိုဠ်ကျွန်းမှ လောဟမဟာပါသာဒခေါ် ပြာသာဒ်ကို ပါဠိအတိုင်း တိုက်ရိုက်ပြန်ယူ၍ ကြေးပြာသာဒ်ဟု ခေါ်ကြသည်၊ အမှန်မှာ ကြေးနီအဆင်းရှိသော အုဋ်ကြွပ်တို့ကို မိုးထားသဖြင့် "လောဟမဟာပါသာဒ" ခေါ်ကြောင်း—

"တမ္ဗလောဟိဋ္ဌကာဟေသော၊ ပါသာဒေါ ဆာဒိတော အဟု။
လောဟပါသာဒဝေါဟာရော၊ တေန တတ္ထ အဇာယထ"—

ဟူသော မဟာဝံသ၊ ၂၇။ ၄၂-ဂါထာဖြင့် သိသာသည်၊ ကြေးနီပြားများ မိုးထားသောကြောင့် မဟုတ်ချေ၊ ဤ၌ ကြေးနီကျောင်းဟူရာတွင်လည်း ကြေးနီ အဆင်းရှိသော အုဋ်ကြွပ်တို့ဖြင့် မိုးထားသော ကျောင်းဖြစ်သဖြင့် ကြေးနီ ကျောင်းဟု ခေါ်တွင်ကြပေမည်။

## ဒုတိယ ဆရာတော်ဖြစ်ခြင်း

အလောင်းမင်းတရားကြီး ဦးအောင်ဇေယျသည် ကုန်းဘောင်မင်းဆက်ကို တူထောင်၍ သက္ကရာဇ် ၁၁၁၄-ခုနှစ်တွင် ရွှေဘိုမြို့၌ ထီးနန်းစိုက်၏၊ နောက် ၁-နှစ် သက္ကရာဇ် ၁၁၁၅-ခုနှစ်တွင် ဆရာရင်းဖြစ်တော်မူသည့် ကျော်အောင်- စံထားဆရာတော် ပျံလွန်တော်မူသဖြင့် ကြေးနီကျောင်း ဆရာတော်အား ပင့်လျှောက်တင်လှူရာ ဆရာတော်သည် ကျော်အောင်စံထား ကျောင်းတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူသည်၊ ထိုအခါမှစ၍ ကြေးနီကျောင်းဆရာတော် ဟူသောအမည် ပျောက်၍ ကျော်အောင်စံထားဆရာတော် ဟူသော အမည်သစ် ဖြစ်ပေါ်လာလေတော့သည်။

## ကျမ်းဂန်ပြုစု အားထုတ်မှု

ဆရာတော်သည် အဖိုးတန် ကျမ်းဂန်တို့ကို ပြုစုခြင်းဖြင့် လိုလျက်ရှိနေသော အမိမြန်မာစာပေဘဏ္ဍာတိုက်ကို ဖြည့်တော်မူခဲ့သည်၊ ကျမ်းဂန်တို့မှာ—

၁။ ဝေါဟာရတ္ထပကာသနီကျမ်းကြီး

၂။ အဘိဓာန်ဋီကာနိဿျ

၃။ ဝုတ္တောဒယဆန်းနိဿျ (နံ့ကျယ်) တို့ ဖြစ်လေသည်။

## ဆရာတော်၏ ဝီရိယ

ဆရာတော်သည် အလွန် ဝီရိယကြီးမားသည့် ဝီရိယာဓိက ပုဂ္ဂိုလ်ထူး ဖြစ် တော်မူသည်၊ ကြီးကျယ် များပြားလှသည့် အဘိဓာန်ဋီကာနိဿျကျမ်းကြီးနှင့် ဝေါဟာရတ္ထပကာသနီကျမ်းကြီးမျိုးမှာ သာမန်ဝီရိယဖြင့် ရေးရန် မဖြစ်နိုင်ပေ၊ ဆရာတော်သည် ပဌမ ကျော်အောင်စံထားဆရာတော်နှင့် အခြား ဆရာမြတ်တို့ ထံမှ ရသော နည်း ဥပဒေသကို မှီ၍ ကျမ်းဂန်များကို ရေးသားရကြောင်း—

“**ကျော်အောင်စံထား**တိ ပညာတာ၊ နိဿာယာ’စရိယ’ညေဟိ။
လဒ္ဓေါပဒေသိ’မံ ဂန္ထံ၊ မာရေန္တု လိက္ခိတံ စိရံ”—

ဟု ဘွင်းဘွင်း ဝန်ခံ ဖော်ပြထားသည်မှာ ပညာရှိ သူတော်ကောင်း ပီသလှပါပေသည်၊ ဖော်ပြပါ ဒုတိယ ကျော်အောင်စံထား ဆရာတော်ကဲ့သို့ အလွန်အမင်း ကြိုးစား အားထုတ်နိုင်ကြပါစေ။

သော ကရောဟိ ဒီပမတ္တနော၊ ခိပ္ပံ ဝါယမ ပဏ္ဍိတော ဘဝ။

(ဂေါဃာတကပုတ္တဝတ္ထု၊ ဓမ္မပဒ၊ ၄၈)

# ယောဆရာတော်

## ( အရှင်ဇောတယန္တမဟာထေရ် )

ယောဆရာတော် အရှင်ဇောတယန္တသည် ဂန္ထဝင်မြောက် ကျမ်းပြုပုဂ္ဂိုလ်ကြီး တပါး ဖြစ်သည်၊ ဆရာတော်ကား အရှင်ဇောတယန္တဟူသော ဘွဲ့တော်နာမဖြင့် မထင်ရှားခဲ့ပဲ "ယောဆရာတော်"ဟုသာ ထင်ရှားခဲ့သည်၊ ဆရာတော်သည် ပဌမကျော် ဇိနစက္ကာဘိရာမ ဘွဲ့တံဆိပ်တော်ရ ကျော်အောင်စံထားဆရာတော်၏ တပည့်ဖြစ်သဖြင့် ပခန်းတောင်လက် နောင်ဘရှာငယ် နိဗ္ဗာန်ကျောင်းတိုက်နေ ဓမ္မနန္ဒာလင်္ကာရ မဟာထေရ်မြတ်တို့၏ အဆက်အနွယ်၌ ဆီမီးတန်ဆောင်ပမာ လွန်စွာ ထင်ရှားသော ဆရာတော် ဖြစ်လေသည်၊ ဆရာတော်သည် ပခန်း စည်သူရှင်ဘုရား အနောက်မျက်နှာ မတောင့်တကျောင်းတိုက်၌ သီတင်းသုံး၍ ဂန္ထန္တရအဝဝကို ပို့ချတော်မူခဲ့သည်။

### ယောတိုင်းဌာနီ ကြွချီတော်မူခြင်း

ဆရာတော်သည် တိုင်းပြည်မြို့ရွာ မငြိမ်မသက်ဖြစ်လာသဖြင့် အေးချမ်းမည့် ဌာန အနောက်ယောသို့ ကြွ၍ ရွှေမုဋ္ဌောဘုရား အနောက်ဖက် ပေါက်ရွာ၌ သီတင်းသုံးကာ စာပေပို့ချ နေတော်မူပြန်သည်၊ ဆရာတော်သည် ထိုခေတ်က ဝိနည်းကို အလေးပြုသော ဆရာတော်အဖြစ်ဖြင့် ထင်ရှားသည်၊ သို့ဖြစ်၍ ဆရာတော်သည် အဆုံးအဖြတ် ဝိနိစ္ဆယနှင့်တကွ ကင်္ခါအဋ္ဌကထာ နိဿယကြီး တစောင် ရေးရန် သီလအကျင့် ပြည့်ဝစုံလင်သည့် ဘုရားရှင်သာသနာတော် ကြာရှည် တည်တံ့စေလိုသော ပညာရှိ ရဟန်းတော် အရှင်ဓမ္မစာရီ မဟာ ထေရ်မြတ် တောင်းပန်အပ်သဖြင့် ကင်္ခါဝိတရဏီအဋ္ဌကထာနိဿယကို ရေးသား စီရင်ရကြောင်း—

"သီလာစာရသမ္ပန္နေန၊ မဟာထေရေန ဓီမတာ။
သာသနဋ္ဌိတိကာမေန၊ ယာစိတော ဓမ္မစာရိနာ"——

ဟု ကင်္ခါနိဿယ ကျမ်းဦးအစ၌ ဖော်ပြခဲ့သည်၊ ၎င်းကင်္ခါနိဿယသည် "ယောမူ ကင်္ခါနိဿယ"ဟု ထင်ရှားလေသည်၊ ကင်္ခါအဋ္ဌကထာနိဿယ ရေးပြီးချိန်မှာ သက္ကရာဇ် ၁၁၁၁-ခုနှစ်တွင် ဖြစ်ကြောင်း နိဿယနိဂုံး၌ပင် တွေ့ရှိရပေသည်။

## အလောင်းတော် ဗောဓိသတ်

ယောဆရာတော်သည် သာမန်ပုဂ္ဂိုလ် အမျိုးအစား မဟုတ်ပေ၊ ဆရာတော်သည် သမ္မာသမ္ဗုဒ္ဓ ဆုကြီးပန် ပုဂ္ဂိုလ်ထူး ဖြစ်တော်မူလေသည်၊ ဆရာတော်၏ ဗုဒ္ဓကိုရအလောင်းတော်၏ အဖြစ်ကို—

"အဟံ တု ပရမံ ဗောဓိံ၊ အပတ္တော အမှိ ယတ္တကံ။
သဒါ ပုရေ ပါရမိယော၊ တတ္တကံ စ ဘဝေ ဘဝေ။

ပူရယိတွာ တံ ပတ္တာန၊ သဗ္ဗံ လောကံ သဒေဝကံ။
သံသာရဏ္ဏဝဝုယှန္တံ၊ တာရေဿံ ဘဝသာဂရာ"—

ဟူသော နိဿယနိဂုံး ဆုတောင်းဂါထာများဖြင့် သိရပေသည်၊ ဆရာတော်သည် သာသနာတော်၌ အစဉ် ကျေးဇူးများ၍ အဖိုးအနဂ္ဃ ထိုက်တန်လှသော ကဝိနိဿယကျမ်းကို ရေးသားထားတော်မူခဲ့ပြီး ဘုရားရဟန္တာတို့သော်မှ မလွန်ဆန်နိုင်သည့် သေမင်းအလိုသို့ လိုက်ပါတော်မူရလေသည်။

နိဿယံ ဌပယိ သေ့မံ၊ ပရမ္ပရဟိတာဝဟံ။
သာသနေ လောကနာထဿ၊ အဟော မစ္စုဝသံ ဂတော။

# ကင်ပွန်းတောင် ဆရာတော်

ကင်ပွန်းတောင် ဆရာတော်သည် ထင်ရှားသော ပါဠိကျမ်းတတ် မထေရ် တပါး ဖြစ်လေသည်၊ ဆရာတော်သည် မာရ်အောင်ရတနာ စေတီဒါယကာ စနေမင်းလက်ထက်တွင် ထင်ရှားတော်မူသည်။

ဆရာတော်သည် ပခုက္ကူခရိုင် မြစ်ခြေမြို့နယ် တန့်ကြည့်စွယ်တော်တောင် အနောက်မြောက်ဖက် ကင်ပွန်းတောင်ရွာတွင် ဖွားမြင်ခဲ့သည်။

### ရွှေကျောင်း၌ သီတင်းသုံးခြင်း

ဆရာတော်သည် ပုဂံမြို့ဟောင်း အရှေ့မြောက်ဖက် စည်သူအမည်ရှိသော ဒါယကာ ဆောက်လုပ်လှူဒါန်းအပ်သော ရွှေကျောင်း၌ သီတင်းသုံးတော်မူ၍ စာပေကျမ်းဂန် အတန်တန်ကို များစွာသော တပည့်တပန်းတို့အား ချပို့တော်မူခဲ့၍ အနာဂတ် သုတေသီတို့ အတွက်လည်း—

၁။ သုဒ္ဒုဒ္ဒသဝိကာသိနီကျမ်း

၂။ ခလိတာခလိတဝိနိစ္ဆယကျမ်း—

စသည်တို့ကိုလည်း ရေးသားတော်မူခဲ့သည်။

ဆရာတော်၏ သုဒ္ဒုဒ္ဒသဝိကာသိနီကျမ်း ပြီးချိန်မှာ သက္ကရာဇ် ၁၀၉၀-ပြည့်နှစ် ဖြစ်ကြောင်း—

“နဝုတာဓိသဟဿမှိ၊ သက္ကရာဇေ စ သမ္ပတ္တေ။
သုနိဋ္ဌိတောယံ ဂန္ထော စ၊ ရစိတော တေန ထေရေန”—

ဟူသော ဂါထာဖြင့် သိရပေသည်။

### တိုက်တွန်းချက်

ဗုဒ္ဓသာသနာဝန်ထမ်းဖြစ်သော သူတော်စင်အပေါင်းတို့သည် လို၍နေသော အမိမြန်မာနိုင်ငံ၏ စာပေဘဏ္ဍာတိုက်ကိုဖြည့်ရန် ကြိုးပမ်း နိုင်ကြပါစေ။

“ဒဠှံ ပဂ္ဂယှ ဝီရိယံ၊ မာ နိဝတ္တ အဘိက္ကမ။”

“သင်သည် လုံ့လဝီရိယကို မြဲမြံစွာ ချီမြှောက်(စွဲကိုင်) ပါလော့၊ နောက်သို့ မဆုတ်ပါလင့်၊ ရှေ့သို့သာ ချီတက်ပါလော့။”

(ဗုဒ္ဓဝံသပါဠိ၊ သုမေဓပတ္ထနာကထာ၊ ၃၁၄)

## ပခုက္ကူ ပိုက်သင်ဆရာတော်

(အရှင်နရိန္ဒမဟာထေရ်)

အရှင်နရိန္ဒသည် ၁၀၈၇-ခုနှစ်တွင် ပခုက္ကူခရိုင် ပခန်းကြီးမြို့ ပိုက်သင်ရွာ၌ ဖွားမြင်သည်၊ အမရပူရ မြို့တည် နန်းတည် မင်းတရားကြီး၏ သားတော် အိမ်ရှေ့မင်းနှင့် အိမ်ရှေ့မိဖုရားတို့က ပိုက်သင်ဆရာတော်ကို ကိုးကွယ်၍ မြို့တော်၏ အနောက်ဖက်ရှိ သရက်တောကျောင်းတိုက်တွင် မင်္ဂလာဝေယန်ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းသည်၊ ဆရာတော်သည် "နရိန္ဒာဘိသိရိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိတော်မူလေသည်။

---

## ရေစကြိုဆရာတော်

(အရှင်ဇနိန္ဒာဘိ)

ဆရာတော်သည် သက္ကရာဇ် ၁၁၁၀-ပြည့်နှစ်တွင် ပခုက္ကူခရိုင် ပခန်းကြီးမြို့ ရေစကြိုရွာတွင် ဖွားမြင်တော်မူသည်၊ ရှင်ရဟန်းပြု၍ အရှင်ဇနိန္ဒာဘိဘွဲ့ကို ဥပဇ္ဈာယ်ဆရာတော်တို့က မှည့်ခေါ်သည်၊ အမရပူရမြို့တည် မင်းမြတ်၏ သမီးတော်အကြီး ကနီမြို့စား အိမ်ရှေ့မိဖုရားကြီးက ကိုးကွယ်သည်၊ ဆရာတော်သည် အမရပူရမြို့ အရှေ့တောင် မိုးထိတိုက် ဘုံသာဝေယန်ကျောင်း၌ သီတင်းသုံးတော်မူသည်၊ "ဇနိန္ဒာဘိသိရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိသည်၊ ဆရာတော်သည် ၁၁၈၄-ခုနှစ်တွင် နတ်ပွဲသဘင်ဝင်တော်မူလေသည်။

# ဆင်တဲဆရာတော်

**(အရှင်ဉာဏာလင်္ကာရ)**

ဆရာတော်သည် သက္ကရာဇ် ၁၁၆၂-ခုနှစ် ဝါဆိုလဆန်း ၁၁-ရက်နေ့တွင် ပခုက္ကူခရိုင် ပခန်းကြီးမြို့ အနောက်လက် ကျေးကန်ရွာ၌ **ဦးမြတ်စံပေါ် - ဒေါ်နိုး** တို့မှ ဖွားမြင်ခဲ့သည်၊ ဆရာတော်လောင်းလျာ၏ နာမည်ကို **မောင်သာ**နိုးဟု နာမဂ္ဂဟဏမင်္ဂလာပွဲတွင် မိဘတို့ မှည့်ခေါ်ကြသည်၊ ပဗ္ဗဇ္ဇမင်္ဂလာသဘင် ဆင်ယင်သောအခါတွင် **ရှင်ဉာဏာလင်္ကာ**ရဟု ဥပဇ္ဈာယ်ဆရာတော်က မှည့်ခေါ်သည်၊ ရှင်ဉာဏာလင်္ကာရသည် စာပေ တတ်မြောက်ကျွမ်းကျင်၍ ရဟန်းခံပြီးနောက် အရှင်ဉာဏာလင်္ကာရဟု ကျော်ကြားသည်၊ ပုဂံမင်းလက်ထက် ပေါက်မြိုင်မြို့စား အတွင်းဝန် ဦးမှုံက ကိုးကွယ်သည်၊ မြို့တော်မြောက်ဖက်ရှိ ဆင်တဲတိုက်အတွင်း လေးထပ်ကျောင်း၌ သီတင်းသုံးတော်မူ၍ ''ဆင်တဲဆရာတော်''ဟု ထင်ရှားခဲ့သည်၊ ''ဉာဏာလင်္ကာရ သိရီပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု'' ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိလေသည်။

# နေရင်းဆရာတော်

(အရှင်ဇယန္တ)

နေရင်းဆရာတော်သည် ပခုက္ကူခရိုင် ပခန်းကြီးမြို့ နေရင်းရွာ၌ ၁၁၃၆-ခုနှစ်တွင် ဖွားမြင်သည်၊ အရွယ်ရောက်သော် ရှင်ရဟန်းပြုသည်၊ ရတနာပူရအင်းဝမြို့တည် မင်းတရားလက်ထက် အင်းဝမြို့တောင်ဖက် စလင်းမင်းသားကအုဌ်တိုက်ကျောင်းဆောက်၍ ကိုးကွယ်သည်၊ အမရပူရမြို့သို့ ရောက်သောအခါမြို့တော်မြောက်ဖက် ဆင်တင်တိုက် ပေါက်မြိုင်မြို့စား၏ ဝါဆိုကျောင်း၌ သီတင်းသုံးတော်မူသည်၊ ဆရာတော်သည် "ဇနိန္ဒာဘိသိရိပရမဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိသည်။

ဆရာတော်သည် ၁၂၀၉-ခုနှစ် နယုန်လဆုတ် ၁၀-ရက်နေ့တွင် ဘဝနတ်ထံဝင်စံတော်မူလေသည်။

## သံဝေဂယူဘွယ်

ယနေ့ကပင်လျှင် အားထုတ်သင့်သော ကုသိုလ်ကောင်းမှု အစုစု အလုပ်ကိုပြုသင့်သည်၊ နက်ဖြန် သေရချိမ့်မည်ဟု အဘယ်သူ သိချိမ့်မည်နည်း၊ များစွာသော မီး,အဆိပ်,ဓား လက်နက် အစရှိသော စစ်သည်တော် တပ်မတော်ရှိသောသေမင်းနှင့် ချိန်းချက်ထားမှု မရှိပါတကား။

အဇ္ဇေဝ ကိစ္စမာတပ္ပံ၊ ကော ဇညာ မရဏံ သုဝေ။
န ဟိ နော သင်္ဂရံ တေန၊ မဟာသေနေန မစ္စုနာ။

(ဥပရိပဏ္ဏာသ၊ ၂၂၆-စသည်)

# ပဉ္စမ ညောင်ကန်ဆရာတော်

## (အရှင်ပုညသေဌ)

ဆရာတော် အရှင်ပုညသေဌသည် သက္ကရာဇ် ၁၀၉၂-ခုနှစ်တွင် ပခုက္ကူခရိုင် ပခန်းကြီးမြို့နယ် ခပိုရွာ၌ ဖွားမြင်တော်မူသည်၊ ဘိုးတော်မင်းတရားလက်ထက်တွင် အမရပူရမြို့တော် အနောက်ဖက် သရက်တော မင်္ဂလာဝေယန်ကျောင်းတိုက်၌ စာသင်သား များစွာတို့အား ဂန္ထန္တရအဝဝကို ပို့ချတော်မူသည်၊ ဆရာတော်သည် ပဉ္စမ ညောင်ကန်ဆရာတော် အဖြစ်ဖြင့်လည်း ထင်ရှားသည်၊ ဘိုးတော်ဘုရား ဆက်ကပ်လှူဒါန်းအပ်သော ''ဗုဒ္ဓရက္ခိတမဟာဓမ္မရာဇာဓိရာဇဂုရု'' ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိသည်။ ဆရာတော်သည်—

၁။ ရာဇနာမတ္ထပကာသနီကျမ်း

၂။ အက္ခရသမ္ဘောဓကျမ်း-စသည်တို့ကိုလည်း ပြုစုစီရင်တော်မူသည်။

### ပျံလွန်တော်မူပြီ

ဆရာတော်သည် ၁၁၇၂-ခုနှစ်တွင် စုတိကမ္မဇရုပ် ချုပ်တော်မူသည်။

### သံဝေဂယူဘွယ်

သတ္တဝါသခၤါရတို့၏ မမြဲခြင်းသဘောတရားသည် တရွာပိုင် တရွာဆိုင် သဘောတရားလည်း မဟုတ်ပါချေ၊ တနိဂုံး, တမြို့နယ်, တခရိုင်နှင့်သာ စပ်ဆိုင်သော တရားဓမ္မလည်း မဟုတ်ခဲ့ပါချေ၊ တမျိုးတနွယ်နှင့်သာ စပ်သွယ်သော သဘောသဘာဝလည်း မဟုတ်ပါချေ၊ အမှန်စင်စစ်မူကား လူ, နတ်, ဗြဟ္မာ အဝင်အပါ အားလုံးသော လောက၏ သဘောသဘာဝ ဓမ္မတာတရား မှန်လှပါပေသည်။

> န ဂါမဓမ္မော နိဂမဿ ဓမ္မော၊ န စာပိ'ယံ ဧကကုလဿ ဓမ္မော။
> သဗ္ဗဿ လောကဿ သဒေဝကဿ၊ ဧသေဝ ဓမ္မော ယဒိဒံ အနိစ္စတာ။
>
> (ကိသာဂေါတမိထေရီအပဒါန်၊ ၂၄၆)

# ပဌမ ဗားကရာဆရာတော်

ဗားကရာဆရာတော်၏ နာမည်ဘွဲ့တော်ကို သင်္ဂြိုဟ်သင်ဘူးသည့်ပုဂ္ဂိုလ်တိုင်း လိုလို ကြားဘူးကြသည်၊ ဆရာတော်ရေး ကျမ်းပေါင်း သုံးဆယ်ကျော်အနက် သင်္ဂြိုဟ်ပဏ္ဏာမ "သမ္မာသမ္ဗုဒ္ဓံမတုလံ" ဂါထာအနက်ဖြင့် ဆရာတော်၏ အရည်အချင်းကို အကဲခတ်နိုင်သည်၊ ဆရာတော်သည် ပခန်းကြီးမြို့ အလယ်ကန်ရွာ (ပခုက္ကူခရိုင် မြိုင်နယ်အလယ်ကန်ရွာ)၌ သက္ကရာဇ် ၁၁၀၀-ပြည့်နှစ်တွင် ဖွားမြင်ခဲ့သည်၊ စနေသားဖြစ်သည့်အတိုင်း သာမဏေဝတ်သောအခါ ဘွဲ့တော်မှာ **ရှင်နန္ဒမာလာ** ဖြစ်သည်၊ အသက် ၂၀-တွင် ရဟန်းပြုရာ ရဟန်းဘွဲ့တော်မှာ **အရှင်ဓမ္မာဘိနန္ဒ** ဖြစ်သည်၊ မကွေးမြို့စား မဟာသီရိဇေယျသင်္ကြံ အတွင်းဝန်မင်းကြီး ကိုးကွယ်သည့်ဆရာတော် ဖြစ်သည်၊ ဆရာတော်သည် အင်းဝမြို့တော်၌ ဗားကရာကျောင်းတိုက်အတွင်း မကွေးမြို့စား အတွင်းဝန် ဆောက်လုပ်လှူဒါန်းသည့် ကျောင်း၌ သီတင်းသုံးတော်မူသည်၊ အမရပူရနန်းမြို့တော် ရောက်သောအခါ၌လည်း ရွှေမြို့တော်အနောက်ပြင် ဗားကရာကျောင်းတိုက်ကြီး၌ သီတင်းသုံးတော်မူသည်၊ ထို့ကြောင့်ပင် "ဗားကရာဆရာတော်"ဟု ထင်ရှားကျော်ကြားတော်မူသည်။

ဆရာတော်သည် နိကာယ်ငါးရပ် ပိဋကတ်နှင့် ဗျာကရုဏ်းကျမ်းတို့၌ လွန်စွာ ကျွမ်းကျင်တတ်မြောက်တော်မူသည်၊ ဘိက္ခုဝိဘင်းနှင့် ဘိက္ခုနီဝိဘင်းကို အမြဲတမ်း အရဆောင်သဖြင့် "ဥဘတောဝိဘင်္ဂရေ" ဆရာတော်အဖြစ်လည်း ထင်ရှားသည်၊ စာပေပို့ချခြင်းကိစ္စ၌လည်း များစွာ လေ့ကျက်တော်မူသည်၊ ပဌမ ဗားကရာဆရာတော်လက်ထက်က ဗားကရာကျောင်းတိုက်ကြီး၌ နေ့ရောညဉ့်ပါ စာအံသံ, စာတက်သံ မစဲဟု အဆိုရှိသည်။

## တပည့်ကောင်း ဆရာ

ဆရာတော်သည် သဲအင်းသာသနာပိုင်ဆရာတော်, ဂူကြီးဆရာတော် အရှင်ပညာသီဟ, နွားပြင်းဆရာတော် အရှင်မုနိန္ဒသာရ-တို့၏ ဆရာလည်း ဖြစ်တော်မူသည်၊ ဆရာတော်သည် နိကာယ်ငါးရပ် ပိဋကတ်စသည်တို့၌သာ တဖက်ကမ်းခတ် တတ်မြောက်သည်မဟုတ်သေး စကားအရာ၌လည်း လွန်စွာ ကျွမ်းကျင်တော်မူသည်။

ထိုအချိန်က သာသနာရေးတွင် သာမဏေများ ရွာတွင်းဝင်လျှင် သင်္ကန်းရုံကြသင့်သည်, မရုံပဲ ပခုံးတင်သင့်သည်-ဟူသော **အတင်အရုံ ဝိဝါဒကြီး** ပေါ်ပေါက်ခဲ့သည်၊ စဉ့်ကူးမင်းလက်ထက် ၁၁၃၈-၁၁၄၃-ခုနှစ်တွင် တကြိမ်, အမရပူရ

မြို့နန်းတည် ဘိုးတော်မင်းတရားလက်ထက် ၁၁၄၃-၁၁၇၁-ခုနှစ်တွင် တကြိမ် အတင်အရှုံး အငြင်းအခုံကို နှစ်ဖက်အချေအတင် ပြောဆိုကြရာ၌ အရှုံးဖက်မှ ပဌမ ဗားကရာဆရာတော် ခေါင်းဆောင်၍ ပြောဆိုရသည်။

## အမြဲနိစ္စ အနိုင်ရ

စဉ့်ကူးမင်းလက်ထက် ၁၁၄၁-ခုနှစ်တွင် အတင်အရှုံးပြောဆိုရန် သုဓမ္မာသို့ မဝင်မီ အရှုံဖက်ဆရာတော်တို့သည် သာသနာပိုင် မန်လည်ဆရာတော်ဘုရားကြီး ၏ ရှေ့တွင် အတင်အရှုံနှင့်စပ်လျဉ်း၍ အချေအတင် လေ့ကျင့်ပြောဆိုကြသည်၊ ရှေးဦးစွာ အရှုံဖက်က ဗားကရာဆရာတော်, အတင်ဖက်က ကတိုးဆရာတော်တို့ အချေအတင်ပြောကြရာ အရှုံဖက်က အနိုင်ရသည်။

နောက်တဖန် အရှုံဖက်က ကတိုးဆရာတော်, အတင်ဖက်က ဗားကရာ ဆရာတော်တို့ အချေအတင်ပြောကြပြန်ရာ အတင်ဖက်ကအနိုင်ရသည်၊ ဗားကရာ ဆရာတော်ဖက်ကချည်းသာ အမြဲနိစ္စ အနိုင်ရသည်၊ ထို့ကြောင့် သုဓမ္မာတွင် အရှုံဖက်က ဗားကရာဆရာတော် ခေါင်းဆောင်၍ ပြောဆိုရသည်၊ ထိုအခါ ဗားကရာဆရာတော်၏ စကားပြောကျွမ်းကျင်မှုကြောင့် အတင်ဖက်က အတုလ ဆရာတော်မှာ နောက်ဆုံးတွင် မည်သို့မျှ မချေပနိုင်တော့ပဲ မိမိအယူ မှားကြောင်း ဝန်ခံရသည်၊ ဤသို့ဖြင့် ဗားကရာဆရာတော် အရှင်ဓမ္မာဘိနန္ဒသည် ပိဋကတ်၌လည်း လွန်စွာကျွမ်းကျင်၍ မိစ္ဆာဝါဒကို ချိုးဖဲ့ဖျက်ဆီးခြင်း၌လည်း ဓမ္မာသောကမင်း၏ မင်းဆရာ မောဂ္ဂလိပုတ္တတိဿထေရ်ပမာ လွန်စွာကျွမ်းကျင် လှပါပေသည်။

ဧဝံ ဓမ္မာဘိနန္ဒော ဟိ၊ ဗားကရာထေရကုဉ္ဇရော။
ပိဋကေ အတိဗျတ္တော စ၊ ကုသလော ဝါဒမဒ္ဒနေ။

ဆရာတော်သည် ဘိုးတော်မင်းတရားလက်ထက်တွင် သာသနာပြု တဆယ့် နှစ်ပါး ခန့်အပ်ရာ ပါဝင်တော်မူသည်၊ "တိပိဋကာလင်္ကာရသိရိဓဇမဟာဓမ္မရာဇ ဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိသည်၊ ဆရာတော်သည် တရားနည်း လမ်းမကျက မည်သူ့ကိုမျှ မထောက်မညှာ ပြောဆိုတတ်သောဝါသနာ ရှိတော် မူသည်၊ ဘိုးတော်မင်းတရားလက်ထက်တွင် "ပုံတော်ပြက္ခဒိန်ကို နှစ်သက်မည်, မူလပြက္ခဒိန်ကို နှစ်သက်မည်"ဟု မင်းမြတ်၏ အမိန့်တော်ဖြင့် မေးသည်ကို "ပုံတော်ပြက္ခဒိန်သည် ဘုန်းတော်ကြောင့် ပေါ်လာသော ပြက္ခဒိန်ဖြစ်သည်၊ မူလမဟုတ်၊ ပြက္ခဒိန်ဟောင်းသာ မူလဖြစ်သည်"ဟု မင်း၏မျက်နှာကို မညှာ မထောက် မိန့်တော်မူသည်၊ ဆရာတော်သည် ဤနည်းနှင်နှင် အကြောင်းကိစ္စ တခုခု ပေါ်လာပါက ဘုရင်၏အလိုကျ မိန့်တော်မမူပဲ တရားဓမ္မကျကျ

မှန်သည်ကိုသာ မိန့်ဆိုသောကြောင့် မင်းကေရာဇ် အမျက်ထွက်၍ ရာဇဝတ်သင့်ကာ အဝတ်ဖြူလဲပြီး မွေးရပ်ဇာတိဌာနသို့ အပို့ခံရသည်၊ သက်တော် ၅၇-နှစ်တွင် ကွယ်လွန်လေသည်၊ သီလဝိသောဓနီကျမ်း, မြန်မာ့စွယ်စုံကျမ်းတို့၌ မင်းကေရာဇ် ရာဇဝတ်တော်သိမ်းလျှင် သိက္ခာပြန်တင်သည်ဟု လာရှိသည်။

ပဉ္စမ ဗားကရာဆရာတော်သည် အောက်ပါ ကျမ်းဂန်များစွာတို့ကိုလည်း ပြုစီရင်တော်မူခဲ့သည်—

၁။ သဒ္ဒတ္ထဘေဒစိန္တာနိသျ

၂။ ကစ္စာယနသာရနိသျ

၃။ ဝါစ္စဝါစကနိသျ

၄။ ဝါစ္စဝါစကဒီပနီနိသျ

၅။ သမ္ဗန္ဓစိန္တာနိသျ

၆။ ဝိဘတျတ္ထနိသျ

၇။ သဒ္ဒဝုတ္တိနိသျ

၈။ သဒ္ဒဗိန္ဒုနိသျ

၉။ ဝါစကောပဒေသနိသျ

၁၀။ ကစ္စာယနဘေဒနိသျ

၁၁။ ဂန္ထာဘရဏနိသျ

၁၂။ ဓမ္မနီတိနိသျ

၁၃။ သုဗောဓာလင်္ကာရနိသျ

၁၄။ ဝုတ္တောဒယဆန်းနိသျ

၁၅။ သဒ္ဒမေဒဒီပနီ

၁၆။ သဒ္ဒါကြီးရှစ်စောင်သုတ်နက်

၁၇။ သရာပကတိဗျဉ္ဇနေ-သုတ်အဖွင့် နျာသနိသျ

၁၈။ ဘိက္ခုနီပါတိမောက်နိသျ

၁၉။ ခုဒ္ဒသိက္ခာနိသျ

၂၀။ ဒသကနိပါတ်ဇာတ်အဋ္ဌကထာနိသျ

၂၁။ ကောဒသကနိပါတ်ဇာတ်အဋ္ဌကထာနိသျ

၂၂။ အဘိဓမ္မတ္ထသင်္ဂဟနိသျ

၂၃။ အဘိဓမ္မတ္ထသင်္ဂြိုဟ်အရကောက်ကျမ်း

၂၄။ သင်္ဂြိုဟ်ပဏ္ဏာမဒီပနီ

၂၅။ မာတိကာအရကောက်ကျမ်း

၂၆။ ပရမတ္ထဗိန္ဒုစာကိုယ်နိသျ

၂၇။ ပရမတ္ထဗိန္ဒုဋီကာနိသျ

၂၈။ မူလဋီကာဒွါရကထာအဖွင့်နိသျ

၂၉။ ဓာတုကထာမူလဋီကာနိသျ

၃၀။ ပါဠိမေတ္တာစာ နှစ်ပုဒ်အဖြေ

၃၁။ ဘိုးတော်မင်းတရား အမေးတော်ပုံ အဖြေ

၃၂။ ရှံသင့် တင်သင့် အဆိုစာတမ်း (စာမူ ၂-မူ)

၃၃။ ဟံ့သာဝတီပါမင်းရတု အဖြေ

ဆရာတော်ပြုစုစီရင်သည်ဟု ဆိုသော်လည်း ဆရာတော်ချပို့စဉ် ရေးမှတ်ထားသော ကျမ်းစာများ အများအပြား ပါဝင်သည်၊ ဘိက္ခုနီပါတိမောက်နိသျ, ပရမတ္ထဗိန္ဒုစာကိုယ်နိသျ, ဓာတုကထာမူလဋီကာနိသျ တို့သည် ဆရာတော်ပို့ချသည့်အတိုင်း တပည့် အရှင်မုနိန္ဒသာရ ရေးမှတ်ထားသော ကျမ်းများဖြစ်သည်၊ မာတိကာအရကောက်, ရှံသင့် တင်သင့် အဆိုစာတမ်း ၂-မူတို့သည် ဆရာတော်ပို့ချတော်မူ, အမိန့်ရှိတော်မူ-သည့်အတိုင်း တပည့် အရှင်ဝရတေဇော ရေးမှတ်ထားသော ကျမ်းများ ဖြစ်ကြသည်၊ အဘိဓမ္မတ္ထသင်္ဂဟနိသျသည် ရှင်ပုညသေဋ္ဌ သာမဏေ ရေးမှတ်ထားသော ကျမ်းဖြစ်သည်၊ သင်္ဂြိုဟ်ပဏ္ဏာမ-ဒီပနီကို ဂူကြီးဆရာတော် ရေးမှတ်ထားခဲ့သည်။

# ချောင်းကောက်ဆရာတော်

## (အရှင်သဒ္ဓမ္မနန္ဒီ)

ချောင်းကောက်ဆရာတော် အရှင်သဒ္ဓမ္မနန္ဒီသည် မြန်မာနိုင်ငံ၌ ပေါ်ထွန်းခဲ့သော သုခမိန်များသမိုင်းတွင် ပါဝင်ထင်ရှားခဲ့သော စာဆိုတော်ပညာရှိတဦး ဖြစ်လေသည်။

ဆရာတော်သည် ပခုက္ကူ ပခန်းနယ် ချောင်းကောက်ရွာတွင် ဖွားမြင်ခဲ့သည်၊ ငယ်စဉ်က မောင်ထွားဖြူဟု မိဘတို့က အမည်ပေးခဲ့သည်၊ ရှင်ရဟန်းပြုသောအခါတွင် အရှင်သဒ္ဓမ္မနန္ဒီဟု ဥပဇ္ဈာယ်ဆရာတို့က မှည့်ခေါ်တော်မူကြသည်၊ ဆရာတော်သည် ပါဠိ-မြန်မာ နှစ်ဘာသာလုံး၌ ကျွမ်းကျင်တတ်မြောက်သော ပညာရှိဘဆူ ဖြစ်ကြောင်း ဆရာတော်၏လက်ရာ ကျမ်းစာများက သက်သေခံသည်၊ ဆရာတော်၏ ဝါစ္စဝါစကဋီကာမှာ စာသွားညက်သော ချောပြေသည်၊ ဝါစ္စဝါစကချပို့သူ စာချဆရာတိုင်း လက်မလွှတ်နိုင်ပဲ အသုံးပြုရသော လက်ကိုင်ကျမ်းစာတဆူ ဖြစ်သည်၊ ဆရာတော်သည် အရှင်ဉာဏရံသီမည်သော မထေရ်မြတ် တောင်းပန်သဖြင့် ဝါစ္စဝါစကဋီကာကျမ်းကို ရေးရကြောင်း—

> "ပဋ္ဌုတ္တံ ပရိယတ္တိမှိ၊ သောတူနမဘိကင်္ခိနာ။
> ဉာဏရံသိ သနာမေန၊ ထေရေန အဘိယာစိတော"—

ဟု ဂန္ထာရမ္ဘ-၌ ဖော်ပြထားသည်။ ၎င်းပြင် သီလက္ခန်ဂဏ္ဌိကျမ်းကြီးကိုလည်း အထွက်၊ အတက်၊ စုဒ်၊ စေဒနာ-စသည်တို့ဖြင့် တန်ဆာဆင်၍ ရေးသားခဲ့ရာ ထိုခေတ်၏ စာပေယဉ်ကျေးမှုကိုလည်း ဤကျမ်းကြီးဖြင့် သိနိုင်သည်၊ သီလက္ခန်ဂဏ္ဌိကျမ်းကို အရှင်လက်ာဒီပထေရ် တောင်းပန်သဖြင့် ရေးရကြောင်း ကိုယ်တော်တိုင် ကျမ်းဦးအစ၌ ဖော်ပြခဲ့သည်။

### သက်ပန်း အတွင်းဝန်ကြီး

အရှင်သဒ္ဓမ္မနန္ဒီသည် ၁၁၃၇-ခုနှစ်တွင် သာသနာ့ဘောင်မှ ဆင်းခဲ့သည်၊ ဘိုးတော်မင်းတရားကြီးထံ ခစားရာ ရာဇဗလကျော်ထင်ဘွဲ့ကိုလည်း ရရှိခဲ့သည်၊ လေးဆယ်ကျော် သွေးသောက်ကြီး ခန့်အပ်ခြင်းကိုလည်း ခံရသည်၊ သက်ပန်းရွာကိုလည်း စားရသည့်အပြင် အတွင်းဝန် ရာထူးကိုလည်း ရရှိသည်၊ သီလက္ခန်ဂဏ္ဌိကျမ်းကြီးကို လူအဖြစ်ကျမှ ရေးခဲ့ကြောင်း—

> "ရာဇဗလကျော်ထင်ဣတိ၊ လဒ္ဓဗန္ဓေန ဓိမတာ။
> သမ္မာ ကတော အယံ ဂန္ထော၊ စက္ကေ ပတ္တေ ရဋ္ဌဂ္ဂေရံ"—

ဟူသော နိဂုံးဂါထာဖြင့် ပေါ်လွင်သည်။

### ကျမ်းပြုခဲ့ခြင်း

ချောင်းကောက်ဆရာတော် ပြုစုခဲ့သော ကျမ်းများမှာ—

၁။ ဝါစ္စဝါစကဋီကာ

၂။ ကစ္စာယနသာရ အရကောက်ကျမ်း

၃။ ကင်္ခါဝိတရဏီဂဏ္ဌိကျမ်း

၄။ သီလက္ခန်ဂဏ္ဌိကျမ်း

၅။ နေတ္တိအဋ္ဌကထာနိသျ-စသည်တို့ ဖြစ်ကြသည်။

### ကျောက်စာတော်ဝန်

ဘိုးတော်လက်ထက်တွင် တည်ထောင်သော ကျောက်စာလုပ်ငန်းကြီး၌ ရာဇဗလကျော်ထင်သည် တွင်းသင်းတိုက်ဝန် မဟာစည်သူနှင့်အတူ အကြီးအချုပ် ကျောက်စာဝန် ပြုလုပ်ရသည်။

### ကွယ်လွန်ရပြီ

ဤသို့ဖြင့် လောက-သာသနာ နှစ်ဖြာသောအလုပ်ဖြင့် မွေလျော်ခဲ့သော "အရှင်သဒ္ဓမ္မနန္ဒီ"ရဟန်းဘွဲ့မည်တွင်၍ လူဖြစ်သောခါ "ရာဇဗလကျော်ထင်"ဟု ထင်းရှားသော သက်ပန်းအတွင်းဝန်ကြီးသည် သက္ကရာဇ် ၁၁၅၅-ခုနှစ်တွင် ကွယ်လွန် အနိစ္စရောက်လေသည်။

"ကိလေသာရန်သူကို မအောင်သေးသမျှ ကာလပတ်လုံး
သေမင်းရန်သူကို အောင်ရိုးထုံးစံ မဟုတ်ပါတကား"

ကိလေသသတ္တုံ အဇိတွာ၊ အဇေယျော မစ္စုသတ္တုကော။

(မဟာဝံသ၊၃၂။၁၈)

# သဲအင်း သာသနာပိုင်ဆရာတော်

သဲအင်းသာသနာပိုင်ဆရာတော်သည် ကုန်းဘောင်ခေတ်တွင် အလွန်ကျော်ကြား ထင်ရှားလှသည့် ဆရာတော်တပါး ဖြစ်တော်မူသည်၊ ဆရာတော်သည် သီဟိုဠ်ကျွန်း၌ သာသနာသက္ကရာဇ် ၁၀၇၀-တွင် နန်းတက်သည့် ပရက္ကမဗာဟုမင်း၏ မင်းဆရာ အရှင်ကဿပထေရ်, အရှင်သာရိပုတြာထေရ်တို့ကဲ့သို့ ပညာရှိတပည့်ပေါင်း မြားမြောက်စွာတို့၏ ဦးတိုက်ရာ ပညာရှင်တို့၏ ဆရာ ပညာရှိတို့၏ ရိုသေကိုင်းညွတ်ရာလည်း ဖြစ်တော်မူခဲ့သည်။

## ဖွားမြင်ရာဌာနနှင့် မိဘ

ဆရာတော်သည် ၁၁၂၅-ခုနှစ် နတ်တော်လဆန်း ၇-ရက်နေ့တွင် ပခုက္ကူခရိုင် ပခန်းမြို့ သဲအင်းရွာ အဘ **ဦးအောင်စံ**- အမိ **ဒေါ်**ရှင်တို့မှ မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်၊ မိဘတို့သည် ရုပ်ရေရူပကာယနှင့် ပြည့်စုံသည့် သာသနာပိုင်အလောင်းလျာ သားကောင်းရတနာကို ဖွားမြင်သောအခါတွင် လူမွှန်ဥယျာဉ်၌ အလောင်းတော် သားကောင်း သားမြတ် ဖွားမြင်ကြောင်း ကြားရသည့် သုဒ္ဓေါဒနမင်းကြီးပမာ လွန်စွာ ဝမ်းမြောက်ဝမ်းသာ ရှိကြသည်။

## သာမဏေဝတ် ရဟန်းပြု

သာသနာပိုင် လောင်းလျာ သူငယ်ကလေးသည် တဖြေးဖြေး ကြီးပြင်း၍ သာမဏေအရွယ် ရောက်သောအခါ အင်းဝမြို့ ဘုံကျော်တိုက် စရစ်ဆရာတော်, မိုးထိတိုက် ထန်းတပင်ဆရာတော်တို့ထံတွင် ရှင်သာမဏေဝတ်ကာပညာသင်ကြားဆည်းပူးခဲ့သည်၊ ၎င်းနောက် ပဌမ ဗားကရာဆရာတော်ထံတွင် ဆက်လက် ပညာသင်ကြားရာ ပိဋကတ်ကျမ်းဂန် အမျိုးမျိုးတို့၌ လွန်စွာ ကျွမ်းကျင်တတ်မြောက်သည်၊ အသက် ၂၅-နှစ်တွင် ရဟန်းပြုကာ ၁၁၆၁-ခုနှစ်မှ စ၍ သဲအင်းရွာတွင် စာသင်တိုက် တည်ထောင်ဖွင့်လှစ်လျက် မြားမြောက်စွာသော စာသင်သား ရဟန်းသာမဏေတို့အား စာပေပို့ချပြီးလျှင် စာပွဲသဘင် မစဲနေ့ည ဆင်ယင်ကျင်းပတော်မူသည်၊ ဆရာတော်သည် ၁၁၇၁-ခုနှစ်တွင် ဘကြီးတော်ဘုရားလက်ထက် ရွှေမြို့တော်သို့ ကြွရောက်တော်မူရ၍ အိမ်ရှေ့မင်းသား သာယာဝတီမင်း၏ ကိုးကွယ်ခြင်းကို ခံယူရသည်၊ ၁၁၇၂-ခုနှစ်တွင် "သဒ္ဓမ္မဝံသာဘိသီရိဓဇမဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည့်ပြင် အင်းဝမြို့အနောက် သဲအင်းကျောင်းတိုက်ကို အလှူခံ၍ သီတင်းသုံးတော်မူပြီး ဂန္ထန္တရအဝဝကို ချပို့ သင်ပြပေးတော်မူသည်။

### သာသနာပိုင် သံဃရာဇာဖြစ်ခြင်း

ဆရာတော်သည် ၁၁၉၉-ခုနှစ်တွင် သာသနာပိုင် ခန့်အပ်ခြင်းကို ခံယူရသည်၊ "သူရိယဝံသာဘိ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်ကိုလည်း အလှူခံ ရရှိတော်မူသည်။

ဆရာတော် သာသနာပိုင် ဖြစ်တော်မူသောအခါ သက်တော်မှာ ၇၄-နှစ် ရှိ၍ ပစ္ဆိမအရွယ်တော်သို့ ရောက်နေလေပြီ။

### သာသနာပိုင်ဆရာတော်တို့၏ ဆရာ

သဲအင်းသာသနာပိုင်ဆရာတော်သည် သာသနာပိုင် ဆရာတော်တို့၏ ဆရာတော် ဖြစ်တော်မူသည်၊ "ပညာဇောတာဘိဝံသသိရိပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ရ ဒုတိယ ဗားကရာသာသနာပိုင် ဆရာတော်၏ ကျေးဇူးရှင် ဆရာရင်းလည်း ဖြစ်တော်မူသည်၊ ဆရာတော်သည် ဒုတိယ ဗားကရာဆရာတော်အား ငယ်စဉ်ကမှစ၍ သရဏဂုံပေးပြီး သင်္ကန်းဝတ်ပေးခြင်း, ရဟန်းခံသောအခါ ကမ္မဝါဖတ်ခြင်း, ဥပဇ္ဈာယ်ပေးခြင်း, နိဿယည်းပေးခြင်း,စာပေကျမ်းဂန်ကို ပို့ချခြင်းဟူသော ငါးမျိုးသော အသာဓာရဏာနုဂ္ဂဟဖြင့် ချီးမြှောက်တော်မူခဲ့ကြောင်း ဗားကရာဆရာတော်၏ အင်္ဂုတ္တိုရ်ပါဠိတော်နိသျ ဂန္ထာရမ္ဘ-၌—

> "ဟုတွာ ပဉ္စဟာကာရေဟိ၊ အာခေစရော သာသနေ မမ။
> ဝုဍ္ဎိံ ဖီတိံ စ ပါပေသိ၊ နိရန္တရံ နုမာနယိ"—

စသည်ဖြင့် ဖော်ပြထားတော်မူခဲ့သည်။

ဆရာတော်သည် 'ဥ ယျဓမ္မာဘိဝံသ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" သာသနာပိုင်ဆရာတော်၏ ဓမ္မာစရိယဆရာတော်လည်း ဖြစ်သည်။

> (တဿ သံဃရာဇဿ၊ ထို သာသနာပြု သဲအင်းဆရာတော်၏။ သိဿံ၊ ဓမ္မန္တေဝါသိက တပည့်ဖြစ်ထသော။ ဒွိက္ခတ္တုံ၊ နှစ်ကြိမ်မြောက်။ သံဃရဇ္ဇုပဂံ၊ သာသနာပိုင်ဆရာတော် အဖြစ်သို့ ရောက်ထသော။ ဥ ယျဓမ္မံ၊ ဥ ယျဓမ္မာဘိဝံသ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ရလည်း ဖြစ်ထသော။
>
> (စူဠဝါပါဠိတော်နိသျ ပဏာမ)

## ရာဇဂုရုဆရာတော်တို့၏ ဆရာ

ဆရာတော်သည် ဖော်ပြပါ သာသနာပိုင် ဆရာတော်တို့၏ ဆရာသာ ဖြစ်သည် မဟုတ်သေး—

"ပညာသာမိ ကဝိသာရဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ဘုံကျော်ဆရာတော်,

"မဏိဇောတသဒ္ဓမ္မာလင်္ကာရမဟာဓမ္မရာဇာဓိရာဇဂုရု" ခင်မကန်ဆရာတော်,

"မေဓာဘိဝံသ သဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု" ပြည်ဆရာတော်,

"ပရမညာဏဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" ပဌမ စံကျောင်းဆရာတော်,

"သုဒဿနဝရ ဓမ္မသာမိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဒုတိယ စံကျောင်းဆရာတော် စသော ပညာရှင်ဆရာတော်တို့၏ ဆရာလည်း ဖြစ်တော်မူသည်။

ဤသို့ဖြင့် သဲအင်းသာသနာပိုင်ဆရာတော်ဘုရားကြီးသည် ကိုယ်တိုင် ပညာရှင်ဖြစ်၍သာလျှင် ပညာရှင်ပေါင်း မြားမြောက်စွာ ဝန်းရံလျက် သဗ္ဗညုတပညာတော်ရှင် ဘုရားသခင့်သာသနာတည်းဟူသော ကောင်းကင်၌ တင့်တယ်စမွယ်တော်မူပါပေ၏။

> သယမ္ဘူပိ သုဝိညူဝ၊ ဝိညူဟိ ပရိဝါရိတော။
> ဟုတွာ သောဘတိ သော ဝိညူ၊ ဝိညူနော သာသနမ္ဗရေ။

ဆရာတော်သည် အဘိဓမ္မာဆိုင်ရာ ကျမ်းများစွာကို ပြုစုရေးသားတော်မူခဲ့သည်၊ ဆရာတော်၏ ကျမ်းစာများအနက် ပဋ္ဌာန်းသုံးချက်စုကျမ်းမှာ ပဋ္ဌာန်းကျမ်းကြီးကို သင်အံလေ့လာဘူးသူတိုင်း လေလာရသော ကျမ်းစာ ဖြစ်သည်၊ ၎င်းသုံးချက်စုဖြင့် ပဋ္ဌာန်းကျမ်းပင်လယ်ကြီးကို ကူးခတ်ကြရသည့်အတွက် သုံးချက်စုကျမ်းကို ကျက်ရ,ကြည့်ရသူတိုင်း ဆရာတော်အား ကြည်ညို သတိရကြပေသည်။

## ကျမ်းပြုတော်မူခြင်း

ဆရာတော်ရေးသားခဲ့သော ကျမ်းစာများမှာ—

၁။ ပဋ္ဌာန်းသုံးချက်စု
၂။ ပဋ္ဌာန်းပစ္စည်းပြိုင်
၃။ ပဋ္ဌာန်းရာသီစု
၄။ ယမိုက်အရကောက်ကျမ်း
၅။ ပဋ္ဌာန်းအရကောက်ကျမ်း
၆။ ဝီထိလက်ရိုးကျမ်း
၇။ ဉာသ်ကောက်ကျမ်း-စသည်တို့ ဖြစ်သည်။

## နတ်နန်းရွှေဘုံ ခိုလှုံရပြီ

ဆရာတော်သည် သက်တော် ၇၆-နှစ် သက္ကရာဇ် ၁၂၁၅-ခုနှစ်တွင် ပြုလက်စ သာသနာ့ တာဝန်တို့ကို ထားရစ်ကာ နတ်မင်းဇာနန္ဒာ၏ ပင့်လျှောက်လွှာကို လက်ခံ၍ နတ်တို့ရွှေဘုံသို့ ခိုလှုံတော်မူလေပြီ။

## သဲအင်းဆရာတော်ချေပန

သဲအင်းဆရာတော်၏ အလောင်းကို ရွှေဘိုမင်းတရားကြီးသည် အရာမက များလှစွာသော ပြာသာဒ်, တလား, လောင်တိုက်တို့ဖြင့် "သာသနာပိုင်ရဟန်း ဘုရင်"ဟူသော ဂုဏ်ပုဒ်နှင့် ထိုက်တန်အောင် သိုက်မြိုက် ခမ်းနားလှစွာ ကျင်းပ ပူဇော်တော်မူလေသည်။

## သံဝေဂယူဘွယ်

သေမင်းနှင့် မိတ်ဖွဲ့၍ လွတ်အောင်လုပ်ရန် လမ်းမရှိခဲ့ချေ၊ တံစိုးလက်ဆောင် ဖြင့် သေဘေးမှ လွတ်အောင်လုပ်၍လည်း မဖြစ်နိုင်၊ စစ်ပြိုင်၍ အောင်နိုင်ရ ရိုးလည်း မရှိ၊ နောက်ဆုံး သတ္တဝါအားလုံးတို့သည် သေမင်းလျှင် လည်းလျှောင်း ရာ ရှိကြရပေသည်။

မစ္စုနာ သင်္ဂရော နတ္ထိ၊ လဥ္စဂ္ဂါဟော န ဝိဇ္ဇတိ။
ယုဒ္ဓံ နတ္ထိ ဇယော နတ္ထိ၊ သဗ္ဗေ မစ္စုပရာယဏာ။

(ဇာတကဋ္ဌကထာ၊ ပဥ္စမ၊ ၁၁၄)

## ဒုတိယ

# ဗားကရာ သာသနာပိုင်ဆရာတော်

ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်ဘုရားကြီးသည် သာသနာတွင် နေ့လ-အသွင် ထင်ရှားသောဆရာတော် ဖြစ်သည်၊ ဆရာတော်သည် ပခန်းကြီးမြို့ ချောင်းကောက်ရွာ (ပခုက္ကူခရိုင် ပခန်း ချောင်းကောက်ရွာ)အဘ ဦးကြင်၊ အမိ ဒေါ်ကြင်တို့မှ ၁၁၄၇-ခုနှစ် ကဆုန်လဆုတ် ၁၃-ရက်နေ့တွင် ဖွားမြင်ခဲ့သည်၊ သက်တော် ၁၅-နှစ်တွင် ရှင်သာမဏေဝတ်ခဲ့သည်၊ ဘွဲ့တော်မှာ ရှင်ပညာ ဖြစ်လေသည်၊ အသက် ၂၀ တွင် သံအင်းသာသနာပိုင်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ ရောက်ခဲ့သည်၊ ရဟန်းဘွဲ့တော်မှာ အရှင်ပညာဇောတ ဖြစ်သည်၊ ၁၁၇၀-ပြည့်နှစ်တွင် အမရပူရမြို့တော်သို့ရောက်၍ ပညာသင်ကြားသည်၊ ဘကြီးတော် မင်းတရားကြီးလက်ထက်တွင် ဥပဇ္ဈာယ်ဆရာတော် သံအင်းဆရာတော်ဘုရားကြီးထံ ဂန္ထန္တရအဝဝကို လွန်ကဲသောဆန္ဒဖြင့် သင်ယူခဲ့သည်၊ သံအင်းသာသနာပိုင် ဆရာတော်ဘုရားကြီးသည် ဗားကရာသာသနာပိုင် ဆရာတော်၏ ဥပဇ္ဈာယ်,စာချ ဆရာတော် ဖြစ်လေသည်။

ထို့ကြောင့်ပင် ဒုတိယ ဗားကရာဆရာတော်ရေး သုတ်မဟာဝါ အဋ္ဌကထာနိသျ ပဏာမ၌—

သူရိယံ မေ မဟာထေရံ၊ မေတ္တောဒကေန သေစနံ။
ဂရုဥ္စ သိဿဝစ္ဆေန္တံ၊ ဝန္ဒာမိ သိရသာ မိရံ။

မိမိ၏ကျေးဇူးရှင်"သူရိယဝံသာဘိ သိရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" သံအင်းသာသနာပိုင် ဆရာတော်အား အမြတ်တနိုး ရှိခိုးဦးချကြောင်း ဖော်ပြခဲ့သည်၊ ဆရာတော်သည် **သာယာဝတီမင်းလက်ထက်တွင်** "ပညာဇောတာဘိ သိရီသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု" တံဆိပ်တော်ကို အလှူခံရရှိသည်။

ဆရာတော်သည် သက္ကရာဇ် ၁၂၀၀ ပြည့်နှစ်တွင် အမရပူရမြို့တော် အနောက်မျက်နှာ ဗားကရာတိုက်အတွင်း ပုဂံမင်းသား ဆောက်လုပ် လှူဒါန်းသည့် အရွှေတောင်ထောင့်ကျောင်း၌ သီတင်းသုံးကာ သာသနာ့ဝန်ကို အားသွန်ကြိုးပမ်း ထမ်းဆောင်တော်မူသည်၊ ပုဂံမင်းလက်ထက် သက္ကရာဇ် ၁၂၀၇-ခုနှစ် တပို့တွဲလပြည့်နေ့ ဆင်ကြိုးရွှေဂူဘုရား မဟာရာမ်အတွင်း သုဓမ္မာစရပ်၌ ရဟန်းပရိသတ်, လူပရိသတ်တို့ အလယ်တွင် "ပညာဇောတာဘိဝံသ သီရိပဝရာလင်္ကာရ ဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့ကို လှူဒါန်းရရှိခဲ့သည်၊

(ကုန်းဘောင်ဆက် မဟာရာဇဝင်၌ သံဃရာဇာဓိပတိအဖြစ် အပ်နှင်းသည်ဟု ဆိုသည်၊) ဆရာတော်အား ၁၂၁၀-ပြည့်နှစ်တွင် မင်းကြေရာဇ်ကိုယ်တိုင် မဟာဝေယန်ဘုံသာ စံကျောင်းတော်ကြီးကိုလည်း ရေစက်သွန်းချ လှူဒါန်းသည်၊ ဆရာတော်သည် အလယ်မိဖုရားကြီး၏ ဗိမာန်ရတနာ ရွှေကျောင်းတော်ကိုလည်း ထိုနေ့မှာပင် အလှူခံတော်မူသည်။

ဆရာတော်သည် သက္ကရာဇ် ၁၂၁၄-ခုနှစ် ဝါဆိုလဆန်း ၁၀-ရက်နေ့တွင် အသောကာရာမ ကျောင်းတိုက်ကြီးကို ဘုရင်မင်းမြတ်က လှူဒါန်းသဖြင့် ခံယူရသည့်ပြင် "ပညာဇောတာဘိသီရိသဒ္ဓမ္မပါလ အရိယဝံသဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကိုလည်း ခံယူရရှိတော်မူပြန်သည်၊ ဆရာတော်သည် ပဥ္စမသံဂါယနာတင် ဘဝရှင် မင်းတုန်းမင်းတရားကြီးလက်ထက် သက္ကရာဇ် ၁၂၁၅-ခုနှစ် ဝါမဝင်မီ ရတနာသိင်္ဃမြို့တော် ရွှေမျက်နှာ ဣန္ဒာတံခါးပြင် ကျောင်းတိုက်အတွင်း မင်းတုန်းမင်းတရားကြီး ဆောက်လုပ်လှူဒါန်းသည့် ဝါဆိုကျောင်း၌ သီတင်းသုံးတော်မူသည်၊ ၁၂၁၆-ခုနှစ် ဝါဆိုလဆန်း ၂-ရက်နေ့တွင် မင်းတုန်းမင်းတရားကြီး၏ "ပညာဇောတာဘိဓမ္မ သီရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု"ဘွဲ့တံဆိပ်တော် ဆက်ကပ်ခြင်းကိုလည်း ခံယူရသည်၊ မင်းတုန်းမင်းတရားကြီး သာသနာသက္ကရာဇ် ၂၄၀၄-ခု ကောဇာသက္ကရာဇ် ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလမှစ၍ ပဥ္စမသံဂါယနာတင်ရာအခါ ဆရာတော်သည် အင်္ဂုတ္တရနိကာယ် ၁၁-ကျမ်း ပါဠိ,အဋ္ဌကထာကိုပြင်ဆင်၍ သွင်းတော်မူသည်၊ ဆရာတော်သည် ပရိယတ္တိအရာ၌ လွန်စွာ ကျွမ်းကျင်တတ်မြောက်တော်မူသည့်အလျောက် မြားမြောက်စွာသော ကျမ်းဂန်တို့ကို ပြုစုတော်မူသည်။ ၎င်းကျမ်းတို့မှာ —

၁။ သုတ်မဟာဝါအဋ္ဌကထာနိဿယသစ်

၂။ သုပါထေယျအဋ္ဌကထာနိဿယသစ်

၃။ အင်္ဂုတ္တိုရ်ပါဠိတော်နိဿယသစ်

၄။ အင်္ဂုတ္တိုရ်အဋ္ဌကထာနိဿယသစ်

၅။ ဋီကာကျော်နိဿယသစ်

၆။ ပစ္စဝေက္ခဏာဂဏ္ဌိကျမ်း

၇။ ဗိုလ်ဋီကာ-စသော ကျမ်းတို့ဖြစ်လေသည်။

### တပည့်ကောင်းဆရာ

ဆရာတော်သည် မိမိကိုယ်တိုင် ပညာရှိပုဂ္ဂိုလ်တဆူ ဖြစ်သည့်အတိုင်း မြားမြောက်စွာသော တပည့်တို့အားလည်း ပညာရှိပုဂ္ဂိုလ်အဖြစ်သို့ ရောက်စေ

ခဲ့သည်၊ ဆရာတော်၏ တပည့်များအနက် ဒီပနီ, နိသျ, ယောဇနာ, ဋီကာ, ဂဏ္ဌိ, နိဿယ-ကျမ်းပြု ဘုရားကြီးဆရာတော် အရှင်ဇာဂရာဘိဝံသ, ဗန်းမော်ဆရာတော် အရှင်ပဏ္ဍိတ, ငါးခုန်ဆရာတော် အရှင်ဒီပါလင်္ကာရ, အုဂ်ဖိုရ်ဆရာတော် အရှင် ဥက္ကံဝံသမာလာ, ရေစကြိုဆရာတော် အရှင်ဝရသမ္ဘောဓိ- စသော ဆရာတော် များသည် ဒုတိယဗားကရာသာသနာပိုင် ဆရာတော်ဘုရားကြီး၏ တပည့်များ ဖြစ်ကြလေသည်၊ ထို့ကြောင့် ဆရာတော်သည် ပညာရှိ တပည့်ကောင်း တို့၏ ဆရာတဆူ ဖြစ်တော်မူသည်။

ဆရာတော်ဘုရားကြီးသည် ၁၂၂၂-ခုနှစ် တန်ဆောင်မုန်းလ သက်တော် ၇၅-နှစ် ဝါတော် ၅၅-ဝါအရတွင် အသောကာရာမတိုက်၌ ဘဝနတ်ထံ ပြန်လွန် တော်မူသည်။

အနန္တရံ ဟိ ဇာတဿ၊ ဇီဝိတာ မရဏံ ဓုဝံ။
ဇာတာ ဇာတာ မရန္တီ’ဓ၊ ဧဝံဓမ္မာ ဟိ ပါဏိနော။

( ထေရဂါထာ ပါဠိတော်၊မဟာကပ္ပိနတ္ထေရဂါထာ၊၃၀၂ )

# ပဥ္စမ ဆင်တဲဆရာတော်

## (အရှင်ဉာဏသဒ္ဓမ္မ)

ဆရာတော်သည် သက္ကရာဇ် ၁၁၀၆ ခုနှစ် နယုန်လတွင် ပခန်းကြီးမြို့ ကျေးမိုးထူး ဆင်တဲရွာ (ပခုက္ကူခရိုင် ဆင်တဲရွာ) ၌ ဖွားမြင်တော်မူသည်၊ ငယ်စဉ်က ကလေးနာမည်မှာ **မောင်ရွှေ** ဖြစ်သည်၊ အရွယ်ရောက်သော် **အရှင်ဉာဏသဒ္ဓမ္မ** ဟူသော ဘွဲ့မည်ဖြင့် ရှင်ရဟန်းပြုသည်၊ တချို့ အဋ္ဌုပ္ပတ္တိစာအုပ်များ၌ ပဥ္စမဆင်တဲဆရာတော်ဘွဲ့ကို "ဉာဏာလင်္ကာရ"ဟု ဖော်ပြထားသည်၊ သို့သော်—

> "ဗဟုဝါစကသုရမ္မေန၊ ဝိသုဒ္ဓိစာရကာ ခိနာ။
> ဂုရူဟိ ဉာဏသဒ္ဓမ္မောတိ၊ ကတနာမေန ဘိက္ခုနာ"—

ဟူသော ဆရာတော်၏ ပါရာဇိကဏ်အဋ္ဌကထာဂဏ္ဌိကျမ်း နိဂုံးဖြင့် "ဉာဏသဒ္ဓမ္မ" ဖြစ်ကြောင်း ထင်ရှားလှသည်၊ ဆရာတော်သည် မြို့တော် မြောက်ဖက် ဆင်တဲတိုက်တွင် သီတင်းသုံးတော်မူသည်၊ ၎င်းနောက် ရွှေတောင်ကျောင်းတိုက်တွင် မင်းကြီးသက်တော်ရှည် အတွင်းဝန်မင်းကြီး ဆောက်လုပ် လှူဒါန်းအပ်သော သုံးထပ်ရွှေကျောင်း၌ သီတင်းသုံးတော်မူသည်၊ ဆရာတော်သည် ဝိနည်းအဋ္ဌကထာဂဏ္ဌိကျမ်းများကိုလည်း ရွှေကျောင်း၌ သီတင်းသုံးတော်မူစဉ် ရေးသားခဲ့သည်၊ ဆရာတော်သည် မန်လည်ဆရာတော်၏တပည့် ဖြစ်သည်၊ ဆရာတော်သည် "ဉာဏာလင်္ကာရာဘိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံရရှိသည်။

### မောင်းထောင်သာသနာပိုင်နှင့် ဆင်တဲဆရာတော်

ဉာဏာဘိဝံသ မောင်းထောင်သာသနာပိုင်ဆရာတော်နှင့် ဆင်တဲ ဆရာတော် အရှင်ဉာဏသဒ္ဓမ္မတို့သည် တနေ့သော် တခုသော အလှူမဏ္ဍပ်၌ ဆုံမိကြ၏၊ မောင်းထောင်ဆရာတော်က "ဆရာတော်ဘုရား ယခု ကျမ်းစာများ အဘယ်မျှလောက် ပြုပြီးပါပြီတုံး ဘုရား" ဟု မေးလျှောက်ရာ ဆင်တဲဆရာတော်က "ပရမတ္ထဝိနိစ္ဆယနိဿယ၊ နာမရူပပရိစ္ဆေဒနိဿယ၊ ဋီကာကျော် နိဿယစသည်တို့ ပြုပြီးပြီ ဖြစ်ပါသည်၊ ယခု ဝိနည်းဂဏ္ဌိကိုဆက်ရေးရာ မဟာဝါသို့ ရောက်ပြီ" ဖြစ်ကြောင်း အမိန့်ရှိသည်တွင် "တပည့်တော်လည်း ဆရာတော်ရေးမှန်းမသိသဖြင့် ဝိနည်းဂဏ္ဌိကို ရေးစပြုထားပါသည်၊ ယခု ဆရာတော်ရေးမှန်းသိသဖြင့် တပည့်တော် မရေးတော့ပါဘုရား"ဟု လျှောက်ထားလေသည်၊ မောင်းထောင်ဆရာတော်၏

လက်စမှာ အရှင်မဟိန္ဒထေရ် ဝေဒိသဂိရိသို့ ကြွရောက်ခန်း အထိ ရှိလေသည်၊ မောင်းထောင် ဆရာတော်သည် ထိုအခန်းမှ စ၍ ဆက်လက် မရေးတော့ဟု သိရသည်၊ ဆင်တဲဆရာတော်၏ ပါရာဇိကကဏ်အဋ္ဌကထာဂဏ္ဌိကျမ်း ပဏာမ၌ ဘုရားရှင်၏ လက္ခဏာတော်ကြီး ၃၂-ပါး, လက္ခဏာတော်ငယ် ၈၀-တို့ဖြင့် တင့်တယ်သော ရူပကာယရှိတော်မူသည့် အဖြစ်တည်း ဟူသော ဂုဏ်ပုဒ်, မဟာကရုဏာအတိ ပြီးပုံ စသော ဂုဏ်ပုဒ်တို့ဖြင့် ချီးကျူးထောမနာပြုကာ—

"ဗာတ္တိံ သာသီတျာဘိသုဘံ၊ မဟာဒယာဒိကံ ဇိနံ။
နတွာ သဒ္ဓမ္မမယာပိ၊ ဒက္ခိဏေယျံ ဒူတံ ဂဏံ"—

ဟူသော ဂါထာဖြင့် ပဏာမ မူထားလေသည်။

ဆရာတော် ပြုစုတော်မူသည့် ကျမ်းများမှာ—

၁။ ပရမတ္ထဝိနိစ္ဆယ အဋ္ဌကထာနိဿယ

၂။ နာမရူပပရိစ္ဆေဒ အဋ္ဌကထာနိဿယ

၃။ ဋီကာကျော် နိဿယ

၄။ ဝဇိရဗုဒ္ဓိဋီကာ နိဿယ

၅။ စန္ဒသူရိယဂတိဒီပနီကျမ်း

၆။ အသီတိနိပါတ် ဇာတ်အဋ္ဌကထာနိဿယ

၇။ ဝိနည်း ၅-ကျမ်း အဋ္ဌကထာဂဏ္ဌိကျမ်း-စသည်တို့ဖြစ်လေသည်။

## ဘဝနတ်ထံပြန်လွန်ပြီ

ဆရာတော်သည် ၁၁၇၈-ခုနှစ် သက်တော် ၇၂-နှစ်တွင် ဆိုက်ရောက်လာသော သေမင်းရန်ကို မတွန်းလှန် မခုခံနိုင်တော့ပဲ သေမင်း၏ အလိုနိုင်ငံသို့ လိုက်ပါရလေတော့သည်။

အာဂစ္ဆန္တ'ဂ္ဂိခန္ဓာဝ၊ မစ္စု ဗျာဓိ ဇရာ တယော။
ပစ္စုဂ္ဂန္တုံ ဗလံ နတ္ထိ၊ ဇဝေါ နတ္ထိ ပလာယိတုံ။

(ထေရဂါထာပါဠိတော်၊သိရိမဏ္ဍတ္ထေရဂါထာ၊၂၇၉။)

# ကျည်းကန် ရှင်ကြီး ရှင်နန္ဒမေဓာ

ရှင်နန္ဒမေဓာသည် ကုန်းဘောင်ခေတ်တွင် ထင်ရှားသော စာဆိုတော် ပညာရှိ သုခမိန်တဦး ဖြစ်လေသည်၊ ရှင်နန္ဒမေဓာ၏ စွယ်စုံကျော်ထင်ကျမ်းကြီးနှင့် စကားပုံ့ မေတ္တာစာ-စသည်များကို ဖတ်ဘူးသူတိုင်း ကျည်းကန် ကိုရင်ကြီး၏ အရည် အခြင်းကို အားကျကြသည်၊ ရှင်ကြီးသည် ၁၁၁၉-ခုနှစ်တွင် ပခုက္ကူခရိုင် မြိုင်မြို့ နယ် လက်တောဆယ်ရွာ အဝင်အပါ ကျည်းကန်ရွာ၌ ဖွားမြင် ကြီးပွါးခဲ့သည်၊ ငယ်စဉ် နာမည်မှည့်မင်္ဂလာအခါက မိဘတို့ပေးအပ်သောနာမည်မှာ မောင်နု ဖြစ်သည်၊ ပဗ္ဗဇ္ဇမင်္ဂလာပွဲတော်၌ ဥပဇ္ဈာယ်ဆရာတော် မှည့်ခေါ်သောနာမည်မှာ ရှင်နန္ဒမေဓာ ဖြစ်သည်၊ ရှင်ကြီးသည် နှစ်ရာ့နှစ်ဆယ် ခုနစ်သွယ်သော သိက္ခာပုဒ် တို့ဖြင့် အရိုးထုတ်ရန် ဝန်လေးဟန်တူပေသည်၊ သို့ဖြစ်၍ ရဟန်းဘဝ ဒုလ္လဘကို မယူပဲ သာမဏေဘဝနှင့်ပင် ပရိယတ္တိမှုကို ကြိုးစားအားထုတ်၍ ကျမ်းဂန်များ ပြုစုခဲ့သဖြင့် မြန်မာ့စာပေဂန္ထဝင်တွင် ထင်ရှားခဲ့သည်၊ ရှင်ကြီးသည် ညောင်ရမ်း ဆယ်သက် အင်းဝပျက်တွင် တောင်ငူနိုင်ငံတော်ကြီးကို အစိုးရသော ရေမြွေ သခင် ရွှေနန်းရှင့်အဆောင်မြဲ မင်း၏ မြစ်တော်ဖြစ်ကြောင်း—

"တောင်ငူဝှယနရိန္ဒဿ၊ ဂေဟာနိစ္စန္ဒာနုနေတ္တော"—

စသော စွယ်စုံကျော်ထင်ပုစ္ဆာကျမ်း နိဂုံးဖြင့် သိသာပေသည်။

### ဒေသန္တရဗဟုသုတရှာ ပညာသင်

အသက်အရွယ် ငယ်စဉ်ကပင် စာပေကျမ်းဂန်များ သင်ကြား ဆည်းပူး၍ ဇေဋ္ဌကူးမင်းနှင့် ဘိုးတော်ဘုရားလက်ထက်တို့တွင် လွှတ်ရုံးများ၌ လှည့်လည် ဝင်ထွက်ကာ လွှတ်ရုံးကိစ္စများကို ရှာဖွေစူးစမ်းသည်၊ မြန်မာနိုင်ငံ အောက်ပိုင်း ဒေသများသို့လည်း လှည့်လည်လျက် ပညာဆည်းပူးခဲ့သည်။

### ဂဏဝါစက စာချ ကိုရင်ကြီး

အသက် ၃၀-တွင် လူ့ဘောင်ကိုငြီးငွေ့၍ ရှင်သာမဏေပြုလုပ်ကာ ဇာတိ ရပ်မြေ ကျည်းကန်ရွာ ဘုံသာထွန်းကျောင်း၌ စာပေပို့ချလျက် "ကိုရင်ကြီး ဂဏဝါစက" အဖြစ်ဖြင့် သာသနာတော်အကျိုးကို သည်ပိုး ထမ်းဆောင်ခဲ့ လေသည်။

### မောင်းထောင် သာသနာပိုင်ထံ

ဘိုးတော်မင်းတြားကြီးက ပင့်လျှောက်သဖြင့် အမရပူရ နန်းမြို့တော်သို့ ကြွရောက်ပြီး မောင်းထောင် သာသနာပိုင် ဆရာတော်ထံတွင် ဆက်လက်၍

ပုညာရပ်များ ဆည်းပူးလေ့လာပြန်ရာ အများ၏ အားထား မှီခိုလောက်သည့် ပါရဂူမြောက် ပညာရှိသုခမိန်ကြီး ဖြစ်လာပေတော့သည်။

## ကျည်းကန်ရှင်ကြီး၏ ကျမ်းစာများ

ရှင်နန္ဒမေသည် နောင်လာနောက်သားတို့ အကျိုးများရန် ကျမ်းဂန်များကိုလည်း ပြုစီရင်ခဲ့သည်၊ ထိုကျမ်းများအနက် စွယ်စုံကျော်ထင်ကျမ်းသည် ကျမ်းပေါင်းစုံကို မွှေနှောက်၍ ရေးခဲ့သော ကျမ်းဖြစ်သည်၊ သတ်ပုံလည်းပါ ပုဒ္ဓာလည်းရ သိပ္ပကုံလုံ နှစ်ချက်စုံသောကြောင့် စွယ်စုံကျော်ထင်ကျမ်း မည်ကြောင်းလည်း ယင်းကျမ်းနိဂုံး၌ ဖော်ပြထားသည်၊ ၎င်းပြင် ဘဝရှင်မင်းတရားထံ ဆက်သွင်းသည့် စကားပုံ မေတ္တာစာ၌ ပါရှိသော—

"ပညာရှိသော်လည်း သတိရခဲသည်"

"အစကောင်းမှ အနှောင်းသေချာသည်"

"အလာရှိမှ အသွားရှိသည်"—

အစရှိသည့် စကားပုံများမှာ လူရွယ်လူငယ်တို့ တိုင်အောင် အသိများလျက် တန်ဖိုးရှိနေပေသည်။

ကျည်းကန်ရှင်ကြီး ရေးခဲ့သော ကျမ်းစာများမှာ—

၁။ စွယ်စုံကျော်ထင် သတ်ပုံပုဒ္ဓာကျမ်း

၂။ ဆယ်လွန်းတင်ဂါထာ

၃။ သတ္တောဝါဒီကမ္မဌာန်းကျမ်း

၄။ ကျည်းကန် လက်ရိုးဗေဒင်ကျမ်း

၅။ မေတ္တာစာများ

၆။ ဩဝါဒ ဆုံးမစာများ

၇။ မုံရွေးအမေး, ကျည်းကန်အဖြေ ရတုပိုဒ်စုံများ—

စသည်တို့ ဖြစ်ကြပေသည်။

ရုပ်ဆင်းအင်္ဂါနှင့် ပြည့်စုံရုံမက ဥစ္စာစည်းစိမ် ကြွယ်ဝသည့် ဆွေကြီး မျိုးကြီး၌ ဖြစ်ရလင့်ကစား အတတ်ပညာ စာပေကျမ်းဂန်မှ ယုတ်လျော့ ညှိုးဖျင်း ပါမူကား အနံ့မှ ကင်းသော ပေါက်ပန်းသဖွယ် လောက အလယ်တွင် မတင့်တယ်ချေ။

ရူပယောဗ္ဗနသမ္ပန္နာ၊ ဝိသာလကုလသမ္ဘဝါ။
ဝိဇ္ဇာဟီနာ န သောဘန္တေ၊ နိဂန္ဓာ ဣဝ ကိံသုကာ။

(သက္ကတ-နီတိကျမ်းများ)

# ရေစကြို ဆရာတော်

## ( အရှင်ဝရသမ္ဘောဓိ )

ဆရာတော် အရှင်ဝရသမ္ဘောဓိသည် ပါဠိကျမ်းပြု၊ ဝိနိစ္ဆယကျမ်းပြု၊ နိသျ ကျမ်းပြု ပုဂ္ဂိုလ်ကျော်ဖြစ်သဖြင့် ဂန္ထကာရကအပဒါန်တွင် ရှေးတန်းက ပါဝင် ထိုက်သော အာဇာနည် အရှင်သူမြတ် ဖြစ်တော်မူသည်။

### ဖွားမြင်တော်မူခြင်း

ဆရာတော်သည် ပခန်းနယ် ရေစကြို(ပခုက္ကူ ပခန်း ရေစကြို)ရွာ၌ ၁၁၇၅-ခုနှစ်တွင် မွေးဖွားတော်မူသည်၊ ရှင်ဝရသမ္ဘောဓိ ဘွဲ့အမည်ဖြင့် ရှင်ရဟန်းပြု၍ ဒုတိယ ဗားကရာသာသနာပိုင် စသော ဆရာတော်တို့၏အထံတွင် ပညာသင် ကြား တတ်မြောက်တော်မူခဲ့သည်၊ ဆရာတော်သည် ရေစကြိုမြို့ မင်းအိုကျောင်း တိုက်နှင့် အောင်မြေသာယာကျောင်းတိုက်တို့၌ အလှည့်ကျ သီတင်းသုံးတော်မူ လျက် ဂန္ထန္တရ အဝဝကို ကြီးမားသော လုံ့လဝီရိယဖြင့် ချပို့တော်မူသည်။

### ပါဠိဋီကာကျမ်း

ဆရာတော်သည် ပါဠိဘာသာ၌ အမိမြန်မာဘာသာမခြား ကျွမ်းကျင်တတ် မြောက်ကြောင်း ဆရာတော်၏ ဓမ္မပဒမဟာဋီကာကျမ်းကြီးက သက်သေခံနေ လေသည်၊ ဆရာတော်သည် ဓမ္မပဒမဟာဋီကာကျမ်းကြီးကို ပြုစုရေးသားခြင်း ဖြင့် အရှင်အာနန္ဒာ၊ အရှင်ဓမ္မပါလ၊ အရှင်သာရိပုတြာ၊ အရှင်စောလိယကဿပ၊ အရှင်ဝဇိရဗုဒ္ဓိ၊ အရှင်သုမင်္ဂလသာမိ၊အရှင်ဝါစိဿရ စသည်တို့နည်းတူ ရနိုင်ခဲလှ စွာသော "ဋီကာကျမ်းပြု ပုဂ္ဂိုလ်" ဟူသော ဘွဲ့ထူးကို ဆွတ်ခူးရယူတော်မူခဲ့သည်။

ဆရာတော်သည် ဓမ္မပဒမဟာဋီကာ ကျမ်းဦးအစ၌ ဓမ္မပဒဋီကာကို ရှေးက မရေးခဲ့ကြသဖြင့် မိမိအတွက် အခွင့်ပေးသကဲ့သို့ ရှိတော့သည်၊ ဘုရားရှင်သည် မဟာနိဒ္ဒေသ၊ စူဠနိဒ္ဒေသ၊ ပဋိသမ္ဘိဒါမဂ် တို့ကို ဓမ္မသေနာပတိ အရှင်သာရိ-ပုတြာအတွက် ချန်ထားသကဲ့သို့၎င်း၊ မဓုပိဏ္ဍိကသုတ်ကို အရှင်မဟာကစ္စည်း ထေရ်အား ဟောရန် ခွင့်ပေးသကဲ့သို့၎င်း၊ ကထာဝတ္ထုကျမ်းကို အရှင်မောဂ္ဂလိ-ပုတ္တတိဿထေရ် ဟောရန် ချန်ထားတော်မူသကဲ့သို့၎င်း ဓမ္မပဒမဟာဋီကာကို မိမိအတွက် ဋီကာ ဆရာ အဆက်ဆက်တို့ အခွင့်ပေး ချန်ထားခဲ့ကြဟန်ကို—

"ဓမ္မပဒဋ္ဌကထာယ၊ နာနာနယသုသမ္ဘုဏ္ဏံ။
ဋီကံ သုဘံ ဝိစိတြတ္ထ-သဒ္ဒတ္ထာနတ္ထဂမ္ဘီရံ။
န ကုရုတေ တဋ္ဋီကဥ္ဓိ၊ ပေါရာဏေဟိ ကဝိန္ဒေဟိ။
ဂန္ထကာရေဟျတောဒါနိ၊ ဒေန္တာ ဝိယ မမောကာသံ"—

စသည်ဖြင့် ဖော်ပြခဲ့သည်၊ ဋီကာအဆုံး၌ အရှင်မဟာဗုဒ္ဓဃောသ ဖြစ်တော် စဉ်ကို ကျယ်ဝန်းစွာ ဖော်ပြထားသည်မှာ သမိုင်းဝါသနာရှင်တို့ စိတ်ဝင်စားစရာ ကောင်းလှသည်၊ ဤဋီကာကျမ်းကို သက်တော် ၅၃-နှစ်, ဝါတော် ၃၄-ဝါအရ တွင် ရေးသားတော်မူသည်။

## ပဋ္ဌိသန္ဓိဝိနိစ္ဆယကျမ်း

ဆရာတော်သည် ပဋ္ဌိသန္ဓိဝိနိစ္ဆယကျမ်းကိုလည်း မင်းအိုတိုက်၌ သီတင်းသုံး စဉ် မှန်စေတီဒါယကာ ဦးရွှေသိန်း တောင်းပန်သဖြင့် ရေးသားတော်မူခဲ့သည်၊ စာအုပ်သည် ဒီမိုင်းဆိုက်ဖြင့် ၂၁၁-မျက်နှာရှိသဖြင့် ပြည့်ဝ စုံလင် ကောင်းမွန်လှ သည်။ ဂန္ထာရမ္ဘ-၌—

“ဘဝသန္ဓိဆိဒကရော၊ ဘဝမူလသမုစ္ဆေဒေါ။
ဘဝပါရသုသမ္ပတ္တော၊ သော မံ ဒေတု ဇယံ ဇိနော။

ဘဝသန္ဓိအဆေကာနံ၊ ဘဝသန္ဓိသု က˚ခိနံ။
အတ္ထာယ မန္ဒပညာနံ၊ ကဿံ သန္ဓိဝိနိစ္ဆယံ”—

ဟု လာရှိသည်။ ဆရာတော် ပြုစုတော်မူသော ကျမ်းများကို ရှာဖွေ ရေတွက် ရသမျှ ဖော်ပြရသော်—

၁။ ဓမ္မာဒမဟာဋီကာပါဠိ
၂။ ပဋ္ဌိသန္ဓိဝိနိစ္ဆယကျမ်း
၃။ အဘိဓမ္မတ္ထသင်္ဂြိုဟ်ဂဏ္ဌိ
၄။ ရာဇာဝသတီကျမ်း
၅။ သုတသာရပဏ္ဏာမ
၆။ ယထာဘူတဝိကာသိနီကျမ်း
၇။ မနောဒန္တဒီပနီကျမ်း
၈။ သာခုဇနမနောဟာရီကျမ်း
၉။ မူလဋီကာမဟာနိသျ
၁၀။ ထေရဂါထာနိသျ
၁၁။ ကထိန် အမေးအဖြေကျမ်း
၁၂။ ဥပသမ္ပဒအနုသာသနကျမ်း

၁၃။ သမာသာဒိသုတ္တမဟာနိသျ

၁၄။ ပဟာသီမာသိလာလေခနကျမ်း

၁၅။ ရေစကြို တရားစာ

၁၆။ သာသနဗျူဟာကျမ်း

၁၇။ ဝံသာနုက္ကမဒီပနီကျမ်း

၁၈။ သံဝေဂကမ္မဋ္ဌာန်းကျမ်း — စသည်တို့ ဖြစ်ကြလေသည်။

## ဘဝနတ်ထံ ပျံလွန်တော်မူခြင်း

ဆရာတော်သည် မိမိ၌ တတ်သိထားသည့် ပရိယတ္တိရတနာ မေဓာဉာဏ်တို့ကို မဆွကပင် အရှင်ဂန္ဓသာရစသော တပည့်ကြီးတို့အား လက်ထပ် အပ်နှင်းတော်မူခဲ့ပြီး သက်တော် ၆၆-နှစ် ၁၂၄၁-ခုနှစ်တွင် နတ်ပွဲသဘင် ဝင်တော်မူသည်။

ဒဟရာ စ ဟိ ဝုဍ္ဍါ စ၊ ယေ ဗာလာ ယေ စ ပဏ္ဍိတာ။
အဍ္ဍာ စေဝ ဒလိဒ္ဒါ စ၊ သဗ္ဗေ မစ္စုပရာယဏာ။

(ဒသရထဇာတ်၊ဇာတကပါဠိ၊ပဥ္စမ၊၂၃၇)

# ဒုတိယ စံကျောင်းဆရာတော်

## ( အရှင်သုဒဿန )

ဆရာတော် အရှင်သုဒဿနသည် စာပေပို့ချရာ၌ နည်းပေးကောင်းလှသဖြင့် ပညာရှိ တပည့်တပန်း များစွာတို့ ပေါ်ထွန်းသည်၊ ဆရာတော်သည် ပခုက္ကူခရိုင် ပခန်းကြီးနယ်ဇာတိ မိဘများတို့မှ မြင်းခြံခရိုင် နွားပြင်းရွာ၌ ၁၁၇၇-ခုနှစ် တန်ဆောင်မုန်းလဆန်း ၁၂-ရက် သောကြာနေ့တွင် ဖွားမြင်သည်၊ ပခန်းကြီးမြို့ အနောက်ဖက် မြို့လှ ချောင်းကြီးရွာ၌ ဖွားမြင်သည်ဟုလည်း ဆိုကြသည်။

### ဥပဇ္ဈာယ်နှင့် ဓမ္မာစရိယဆရာတော်များ

ဆရာတော်၏ ဥပဇ္ဈာယ်ဆရာတော်မှာ "မုနိန္ဒာဘိဝံသဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"ဖြစ်ကြောင်း—

"မဟာဂဏံ မဟာဉာဏံ၊ မဟာရညာ မမာယိတံ။
မဟာပါလံ စ မုနိန္ဒံ၊ မမုပဇ္ဈမဟံ နမေ"—

ဟူသော ဥပဇ္ဈာယပဏာမဂါထာဖြင့် သိသာသည်၊ စာချပေးတော်မူကြသည့် ဆရာများမှာ သံအင်းသာသနာပိုင် ဆရာတော်ဘုရားကြီးနှင့် "ဉေယျဓမ္မာဘိဝံသသိရီပဝရာလင်္ကာရဓမ္မသေနာပတိ မဟာဓမ္မရာဇာဓိရာဇဂုရု"သာသနာပိုင် ဆရာတော်,"ပညာဇောတာဘိသိရီပဝရဝိဇယာလင်္ကာရဓမ္မသေနာပတိမဟာဓမ္မရာဇာဓိရာဇဂုရု"ဒုတိယ ဗားကရာသာသနာပိုင်ဆရာတော်တို့ဖြစ်ကြောင်း စူဠဂဝါ ပါဠိတော်နိသျ ဂန္ထာရမ္ဘ၌ ဖော်ပြထားသည်၊ ဆရာတော်၏ ရဟန်းဒါယကာမှာ **သာယာဝတီမင်းသား** ဖြစ်သည်၊ ပဌမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး လက်ထက်တွင် စံကျောင်းတိုက်ကြီး၏ အဓိပတိဖြစ်တော်မူသည်မှစ၍ **စံကျောင်းဆရာတော်**ဟု ထင်ရှားသည်။

### စံကျောင်းအမည်တွင်ခြင်း

စံကျောင်း အမည်တွင်ခြင်း အကြောင်းမှာ အမရပူရမြို့ တည်သောအခါ အင်းဝမြို့ နန်းတော်ကို ရွှေပြောင်း၍ ရေနန်းတည်တော်မူသည်၊ မန္တလေးမြို့ တည်သောအခါတွင် ရေနန်းတော်ကို ရွှေပြောင်း၍ မင်းဧကရာဇ် နန်းတော်ကျောင်း ဆောက်လုပ်လှူဒါန်းသောကြောင့် "စံကျောင်းတိုက်"ဟု ခေါ်တွင်လေသည်။

## ဘွဲ့တံဆိပ်တော် ၂-ထပ်

ဆရာတော်သည် သာယာဝတီမင်းလက်ထက်တွင် "သုဒဿနဝရမဟာဓမ္မ-သာမိ ရာဇာဓိရာဇဂုရု" တံဆိပ်တော်ကို အလှူခံရရှိတော်မူသည်၊ ပဥ္စမသံဂါ-ယနာတင် မင်းတုန်းမင်းကြီးလက်ထက်တွင် "သုဒဿနဇအတုလာဓိပတိသီရိ-ပဝရမဟာဓမ္မရာဇာဓိရာဇဂုရု" ဘွဲ့တံဆိပ်တော်ကို အလှူခံ ရရှိတော်မူသည်၊ ထိုအခါ ဆရာတော်မှာ သက်တော် ၆၉-နှစ် ရှိတော်မူနေပြီ ဖြစ်လေသည်။

## ဆရာတော်၏ တပည့်များ

ဆရာတော်သည် ဂန္ထန္တရ အဝဝကို မပြတ် ချပို့ရာ၌ နည်းပေးကောင်းလှသဖြင့် ဂန္ထန္တရ အဝဝ၌ ကျွမ်းကျင် လိမ်မာတတ်မြောက်သော တပည့်ပေါင်းမြားမြောက်စွာ ပေါ်ထွန်းခဲ့သည်။ ထိုဘပည့်များအနက်—

၁။ တိုတ်တော် ဆရာတော် အရှင်လက္ခဏမဟာထေရ်

၂။ မကုဋ္ဌာရာမတိုက် ဆရာတော် အရှင်ခေမိန္ဒမဟာထေရ်

၃။ ရွှေရေးဆောင်တိုက် မိုင်းခိုင်းဆရာတော် အရှင်ပဏ္ဍိတမဟာထေရ်

၄။ တောင်ခွင်သာသနာပိုင် ဆရာတော် အရှင်ဝိသုဒ္ဓမဟာထေရ်

၅။ လယ်တီဆရာတော် အရှင်ဉာဏမဟာထေရ်—

စသည်တို့သည် စံကျောင်းဆရာတော်၏ ထင်ရှားသော တပည့်များ ဖြစ်ကြသည်။

ပခုက္ကူ သံပုံစေတီတောရ မူတင် ၁၃-ပါးဆောင် ဆရာတော် ဦးကြည်မဟာထေရ်မြတ်ကြီးသည်လည်း စံကျောင်းဆရာတော်၏ တပည့်ဖြစ်သည်၊ စံကျောင်းဆရာတော် ခေတ်ကောင်းစဉ်က သာသနာတော်၌ ကျမ်းဂန် ကျွမ်းကျင် တတ်မြောက်ကြသော ပညာရှင် အများစုတို့မှာ စံကျောင်းဆရာတော်ထံ တပည့်ခံဘူးသူများသာ ဖြစ်ကြောင်း—

"သာသနေ ဒါနိ ယေနေကော၊ ဓမ္မဝိနယကောဝိဒါ။
ယဿ ပဘာဝနိဗဒ္ဓါ၊ သဗ္ဗေ တေ ပါယသော ဇနာ"—

ဟူသော ဂါထာဖြင့် ပါရမီဒီပနီနိဂုံး၌ လယ်တီဆရာတော် ဖော်ပြခဲ့သည်။

## ကျမ်းဂန်ပြုစုတော်မူခြင်း

ဆရာတော်ပြုစုခဲ့သော ကျမ်းများမှာ—

၁။ စူဠဝဂ္ဂပါဠိတော်နိသျ

၂။ ဓမ္မသင်္ဂဏီပါဠိတော်နိသျ

၃။ ဝိနိစ္ဆယကျမ်း—စသည်တို့ ဖြစ်ကြလေသည်။

## ပျံလွန်တော်မူခြင်း

ဤသို့ဖြင့် သာသနကိစ္စတာဝန်ကို အားသွန်ခွန်စိုက် ထမ်းဆောင်တော်မူခဲ့သော ဘွဲ့တံဆိပ်တော်နှစ်ထပ်ရ စံကျောင်းဆရာတော်ဘုရားကြီးသည် ၁၂၅၀-ပြည့်နှစ် တော်သလင်းလဆန်း ၈-ရက်နေ့တွင် ဘဝနတ်ထံ ပျံလွန်တော်မူသည်။

## သံဝေဂယူဘွယ်

ဇာတိဖြင့် ရှေးဦးစွာ ဆက်သွယ် စတင်ခဲ့သော သတ္တဝါသည် ဗုတေ သေလွန်ရန်အတွက် ရှေသို့သာ ချီတက်သွားရသည်၊ နောက်သို့ ဆုတ်ရိုး ထုံးစံကား မရှိပေ။

ယမေကရတ္တိံ ပဌမံ၊ ဂဗ္ဘေ ဝသတိ မာဏဝေါ။
အဗ္ဘုဋ္ဌိတောဝ သော ယာတိ၊ သ ဂစ္ဆံ န နိဝတ္တတိ။

(ဇာတကပါဠိ၊ ပဌမ၊ ၃၅၃)။

ပခုက္ကူခရိုင် ရေစကြိုမြို့

# ဂူဖြူတောရဆရာတော်ဘုရားကြီး

ဂူဖြူတောရဆရာတော်ဘုရားကြီးသည် ရွှေကျင်ဂိုဏ်း၌ ထင်ရှားသော ဆရာတော်တပါး ဖြစ်တော်မူသည်၊ ဝိနည်းကျမ်းကျင်မှုနှင့် ဓုတင်ဆောင်မှုအရာတွင် မှတ်တမ်းတင်ထိုက်သော ဆရာတော်တပါးပါပေတည်း။

## ဖွားမြင်တော်မူခြင်း

ဆရာတော်သည် ရေစကြိုမြို့အနောက်မြောက် ၃-မိုင်ခန့်ကွာသော သာစည်ရွာတွင် အဘ ဦးထပ် အမိ ဒေါ်ငို-တို့မှ ၁၁၉၀-ပြည့်နှစ်တွင် ဖွားမြင်တော်မူသည်၊ ရှင်ရဟန်းဘွဲ့မှာ အရှင်မေဓာဖြစ်၍ ငယ်စဉ်က ကျောက်ခတ်ရွာ သရက်တောဆရာတော်ထံတွင် ပညာသင်ကြားခဲ့သည်၊ ရဟန်းဖြစ်ပြီးသည့်နောက်တွင် ဓမ္မပဒမဟာဋီကာ စသည့် ကျမ်းများစွာကို ပြုစု၍ အလွန်ထင်ရှားသော ဆရာတော် ဦးဝရသမ္ဘောဓိ-ထံ ဆက်လက်ပညာသင်ကြားခဲ့သည်၊ အရှင်မေဓာသည် အင်းဝမြို့ ဗားကရာဆရာတော်, နန်းကျောင်းဆရာတော်တို့ ထံ၌လည်း ပညာသင်ကြားခဲ့သေးသည်။

## ဝိသုဒ္ဓိမဂ်, ဝိနည်း ၅၂-ခေါက်

ဆရာတော်သည် ပိဋကတ်၌ ကျမ်းကျင်တတ်မြောက်သော ဆရာတော်တပါး ဖြစ်သည်၊ သို့ရာတွင် ပဋိပတ်ဝိနည်း၌ လွန်စွာလေးမြတ် ဆန္ဒတော်ထက်သန်သဖြင့် ဝိသုဒ္ဓိမဂ်နှင့် ဝိနည်းပိဋကတ်ကို ချပို့ရာ ၅၂-ခေါက်တိုင်မြောက်ကြောင်း ရွှေကျင်နိကာယသာသနာဝင်အရ သိရသည်။

## ဆရာတော်၏ ဓုတင်ဓရဂုဏ်

ဆရာတော်ဘုရားကြီးသည် ပိဏ္ဍပါတ်ဓုတင်, တိစီဝရိက်ဓုတင်, အာရညကင်ဓုတင်, သပဒါနစာရိက စသော ဓုတင်များကို အမြဲဆောက်တည်တော်မူသည်၊ သက်တော် ၉၁-နှစ် သိက္ခာတော် ၇၂-ဝါရတွင် ပျံလွန်တော်မူရာ ပျံလွန်ခါနီး ၁၁-ရက်မျှသာ ပိဏ္ဍပါတ်ဓုတင် ပျက်တော်မူသည်ဟု သိရသည်။

ထို့ကြောင့် ဆရာတော်အား—

“ပိဏ္ဍပါတီ သာတတိကော၊ ဥဋ္ဌာပတ္တာဂတေ ရတော။
ကုလေ အနုပလဂ္ဂေါ စ၊ ဂူဖြူသမဏာပုင်္ဂဝေါ”—

စသည်ဖြင့် ကာဠိဂေါဓာပုတ္တဘဒ္ဒိယထေရ်အလား မှတ်သားသင့်လေသည်။

**ခေါင်းပါးစွာ ကျင့်တော်မူခြင်း**

ဂူဖြူတောရဆရာတော်သည် ထီးမဆောင်း,ယပ်မဆောင်ပဲ ထန်းရွက်အတိုင်းသာ ကိုင်ကောင်းရုံမျှ ပြုပြင်၍ ကိုင်တော်မူသည်၊ ဆွမ်းခံရာမှရသော ဆန်ဖြူဆန်ကောင်း ဆွမ်းကို သံဃာတော်အား လှူဒါန်း၍ မိမိမူ ပြောင်းဆံဆွမ်းကို သုံးဆောင်သည်ဟု သိရသည်။

# တလိုင်းကုန်းဆရာတော်

## (အရှင်ဝိမလမဟာထေရ်)

### ဖွားမြင်တော်မူခြင်း

တလိုင်းကုန်းဆရာတော် အရှင်ဝိမလမဟာထေရ်သည် သာသနာ့ဝင်တွင် မှတ်တမ်းတင်ထိုက်သော မဟာထေရ်မြတ်တပါး ဖြစ်ပေသည်၊ ဆရာတော်သည် ပခန်းကြီးမြို့အရှေ့ တလိုင်းကုန်းရွာ၌ ၁၂၁၉-ခုနှစ်တွင် ဖွားမြင်ခဲ့သည်၊ ဆရာတော်၏ ကလေးနာမည်မှာ မောင်ရွှေအင်း ဖြစ်လေသည်၊ ဆရာတော်သည် ဝိစိတ္တာရုံ "တိလောကာလင်္ကာရ သာသနဇောတ မဟာဓမ္မ ရာဇာဓိရာဇဂုရု" ဆရာတော်၏ အန္တေဝါသိက တပည့်ရင်းဖြစ်သည်၊ ဆရာတော်သည် နေရင်းရွာ တောင်ဖက် အောင်မြေဘုံသာကျောင်းတိုက်၌ ကြာမြင့်စွာ သီတင်းသုံးကာ များမြောက်စွာသော သံဃာတော်တို့အား စာပေချပို့တော်မူသည်၊ ဆရာတော်သည် စာပေကျမ်းဂန်၌ လွန်စွာ ကျွမ်းကျင်တတ်မြောက်တော်မူသည်၊ ဆရာတော်သည် ဥပမာ,ဥပမေယျ စကားပရိယာယ်လည်း ကြွယ်ဝတော်မူသည်၊ ဆရာတော်သည် ဆရာတော်၏ အကုံရဋီကာ၌ "မြေသည် မြေအပြင်၌ ကွေ့ကောက်သော်လည်း တွင်းသို့ ဝင်သောအခါ ဖြောင့်ဖြူးသကဲ့သို့ ပရမတ္ထတရားတို့သည် အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်း, သင်္ဂြိုဟ်ကျမ်း၏ ဋီကာတို့၌ ကွေ့ကောက်ခက်ခဲ၍ နေသော်လည်း အကုံရဋီကာ၌ လွယ်ကူဖြောင့်စင်း ပေါ်လွင်ရမည်"ဟု ကျမ်းအစ၌ ဖော်ပြထားသည်၊ ၎င်းကျမ်းသည် လယ်တီဆရာတော်က ဋီကာကျော်ကို ပြင်ဆင်သည့်အနေဖြင့် ပရမတ္ထဒီပနီကို ရေးသားရာတွင် တလိုင်းကုန်းဆရာတော်က ဋီကာကျော်ဖက်မှ ထောက်ခံရှေ့နေလိုက်သောကျမ်း ဖြစ်လေသည်။

### ပါဠိကျမ်းပြုပုဂ္ဂိုလ်

ဆရာတော်သည် နိယံအရေးအသားလည်း ဝါသနာပါသည်၊ ဆရာတော်ရေး မင်္ဂလာကျော်ခေါင်နိယံမှာ အပုဒ်ပေါင်း ၅၁၀-ပုဒ်ရှိသည်၊ ဆရာတော်သည် အတ္ထနီတိခေါ် သဒ္ဒါအနက်ယူဟန်ကျမ်းကိုလည်း ရေးသားခဲ့သည်၊ ၎င်းပြင် ကဝိပိယကျမ်းကိုလည်း ရေးသားခဲ့သည်၊ ကဝိပိယကျမ်း၌ အနုသန္ဓိ, နိဒ္ဒေသ တို့ဖြင့် တန်ဆာဆင် ရေးသားထားသဖြင့် အဖိုးတန် ပါဠိကျမ်းငယ်ကလေး ဖြစ်သည်၊ ဆရာတော်သည် ပါဠိကျမ်းတတ် ပညာရှိပုဂ္ဂိုလ်တဆူလည်းဖြစ်သဖြင့် ဝါကျမဏ္ဍနီ ကျမ်းကိုလည်း ပါဠိဘာသာဖြင့် ရေးသားခဲ့ရာ ကျမ်းဦးအစ၌—

ဝါကျာ ဘေဒဝါဒီနံ၊ ပဝရံ အဘိဝါဒိယ။
နိဒဿနသုသံယုတ္တံ၊ ကရိဿံ ဝါကျမဏ္ဍနိံ—

စသည်ဖြင့် ဖော်ပြထားလေသည်။

## သဒ္ဒဘေရီကျမ်း

ဆရာတော်သည် သဒ္ဒဘေရီအမည်ရှိသော ကျမ်းကိုလည်း ရေးသားခဲ့သည်၊ ၎င်းကျမ်းသည် စာအခိပ္ပါယ်ပြော ချပို့သူများအတွက် လွန်စွာကျေးဇူးပြုမည့် ကျမ်းဖြစ်သည်။ ၎င်းသဒ္ဒဘေရီကျမ်း၌—

၁။ ပဏာမအဌကက ၂။ သမ္ဗန္ဓဆက္က
၃။ ဒသာနပဥ္စက ၄။ ဌပနာပဥ္စက
၅။ အန္တတ္ထ၊ ၆။ ဗာဟျတ္ထ၊
၇။ ပုစ္ဆာပဥ္စက ၈။ ဥဒ္ဒေသသတိက
၉။ ပကိဏ္ဏကဘေဒ—

ဟု မာတိကာများကို စဉ်၍ အကျယ် ရေးသားထားပေသည်။

## ကျမ်းဂန်ပြုစုတော်မူခြင်း

တလိုင်းကုန်းဆရာတော် ရေးသားတော်မူခဲ့သော ကျမ်းစာများကို သိသမျှ ဖော်ပြရသော်—

၁။ အဋ္ဌသာလိနီအဖွင့် အတုလဋီကာကျမ်း

၂။ ကင်္ခါဝိတရဏီအဖွင့် ဝိနယဗုဒ္ဓိဋီကာကျမ်း

၃။ သဒ္ဒတ္ထဘေဒစိန္တာ မဟာဋီကာကျမ်း

၄။ အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်း၏ သရုပ်စသည်ပြ ပရမတ္ထဗုဒ္ဓိကျမ်း

၅။ ဒိဋ္ဌိဝိသုဒ္ဓိကထာကျမ်း

၆။ ပရမတ္ထဂမ္ဘီရကျမ်း

၇။ ဓမ္မသင်္ဂဏီမာတိကာအဖွင့် ပသန္နဝတီကျမ်း

၈။ ဝစနတ္ထကိတ္တိကျမ်း

၉။ အက္ခရမဏ္ဍနီကျမ်း

၁၀။ ရူပစိန္တာကျမ်း

၁၁။ အတ္ထနီတိကျမ်း

၁၂။ ကဝိပိယကျမ်း

၁၃။ သဒ္ဒဘေရီကျမ်း

၁၄။ ကဝိစန္ဒြကျမ်း

၁၅။ ဆန်းအလင်္ကာကျမ်း

၁၆။ မင်္ဂလာကျော်ခေါ်နိဿယံကျမ်း

၁၇။ မင်္ဂလာကျော်ခေါင်နိသယံအဖြေကျမ်း—

စသည်တို့ ဖြစ်ကြပေသည်။

## ဆရာတော်ဆုတောင်း

ဆရာတော်သည် ယေဘုယျအားဖြင့် ကျမ်းစာတို့၏နိဂုံး၌ "ကျမ်းစာရေးရ မြတ်ပုညကြောင့် အရိမေတ္တေယျဘုရားလက်ထက်တွင် ထက်မြက်နက်နဲသော ဉာဏ်ပညာနှင့် ပြည့်စုံသော ရဟန္တာသခင်အရှင်မြတ် ဖြစ်၍ သာသနာ့ အညစ် အကြေး ဘေးရန်ကို ရှင်းလင်းသုတ်သင်ရပါလို၏" ဟု ဆုတောင်းခဲ့ကြောင်းကို-

"ဣမိနာ မေတ္တေယျကာလေ၊ တိက္ခဂမ္ဘီရဉာဏဝါ။
ရဟာ ဟုတွာ သုသောဓေယျံ၊ သာသနမလကဏ္ဍကံ"—

ဟူသော အက္ခရဋီကာ,ဘေဒစိန္တာမဟာဋီကာ-စသည်တို့၏ နိဂုံးဖြင့် သိနိုင်သည်။

## ပုံ့လွှန်တော်မူရပြီ

ဆရာတော်သည် ၁၂၈၀-ပြည့်နှစ်လောက်တွင် အောက်မြန်မာနိုင်ငံပုသိမ်မြို့သို့ သာသနာရေးကိစ္စတခုဖြင့် ကြွရောက်ခိုက် ရေချိုးမှား၍ ပုံ့လွှန်တော်မူသည်မှာ သံဝေဂ-ရစရာ ကောင်းလှပေတော့သည်။

## သံဝေဂယူဘွယ်

အချို့သော ရှင်ဘုရင်တို့သည် ဆင်,မြင်း,ရထား,ခြေသည်အားဖြင့် စစ်အင်္ဂါ လေးပါးရှိသော အလွန်ကြောက်မက်ဖွယ်ကောင်းသည့် တဖက်စစ်သည်တော် တပ်သားအပေါင်းကို အောင်စွမ်းနိုင်သော်လည်း သေမင်း၏ စစ်တပ်ကိုကား အောင်မြင်ရိုး ထုံးစံ မရှိပါချေ၊ အားလုံး အရှုံးပေး လက်မြှောက်ကြရသည်။

စတုရင်္ဂိနိံ သေနံ သုဘိံသရူပံ၊
ဇယန္တိ ရဋ္ဌာဓိပတီ ပသယှ။
န မစ္စုနော ဇယိတုံ'မုဿဟန္တိ။

(အယောဃရဇာတ်၊ဇာတကပါဠိ၊ပဌမ၊၃၅၄)

# ဆရာတော် အရှင်ဝိမလာစာရ

## ဖွားမြင်တော်မူခြင်း

ဆရာတော်သည် တချိန်က မန္တလေးမြို့၌ စာချအကျော် ဆရာတော်အဖြစ် ထင်ရှားတော်မူခဲ့သည်၊ ဆရာတော်သည် ပခုက္ကူခရိုင် ပခန်းကြီးနယ် ထန်းဘို ကျေးကန်ရွာ၌ သက္ကရာဇ် ၁၂၃၈-ခုနှစ်တွင် ဖွားမြင်တော်မူခဲ့သည်၊ ဆရာတော် သည် အရွယ်ရောက်သော် ရှင်ရဟန်းပြုခဲ့သည်၊ ဘွဲ့တော်မှာ ဗုဒ္ဓဟူးသားဖြစ်သည့် အလျောက် "အရှင်ဝိမလ"ဟု ဥပဇ္ဈာယ် ဆရာတော်က အမည်ပေးသည်၊ ဆရာတော်သည် မန္တလေးမြို့ တောင်ပြင် ဒက္ခိဏာရာမဘုရားကြီးတိုက်၌ ကြာမြင့် စွာ ပညာသင်ကြားတတ်မြောက်ခဲ့၍ ဘုရားကြီးတိုက်၌ ဂန္ထန္တရ အဝဝကို ချပို့ တော်မူသည်။

## တောင်သမန်တိုက်သို့

ဆရာတော်သည် မန္တလေးမြို့ အနောက်ပြင် တောင်သမန်တိုက်မှ ပင့်သဖြင့် ကြွရောက်၍ ကြာမြင့်စွာ စာပေပို့ချတော်မူရာ အနောက်ပြင်၌ စာချကောင်း၍ စာလိုက်များသော ဆရာတော်အဖြစ် လွန်စွာ ကျော်ကြားတော်မူသည်။

## ကျမ်းဂန် ပြုစုခြင်း

ဆရာတော်သည် စာချရင်း အားလပ်သော အခါများ၌ အနာဂတ်တွင် အကျိုးများမည့်—

၁။ အလင်္ကာဋီကာနိသျသစ်

၂။ ရုပ်ဝိထိဆိုရိုး—

အစရှိသော ကျမ်းတို့ကိုလည်း ရေးသား စီရင်တော်မူခဲ့သည်။

## ပြန်လွန်တော်မူပြီ

ဆရာတော်သည် သက်တော် ၆၅-နှစ်အရ ၁၃၀၃-ခုနှစ်တွင် စွဲကပ်လာသည့် ဆီးရောဂါဝေဒနာကို မတွန်းလှန်နိုင်တော့ပဲ တောင်သမန်တိုက်၌ပင် ပျံလွန် တော်မူသည်။

## သံဝေဂယူဘွယ်

"ဘဝသစ်၌ဖြစ်ရခြင်းသည် ဆင်းရဲလှချေ၏၊ ခန္ဓာကိုယ်ပျက်ပြုန်း၍ အသက်ဆုံးရှုံးရခြင်းသည်လည်း ဆင်းရဲတွင်း နက်လှချေ၏"

ဒုက္ခာ ပုနပ္ပဝေါ နာမ၊ သရီရဿ စ ဘေဒနံ။

(ဗုဒ္ဓဝံသပါဠိ၊ ၃၁၄)

## ဆရာတော် အရှင်သီလဝံသ

ဘုရားကြီးတိုက် ပေတောကျောင်း ဆရာတော် **အရှင်သီလဝံသသည်** ဆရာတော် “**အရှင် ဝိမလာစာရ**”၏ တပည့်ရင်း ဖြစ်သည်၊ ဆရာတော် အရှင်သီလဝံသသည်လည်း ပခုက္ကူမြို့ ပခန်းကြီးနယ် ပန်းစွာရွာ၌ ၁၂၆၁-ခုနှစ်တွင် ဖွားမြင်သော ဆရာတော် ဖြစ်သည်၊ ဆရာတော်သည် သကျသီဟမူလဓမ္မာစရိယနှင့် အစိုးရဓမ္မာစရိယလည်း ဖြစ်သည်၊ ဒက္ခိဏာရာမတိုက်တွင် ထင်ရှားသော ဆရာတော်ဖြစ်၍ စာပေပို့ချတော်မူလျက် ရှိပေသည်။

---

# နိဂုံး

ထွေ့ာဝတာ စ ဂန္ထော ယော၊
နိဋ္ဌိတော သာဓုဝဏ္ဏိတော။
နိရန္တရံ ဥဒိက္ခန္တု၊
ဇိနသာသနမာမကာ။

စ၊ ပခုက္ကူ သာသနာဝင် စုံလင်ပြည့်ဆုံး ကမ္ပတ်ဖုံး၍ နိဂုံးအုပ်ပါတော့အံ့။ ထွေ့ာဝတာ၊ ဤ ဆိုအပ်ပြီးသမျှ ပမာဏဖြင့်။ သာဓုဝဏ္ဏိတော၊ ပညာရှင်ပေါင်း သူတော်ကောင်းတို့သည် နှစ်ထောင်းဝမ်းသာ ထောမနာအပ်သော။ ယော ဂန္ထော၊ **ပခုက္ကူ သာသနာဝင်** မည်တွင်တောက်လျှမ်း အကြင် ပခုက္ကူသာသနာ့ သမိုင်းကျမ်းသည်။ နိဋ္ဌိတော၊ အောင်လံစိုက်ဆောက် အပြီးသို့ရောက်ခဲ့ပြီ။ တံ ဂန္ထံ၊ ပခုက္ကူ သာသနာဝင် မည်တွင် တောက်လျှမ်း ထိုသည့်ကျမ်းကို။ ဇိနသာသနမာမကာ၊ ဘုရားမြတ်စွာ သာသနာကို လွန်စွာချစ်ခင် သူတော်စင်တို့သည်။ နိရန္တရံ၊ အမြဲနိစ္စ ထာဝရ။ ဥဒိက္ခန္တု၊ သေချာစေ့ငု ကြည့်ရှုကြပါကုန်လော့။

ပ-မ-ဗ-သ-စ—၃၂၄—၂၁-၁၂-၆၇—၃၀၀၀။ (၁)